**ပုံနှိပ်မှတ်တမ်း**

စာမူခွင့်ပြုချက်အမှတ် - [၅၀၁၆၂၁၀၅၁၁]

မျက်နှာဖုံးခွင့်ပြုချက်အမှတ် - [၅၀၀၈၆၁၀၆၀၇]

※

ပုံနှိပ်ခြင်း

ပထမအကြိမ်၊ အေးအေးစာပေ၊ (၁၉၆၅-ခု)၊ အောက်တိုဘာ

ဒုတိယအကြိမ်၊ အမြွာညီနောင်စာပေ၊ (၂၀၀၆-ခု)၊ စက်တင်ဘာလ

※

မျက်နှာဖုံးပန်းချီ - သန်းမြင့်အောင်

စီစဉ်သူ - ကြည်နိုင်

ကွန်ပျူတာစာစီ - w!zard

သိန်းသိန်းအေး၊ သီသီထွဏ်း

※

အတွင်းဖလင်

'ပုံရိပ်ရှင်'

※

ထုတ်ဝေသူ

ဦးသန်းဆွေ 'စစ်သည်တော်စာပေ'

အမှတ်-၁၁၃၁/က၊ ဥယျာဉ်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။

※

မျက်နှာဖုံးနှင့်အတွင်းပုံနှိပ်

ဦးဇော်မင်း "w!zard ပုံနှိပ်တိုက်"

၁၉၇၊ ၃၃-လမ်း(အထက်)၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

※

စာအုပ်ချုပ် - ကိုမြင့်

အုပ်ရေ - ၅၀၀

ဖြန့်ချိရေး - အမြွာညီနောင်စာပေ

တန်ဖိုး - ၂၀၀၀ ကျပ်

## မြန်မာပြည်တိုက်ပွဲများနှင့် ယနေ့လူငယ် ကိုယ့်ဘက်မှဖြည့်၍ကြည့်တတ်စေ

ဤလဆန်းတွင် ကျွန်တော်တို့ စာပေလောကသည် ကျောက်တိုင်သစ်စိုက်ပစ်လိုက်လောက်အောင် စာအုပ်သစ်များ အများကြီးထွက်လိုက်ကြသည်။

စာအုပ်သစ်များတွင် အမယ်လည်း အတော်စုံနေပါပေ၏။ နိုင်ငံရေး၊ အချစ်ရေး၊ စုံထောက်ရေး၊ ရယ်ရေး မောရေး၊ မှတ်တမ်း၊ ဘာသာပြန်စာ၊ မိုးစာ၊ အဋ္ဌုပ္ပတ္တိစာ၊ လင်္ကာစာ၊ ကဗျာစာ စသည်စသည် အလွန်အမည်စုံစွာ ထွက်လေ၏။

ထိုထဲတွင် ဘာသာပြန်များ၌လည်း အမျိုးမျိုးဖြစ်၏။ ဝတ္ထုရော မှတ်တမ်းရော စုံလှသည်။ ကျွန်တော့်မိတ်ဆွေ စာရေးဆရာတစ်ဦးဆိုလျှင် နိုင်ငံခြားစစ်မှတ်တမ်းများကို အများဆုံးဘာသာပြန်လျက်ရှိသည်။ ထိုထိုစစ်မှတ်တမ်းများအနက် မြန်မာပြည်စစ်မြေပြင်မှတ်တမ်းများကို စာဖတ်သူတို့က အတော်ကြီးစိတ်ဝင်စားမှု ပြင်းထန်နေကြသည်ကို တွေ့ရသည်။

လူငယ်လူရွယ်နှင့် ကျောင်းသူကျောင်းသား မြောက်မြားစွာသည် ထိုထိုစစ်မှတ်တမ်းများ အလွန်ဖတ်နေကြသည်ကို တွေ့ကြရသည်။ အထူးသဖြင့် မြန်မာပြည်စစ်မြေပြင်မှတ်တမ်းများကို လူငယ်တို့က ပိုမိုစိတ်ဝင်စားပြီး စာအုပ်ချ၍ ရေးကြီးခွင့်ကျယ် ဆွေးနွေးလား၊ ပြောလားဆိုလားတွေ လုပ်ကြသည်ကိုပင် မြင်ရသည်။

လူငယ်တို့ စာဖတ်များလာကြခြင်း၊ စာကို စိတ်ဝင်စားတကြီးလုပ်ပြီး ဆွေးနွေးပြောဆိုတတ်လာခြင်းကို ကျွန်တော်တို့သည် ဝမ်းသာဝမ်းမြောက်ရှိမိပါသည်။ အားရကျေနပ်ပါသည်။ သို့သော်...အများအားဖြင့် သူတို့ စိတ်

ဝင်စားတကြီး ဆွေးနွေးပြောဆိုလောက်အောင် ကြိုက်နေကြသည်မှာ "နိုင်ငံခြားတပ်များ၏ နိုင်ငံခြား စစ်တပ်မှတ်တမ်းများ" ဖြစ်နေသည်ကို တွေ့ရခြင်း အတွက်မှ ကျွန်တော်သည် တစ်မျိုးခေါင်းကြီးချင်သွားမိရပြန်ပါတော့သည်။

တစ်နေ့ဆီက တွေ့မိသော လူငယ်တစ်စုဆိုလျှင် မြန်မာပြည် စစ်မြေပြင်တိုက်ပွဲ၏ နိုင်ငံခြားတပ်များ မှတ်တမ်းကို အကြီးအကျယ် အားရပါးရ အသံများဖြင့် ပြောဆိုနေကြသည်ကို တွေ့ရသောအခါ ကျွန်တော်သည် အန္တရာယ်တစ်ခုလိုပင် လန့်သွားမိရပါတော့သည်။

ထိုမှတ်တမ်းမှာ မြန်မာပြည်သို့ အင်္ဂလိပ်တပ်များပြန်ဝင်ပုံ၊ ပြန်တိုက်ပုံ၊ မှတ်တမ်းဖြစ်သည်။ စင်စစ်အားဖြင့် မြန်မာပြည်ကို အင်္ဂလိပ်တပ်များ ပြန်လည်သိမ်းပိုက်ရာတွင် ကျွန်တော်တို့ မျိုးချစ်တော်လှန်ရေးသည် အဓိကကဏ္ဍမှ ပါဝင်ခဲ့သည်။

ထိုထိုသော နိုင်ငံခြားတပ်များ၏ မှတ်တမ်းများကို ယနေ့လူငယ်တို့ အထင်တကြီး ဖြစ်လွန်းသွားကြမည်ဆိုလျှင် (သို့ အထင်ကြီးမိသည်နှင့်အမျှ) မြန်မာ့မျိုးချစ်တော်လှန်ရေးတိုက်ပွဲအပိုင်းကို ယနေ့ မြန်မာလူငယ်များကိုယ်တိုင် အထင်တသေးတွေ ဖြစ်သွားတော့မည့် အခြေအနေမျိုးအထိ ကျွန်တော်တို့ လှမ်းတွေးနေမိရပါသည်။ ဤသို့ဖြစ်လာပါကလည်း ကျွန်တော်တို့ နိုင်ငံအဖို့ရော လူငယ်များအဖို့ရော လုံးဝမကောင်းသော အသွင်အပြင်ပါဟု ဆိုလိုက်ရပါလိမ့်မည်။

ကျွန်တော်တို့ မျိုးချစ်တော်လှန်ရေးတပ်များနှင့် အင်္ဂလိပ်တပ်များ လက်တွဲပြီး ဂျပန်ကိုတိုက်ခိုက်ခဲ့ရာတွင် ဟိုစဉ်အချိန်ကတည်းက ပြဿနာ အတော်များခဲ့ရသည်။ မျိုးချစ်တော်လှန်ရေးကို သူတို့က နေရာမပေးချင်။ မျိုးချစ်တော်လှန်ရေးတပ်များ၏ အောင်မြင်မှုများကို သူတို့က လူသိရှင်ကြား များစွာ မဖော်ပြချင်။ မျိုးချစ်တော်လှန်ရေး အင်အားစုများ၏ အောင်မြင်မှုကို ဖော်ပြလေလေ သူတို့အဖို့ သေးသိမ်စေလေလေဟု ယူဆခဲ့ကြသည်။ ထို့ကြောင့် မတတ်သာသောနေရာမျိုးကျမှ သူတို့သည် မြန်မာ့တော်လှန်ရေးအပိုင်းကို စကားထဲ ထည့်ပြောခဲ့သည်။

သူတို့ ဘယ်မျှနှိမ်သည်ကို ဗိုလ်ချုပ်အောင်ဆန်းကိုယ်တိုင် နေသူရိန် အစည်းအဝေးကြီး၌ ထည့်သွင်းပြောဆိုသွားခဲ့ဖူးသည်။ လန်ဒန်တိုင်းသတင်းစာကြီး၏ ခေါင်းကြီးပိုင်းအပါအဝင် ကမ္ဘာ့သတင်းစာများတွင် မျိုးချစ်တော်လှန်ရေး တပ်များအကြောင်းကို ဖော်ပြချီးကျူး ရေးသားခဲ့ကြပါ၏။ သို့သော်

ဖော်ပြသင့်သလောက် မဖော်ပြဘဲ မတတ်သာသည့် အကွက်များလောက်သာ ထုတ်ဖော်ရေးသားကြခြင်းဖြစ်ကြောင်း ဗိုလ်ချုပ်အောင်ဆန်းက နေသူရိန် အစည်းအဝေးကြီးတွင် လူထုသို့ တင်ပြခဲ့လေသည်။

ဗမာ့တပ်မတော် ဦးဆောင်သော မျိုးချစ်အင်အားစုသည် ဂျပန်များကို အထိနာအောင် ဘယ်မျှအထိ တိုက်ခိုက်နိုင်ခဲ့ကြသနည်း။ ဗမာ့တပ်မတော်၏ လက်ချက်ဖြင့် ဂျပန်ဗိုလ်ချုပ်ကြီးသုံးဦးအပါအဝင် ဂျပန်စစ်အရာရှိ အမြောက်အမြားကို သုတ်သင်နိုင်ခဲ့သည်။ တပ်မတော်တိုက်ခိုက်၍ ဂျပန်စစ်သား နှစ်သောင်းကျော် ကျဆုံးပြီး ဂျပန်သုံ့ပန်းပေါင်း သုံးရာခန့် ဖမ်းဆီးရမိခဲ့သည်။ ကမ္ဘာ့စစ်သားမျိုးစုံအနက် ဂျပန်စစ်သားကို သုံ့ပန်းအဖြစ် ဖမ်းမိရန် မလွယ်။ ထို့ကြောင့် ဗမာ့တပ်မတော်က သုံ့ပန်းပေါင်း သုံးရာလောက်ရအောင် ဂျပန်ကို ဖမ်းနိုင်ခဲ့ခြင်းမှာ အလွန်ထူးခြားလှပါသည်ဟု အင်္ဂလိပ်ဗိုလ်ချုပ်များ ကိုယ်တိုင်က ထိုစဉ်အခါက နှုတ်ဖြင့် (စာဖြင့်မဟုတ်) ချီးကျူးခဲ့ကြဖူးသည်။

သူတို့၏ စိတ်စေတနာကို ထိုစဉ်ကတည်းက ကျွန်တော်တို့ များစွာသိခဲ့ရသည်။ သူတို့သည် မတတ်သာ၍ နှုတ်ဖြင့်ချီးကျူးကြသော်လည်း စာဖြင့်မူ တတ်နိုင်သမျှ ရှောင်တတ်သည်။ မှတ်တမ်းအဖြစ်ခံကြသူများ မဟုတ်ချေ။ မန္တလေးမြို့ အပါအဝင် အထက်မြန်မာပြည်ကို လျင်လျင်မြန်မြန်ကြီး သိမ်းပိုက်နိုင်ခဲ့ခြင်းမှာ ဗမာ့တပ်မတော်မှ ဗိုလ်မှူးကြီးဗထူး၏ တိုက်ခိုက်မှုကြောင့် ဖြစ်ကြောင်း အင်္ဂလိပ်တို့၏ အမှတ်(၁၄)တပ်မှူး ဗိုလ်ချုပ်ကြီး ဆာဝီလျံစလင်း ကိုယ်တိုင်က ရေဒီယိုမှ ချီးကျူးဝန်ခံလိုက်သည်။ သို့သော် စာဖြင့်ကား ဤသို့ ပြတ်ပြတ်သားသား ဝန်ခံရေးသားခြင်း မပြုပါချေ။

ထို့ပြင် ရန်ကုန်မြို့နှင့်တကွ အောက်မြန်မာပြည်ကို သိမ်းပိုက်ရာတွင်လည်း ဗမာ့တပ်မတော်၏ လက်ချက်ကြောင့် ဂျပန်တပ်များ ဘာမှဖျက်ဆီးနှောင့်ယှက်ခြင်းမပြုဘဲ ထွက်ပြေးကြကြောင်း၊ သို့ပြေးရင်းလည်း ဂျပန်တပ်များမှာ ဗမာ့တပ်မတော်လက်ချက်ကြောင့် အလွန်အကျအဆုံးများခဲ့ကြောင်း ထိုစဉ်က အင်္ဂလိပ်ဗိုလ်ချုပ်များက ဝန်ခံချီးကျူးခဲ့ကြသည်။ ဤကား ဒုတိယပိုင်းတိုက်ပွဲ ကဏ္ဍ ဖြစ်သည်။

တတိယပိုင်းတိုက်ပွဲကဏ္ဍမှာ ဂျပန်တပ်များသည် ရန်ကုန်မြို့ကို စွန့်လွှတ်ပြီးနောက် စစ်တောင်းမြစ်ဝှမ်းမှ အပြင်းအထန် ခုခံကြပြန်ခြင်း ဖြစ်သည်။ ယင်းစစ်တောင်းမြစ်ဝှမ်းတိုက်ပွဲများတွင်လည်း ဗမာ့တပ်မတော်မှပင် ရွပ်ရွပ်ချွံချွံ တိုက်ခိုက်ခဲ့ကြ၍ ဂျပန်များ၏ နောက်ဆုံးခုခံချက် ပြိုလဲသွားခဲ့ရကြောင်းကို

မဟာမိတ်တပ်များက ဝန်ခံခဲ့ရသေးသည်။ (ထိုအချက်များကို ယနေ့ လူငယ်များသည် ဗိုလ်ချုပ်အောင်ဆန်း မိန့်ခွန်းများကို လေ့လာကြမည်ဆိုလျှင် တွေ့ရှိနိုင်ပါသေးသည်။)

ယင်းအခြေအနေနှင့် တိုက်ပွဲအဖြစ်အပျက်များကား ယနေ့ဆိုလျှင် အနှစ် ၂၀ ရှိခဲ့ပါပြီ။ ထို့ကြောင့် ယနေ့လူငယ်များအနေဖြင့် ထိုအကြောင်းအရာများကို သိမိနိုင်ဖို့မှာ အတန်မျှ လက်လှမ်းဝေးလွန်းနေမည်ထင်သည်။ ကျွန်တော်တို့ကလည်း ထိုအခြေအနေနှင့် အကြောင်းအရာများကို မှတ်တမ်းရေးသားခြင်း၊ စာအုပ်ပြုစုခြင်းများ မပြုလုပ်နိုင်ခဲ့ကြသည်မှာလည်း ကျွန်တော်တို့၏ ညံ့ဖျင်းချက် တစ်ချက်ပင် ဖြစ်ပါတော့သည်။

ယခုနိုင်ငံခြားတပ်များ၏ မှတ်တမ်းများ၊ မြန်မာပြည်တိုက်ပွဲများကို လူငယ်တို့ စိတ်ဝင်စားနေကြသည်။ ဒါတွေဖတ်ခြင်းအတွက် ကျွန်တော်တို့က သီးသီးရင့်ရင့် အပြစ်စကားဆိုလိုသည်တော့မဟုတ်ပါ။ သို့သော် ဗဟုသုတဖြစ်မှု၊ အဆင့်ထက်လွန်၍ အထင်ကြီးလွန်းကြမည်ဆိုလျှင် ကောင်းသောလက္ခဏာ မဟုတ်ပါဟု ကျွန်တော်တို့ပြောလိုပါသည်။ သူတို့၏ မှတ်စုမှတ်တမ်းများကိုမှ အဟုတ်ကြီးတွေထင်မိကြလျှင် ကျွန်တော်တို့ မျိုးချစ်တော်လှန်ရေးတိုက်ပွဲများမှာ လူငယ်တို့စိတ်ဝယ် အလိုလို သေးသိမ်သွားလိမ့်မည်ဖြစ်သည်။ ထို့ကြောင့် သူတို့မှတ်တမ်းများကို ကျွန်တော်တို့လူငယ်များသည် ကြည့်တတ်သောအကြည့်ရှိမှ ဖြစ်လိမ့်မည်ထင်ပါသည်။ သူတို့ထောင့်ကို သူတို့ထဲ ဝင်မကြည့်ဘဲ ကျွန်တော်တို့ဘက်မှ ကိုယ့်ဘာသာရပ်၍ ကြည့်တတ်ရပါမည်။ အထက်တွင် ဖော်ပြခဲ့သော မျိုးချစ်တော်လှန်ရေး ပြောင်းမြောက်မှုများကိုလည်းကောင်း၊ တော်လှန်ရေးတိုက်ပွဲများအပေါ် သူတို့ ဖုံးဖုံးကွယ်ကွယ်ထားခဲ့ကြသော စိတ်ထားများကိုလည်းကောင်း ဖြည့်၍ကြည့်တတ်ရပါလိမ့်မည်။

**သာကဒိုး**

၁–၈–၆၅ နေ့ထုတ် လုပ်သားပြည်သူ့နေ့စဉ်မှ

‘ ဗိုလ်မှူး...ခု...ကျွန်တော်တို့ မြန်မာပြည်ကို လာတိုက်နေတာဟာ ကျွန်တော်တို့ အင်္ဂလိပ် အရင်းရှင်ကြီးတွေရဲ့ ရေနံကုမ္ပဏီတွေက ရတဲ့ အမြတ်တွေကို ကာကွယ်ပေးဖို့ အတွက်ပဲ မဟုတ်လား...’

## အခန်း ( ၁ )

၁၉၄၂ ခု၊ ဖေဖော်ဝါရီလ…

နေ့ရက်ကို အတိအကျ အမှတ်မရတော့။

ကျွန်တော် စီးနင်းလိုက်ပါလာသော မီးရထားအခန်းမှ ပြတင်းတံခါးကို အောက်သို့ဆွဲချ၍ အပြင်သို့ ငေးမျှော်ကြည့်လိုက်မိသည်။

ဖျော့တော့သော အရုဏ်ဦးလင်းရောင်ခြည်အောက်ဝယ် ပေ ၁၁၀၀၀ မြင့်သော ချီလတန်တောင်ထွတ်သည် စိန်တောင်ကြီး တဖျပ်ဖျပ် အရောင် တောက်သလို ထွန်းတောက်နေလေသည်။

ရထားသည် ဘိုလန်တောင်ကြားဆီသို့ ရှေးရှုလျက် ခရုပတ်သလို ပတ်၍ တက်နေသည်။

"ကွေတာ…မင်းဆီကို ကိုယ်လာနေပါပြီကွာ"

ကျွန်တော်သည် တိုးတိုးကလေးပင် ရွတ်ဆိုလိုက်မိ၏။

ကွေတာသည် စစ်ဦးစီးတက္ကသိုလ်ရှိရာ မြို့တည်း။

စွယ်စုံကျမ်းက ကွေတာသည် ဗြိတိသျှအစိုးရတို့ စိုးမိုးပိုင်သသော ဘလူး ချစ်စတန်ပြည်နယ်၏ မြို့တော်။

ကွက်ကော့ဟူသော စကားမှ ကွေတာဟု ရွေ့လျားပြောင်းလဲလာသည်။ တပ်မြို့ဟူသော အနက်ကိုပေးသည်။

ကရာချီမြောက်ဘက်တွင် တည်ရှိ၍ ရထားလမ်းအားဖြင့် ၅၃၆ မိုင် ဝေးသည်။ ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၅၅၀၀ မြင့်သည်။ လူဦးရေ ၆၀၀၀၀ ရှိသည်။ ၁၉၃၅ ခု၊ မေလ ၃၁ ရက်နေ့က တုန်လှုပ်သော

မြေလျှင်ကြီးကြောင့် တစ်မြို့လုံးလိုလို ပျက်စီးသွားခဲ့သည်။ အာဖဂန်နစ်စတန် နယ်စပ်မှ မိုင် ၈၀ ကွာဝေးသည်။ တောတောင်ထူထပ်ရာဒေသဖြစ်သည်။

နွေအခါတွင် အလွန်ပူအိုက်၍ ဆောင်းအခါ အလွန်အေးသည်။ သွေ့ခြောက်ပျင်းရိဖွယ်ကောင်းသော မြို့တည်းဟု ဖွင့်ဆိုထားသည်။

စွယ်စုံကျမ်းက ဖွင့်ဆိုထားသော ကွေတာ၏ မြေမျက်နှာပြင်အသွင်နှင့် ရာသီဥတုမှာ မှန်ကန်သော်လည်း 'သွေ့ခြောက်ပျင်းရိဖွယ်ကောင်းသော မြို့တည်း'ဟူသော မှတ်ချက်မှာ ကျွန်တော့်အတွက် သွက်သွက်လည်အောင် မှားနေတော့သည်။

ကွေတာ၏ ဆောင်းမှာ နှုတ်ခမ်းများကွဲ၊ အသားများ ပတ်ကြားအက်၍ ကွဲသည်အထိ ဆိုးရွားသည်။ ဤဒဏ်ကို ရေချိုးရာတွင် ရေထဲသို့ သံလွင်ဆီ ထည့်၍ ချိုးခြင်းဖြင့် အမျိုးသမီးများက ကာကွယ်သည်ကို တွေ့ရ၏။

ဂရာချီတွင် သုံးပတ်မျှ သောင်တင်နေပြီးနောက် ကွေတာသို့ သင်တန်းတက်ရန် ရောက်လာသော ကျွန်တော်သည် စွယ်စုံကျမ်းက ဖွင့်ဆိုထားသည့် ပျင်းရိခြောက်သွေ့ဖွယ်ကောင်းသော ကွေတာကို မတွေ့ရဘဲ ပျော်စရာ၊ ရွှင်စရာ၊ မြူးစရာတို့ဖြင့် အသက်ဝင်လှုပ်ရှားနေသော ကွေတာကို တွေ့ရ၏။

သို့သော် ခြိမ်းခြောက်လာသော 'စစ်'ကလည်း တစ်ဖက်တွင်ရှိနေသည်။

၁၉၄၀ ခုနှစ်က ကွေတာတွင် ကျွန်တော့်တပ်ရင်းနှင့် အတူရှိနေစဉ်ကပင် စစ်အခြေအနေမှာ တစ်နေ့တခြား ဆိုးရွားလာသည်ကို သတိပြုမိခဲ့၏။

သတ္တုအစအနလောက်ကိုပင် သယ်ယူရန် ဖောက်လုပ်ထားခဲ့သော မီးရထားလမ်းကို ဗြိတိသျှအစိုးရက ပြန်လည်ပြုပြင်လာခဲ့သည်။

ယခုအချိန်တွင် ဂျာမနီက ရုရှကို ထိုးစစ်ဆင်၍ တိုက်ခိုက်လျက်ရှိရာ နာဇီစစ်ဘီးလူးနှင့် ဗြိတိသျှအင်ပါယာကြီးတွင် အတောက်ပဆုံးသော ကျောက်သံ ပတ္တမြားကြီးဖြစ်သည့် အိန္ဒိယအကြားတွင် ပါရှားနှင့် အာဖဂန်နစ်စတန် ပြည်တို့သာ ခြားနားတော့၏။

ထို့ကြောင့် ကြာရှည်လေးမြင့်စွာ ပစ်၍ထားခဲ့သော ရထားလမ်းများကို အပူတပြင်း ပြင်ဆင်နေရပြီး ယခင်က အိုးမကွာ၊ အိမ်မကွာ နေခဲ့ကြရသော အိန္ဒိယတစ်ပြည်လုံးရှိ မြို့စောင့်တပ်များမှ စစ်သည်တော်များမှာလည်း သားပစ်၊ မယားပစ်၍ စစ်ထွက်ကြရပေပြီ။

အိန္ဒိယပြည် အနှံ့အပြားမှ ဗြိတိသျှ စစ်ဘက်ဆိုင်ရာ အရာရှိ၊ အရာခံများ၏ ဇနီး၊ သားသမီးများမှာ အစိုးရ၏ ညွှန်ကြားချက်အရ ကွေတာသို့

ပြောင်းရွှေ့လာကြသောအခါ ယခင်ကပင် သတင်းပလင်း၊ အတင်းအဖျင်း ပေါင်းစုံဖြင့် ပျော်စရာကောင်းလှသော ကွေတာမှာ ပို၍စည်ကားလာတော့၏။

ဤအချိန်တွင်ပင် အာရှ အရှေ့တောင်ပိုင်း၌ စစ်မီးကြီး၊ ဟုန်းခနဲထ၍ တောက်လာကာ ဗြိတိသျှတို့၏ စင်ကာပူခံတပ်ကြီးကို ဂျပန်က သိမ်းယူလိုက်ပြန်သည်။

ညစာစားသည့် ဝတ်စုံကို ဝတ်ပြီးမှ စားပွဲခန်းမဆောင်သို့ ဝင်ရောက်ရှိသည့် အရာရှိများသည် ကာကီရောင်စစ်ဝတ်စုံကို အမြဲဝတ်၍ အသင့်ရှိနေစေရမည် ဟူသော ဗိုလ်ချုပ်ကြီးအော်ချင်လက်၏ အမိန့်က ကျွန်တော်တို့ ကွေတာ တပ်မြို့သို့ ရောက်လာသည်။

စစ်သည် အိန္ဒိယအထိ လာ၍ ဂယက်ရိုက်နေပေပြီ။

သင်တန်းတစ်ပတ်လျှင် ၂ နှစ်ကြာအောင် သင်ကြားနေခဲ့သော စစ်ဦးစီး သင်တန်းကို စစ်အခြေအနေကြောင့် ၅ လခွဲနှင့် အပြီးတက်ရန် သက်ဆိုင်ရာ တို့က ဆုံးဖြတ်လိုက်လေသည်။

သို့သော် သင်ရမည့် သင်ရိုးညွှန်းတမ်းမှာ ၂ နှစ်စာ ညွှန်းတမ်းနှင့် များစွာကွာခြားခြင်းမရှိလှ။

ကျွန်တော်တို့သည် အပြင်းအထန် လေ့ကျင့်သင်ယူကြပေတော့မည်။

သို့ရာတွင် ဗုဒ္ဓဟူးနှင့် စနေနေ့ညများ၌သာ ကျင်းပလေ့ရှိသော 'မွတ် သဘင်'များသို့ မတက်ဘဲနေ၍မဖြစ်။ အမှန်ပင်တက်ရမည်။ ထို့ပြင် ကျွန်တော့် အခန်းထဲတွင်လည်း တနင်္ဂနွေနေ့ညတိုင်း 'ပါတီ'တစ်ခုတော့ အမြဲလုပ်ပေး ရမည်။

ကျွန်တော်. စီးနင်းလိုက်ပါလာသော မီးရထားသည် ကွေတာဘူတာရုံတွင် ထိုး၍ရပ်လိုက်သောအခါ အညိုပုပ်ရောင် ကာကီဝတ်စုံကို ဝတ်ထားသော သိဟောင်း, ကျွမ်းဟောင်း အရာရှိတစ်ဦးကို ပလက်ဖောင်းပေါ်တွင် သွား၍ တွေ့ရ၏။ သူသည် ကျွန်တော့်လိုပင် စစ်ဦးစီးတက္ကသိုလ်သို့ တက်ရန်ရောက် လာမည့် သူ့မိတ်ဆွေတစ်ဦးကို စောင့်ကြိုနေခြင်းဖြစ်လေသည်။

ကျွန်တော်တို့သုံးယောက်သည် တက္ကစီတစ်စီးငှား၍ ကွေတာမြို့အစွန်ရှိ တက္ကသိုလ်သို့ လာခဲ့ကြ၏။

စာကြည့်ခန်းတစ်ခု၊ အိပ်ခန်းတစ်ခုနှင့် ရေချိုးခန်းတစ်ခုပါသော ကျွန်တော့်အတွက် သတ်မှတ်ပေးသည့် ဘုံဗိဟာတွင် အထုပ်အပိုး ဝန်စည် စလယ်များကို နေရာတကျထားပြီးနောက် သင်တန်းတက်မည့် အရာရှိများ၏

စာရင်းကို ကြည့်လိုက်သောအခါ ကျွန်တော့် သိပ္ပောင်း ကျွမ်းပေါင်းများ အတော်ပါသည်ကို တွေ့ရသဖြင့် စိတ်ပျော်သွားသည်။

သင်တန်းတက်မည့်လူ ၉၀ ခန့်ရှိသည်။ အားလုံးလိုလိုမှာ အသက် သုံးဆယ်ပတ်ဝန်းကျင်တစ်ပိုက်တွင် ရှိသည်။ အားလုံးလိုလိုပင် ကျွန်တော်ကဲ့သို့ ဗိုလ်ကြီးအဖြစ် ယာယီရာထူးတိုးထားသူများ ဖြစ်သည်။ ဗိုလ်မှူးနှင့် ဗိုလ် အဆင့်ရှိသူ လေးငါးခြောက်ဦးခန့်သာ ပါသည်။

ကွေတာ စစ်ဦးစီးတက္ကသိုလ်မှ ပထမသင်တန်း ရက်သတ္တတစ်ပတ်မှာ အင်္ဂလန်ပြည် ဆင်းဟတ်စ် စစ်တက္ကသိုလ်မှ ပထမရက်များကဲ့သို့ပင် သက်ဆိုင် ရာ စာအုပ်များ။ ဖွဲ့စည်းပုံဇယားများ။ လက်နက်ခဲယမ်း အမျိုးမျိုး အစားစား တို့၏ စာရင်းများပေးအပ်ခြင်း၊ သင်တန်းသားအစုကလေးများဖွဲ့ခြင်း၊ သင်တန်း အခန်းများ သတ်မှတ်ခြင်းတို့ဖြင့် အချိန်ကုန်သွားသည်။

ကျွန်တော်တို့ကို သင်ကြားပေးမည့် ဆရာများမှာ ဒုဗိုလ်မှူးကြီးများ အဆင့်သို့ ဒေသအရ ယာယီတိုးမြှင့်ခံထားရသူများ ဖြစ်၏။

ဤဆရာများသည် ကျွန်တော်တို့အား တကယ်သင်ကြားပေးမည် မဟုတ်ဘဲ ကျွန်တော်တို့ကို ညွှန်ကြားရုံသာ ညွှန်ကြားပေးမည်ဟု သိရ၏။ ကောင်းလေစွ။

သင်တန်းမစမီညက ကျွန်တော်သည် ကျွန်တော့်အခန်းထဲတွင် တစ် ယောက်တည်းထိုင်ရင်း တပ်ထဲတွင်နေ၍ ကျွန်တော် ဘာတွေတက်နေခဲ့သည် ကို ပြန်လည်သုံးသပ်နေမိသည်။

မိခင်တပ်ရင်းကို ခွဲခွာ၍ စစ်ဦးစီးတက္ကသိုလ်သို့ တက်လာခဲ့ရသော ကျွန်တော့်မှာ မိမိ မိတများကို စွန့်ခွာလျက် ကျယ်ပြောလှသော လောကကြီး တွင် ဥစ္စာပစ္စည်းရှာဖွေရန် မိမိပိုင်သည့် အထုပ်ကလေးကို တုတ်တွင်လျှို၍ ခရီးထွက်လာခဲ့သော ကလေးတစ်ယောက်နှင့် တူနေလေသည်။

ကျွန်တော့်ပခုံးပေါ်မှ တုတ်ကလေးလျှို၍ ထမ်းလာသော အထုပ်ကလေး ထဲတွင် ဟိုမှတစ်စ သည်မှတစ်စ ကောက်ယူစုစည်းခဲ့သော အတွေ့အကြုံ ကလေး။ အတတ်ပညာကလေးသာ မဖြစ်စလောက်ပါလာသည်။

စစ်ဆိုသည်မှာ တရားဥပဒေဖြင့် ဘယ်လိုမှ ဖြေရှင်း၍မရသော လူ့ လောက အရှုပ်အထွေးကို လက်နက်ဖြင့် စည်းကမ်းတကျ ဖြေရှင်းရသော အလုပ်ဖြစ်ရာ၊ ကျွန်တော့်အထုပ်ကလေးထဲတွင် ပါလာသော အတွေ့အကြုံ ကလေး။ အတတ်ပညာကလေးဖြင့် ထောက်မမီနိုင်လောက်အောင် ဖြစ်နေပေ

တော့မည်ဟု အားငယ်နေမိ၏။

စစ်တပ်ဆိုသည်မှာလည်း လက်နက်ကိုင်ထားသော အမှုထမ်းနှင့် စာရွက် စာတမ်းဖိုင်တွဲများကို ကိုင်ထားသော အမှုထမ်းများကိုလည်း အဓိက အင်အား ကြီး ၂ ရပ်ဖြင့် ပေါင်းစပ်ထားသော အဖွဲ့အစည်းကြီးတစ်ခုဖြစ်သည်။

လက်နက်ကိုင် အမှုထမ်းများက ရန်သူကို သုတ်သင်သောအခါ ဖိုင်တွဲ ကိုင် အမှုထမ်းများက...ထိုသို့သုတ်သင်ရာတွင် လိုအပ်သမျှသော အရာမှန် သမျှကို ရှာဖွေထောက်ပံ့ရန်နှင့် လက်နက်ကိုင် အမှုထမ်းများက ရန်သူကို သုတ်သင်ပြီးနောက် ကြွင်းကျန်နေသော အရှုပ်အထွေးများကို နောက်မှ ကောက်သင်းကောက်လိုက်၍ ရှင်းလင်းပေးရန်ပင် ဖြစ်၏။

ကြည်းတပ်ဖွဲ့တစ်ခုတွင် ခြေလျင်တပ်၊ အမြောက်တပ်နှင့် ရှေးခေတ် မြင်းတပ်များကို အစားထိုးလိုက်သော သံချပ်ကာ ယန္တရားတပ်ဟူ၍ သုံးခု ရှိသည်။

ထိုတပ်ဖွဲ့တွင် လက်နက်ကိုင်အမှုထမ်းနှင့် ဖိုင်တွဲကိုင်အမှုထမ်းများအပြင် ရန်သူကို သုတ်သင်ရာ၌ မရှိလျှင်မဖြစ်သော အင်ဂျင်နီယာတပ်နှင့် အချက်ပြ ဆက်သွယ်ရေးတပ်မှ အမှုထမ်းများလည်း ရှိသေးသည်။

ဤတပ် ၂ တပ်မှ အမှုထမ်းများသည် ရန်သူကို ကိုယ်ထိလက်ရောက် သုတ်သင်ခြင်း မရှိသော်လည်း ရန်သူကို သုတ်သင်ရာတွင် ရှေ့တန်းမှ ပါဝင်နေသောကြောင့် ဤအမှုထမ်းများကို လက်နက်ကိုင်အမှုထမ်းစာရင်းတွင် ထည့်သွင်းထားသည်။

ဤကား...ကျွန်တော် တတ်သမျှ မှတ်သမျှ အတတ်ပညာများတည်း။

ဖိုင်တွဲကိုင် အမှုထမ်းများတွင်လည်း ထောက်ပံ့ရေး၊ သယ်ယူပို့ဆောင်ရေး ဆေး၊ လက်နက်ခဲယမ်း၊ လျှပ်စစ်နှင့် စက်မှုအလုပ်ရုံ၊ ဥပဒေ၊ လစာ၊ တပ်ထိန်း၊ ဘဏ္ဍာ၊ ကျန်းမာ၊ သန့်ရှင်း စသော ဌာနအသီးသီးနှင့် ဆိုင်သော အမှုထမ်း ဟူ၍ အမျိုးမျိုးရှိပြန်သည်။ ဤဌာနအားလုံးကို လုံးစေ့ပတ်စေ့ နားမလည်၊ ဝိုးတိုးဝါးတားသာ နားလည်သိရှိမည်။

တပ်မတော် တည်ဆောက်ဖွဲ့စည်းပုံနှင့် ပတ်သတ်၍မူ ဆင်းဟတ်စ် တက္ကသိုလ်၌ ကျွန်တော်သင်ယူခဲ့ရသည်ကို ပြန်၍ ဖောက်သည်ချလိုပါသည်။

တပ်မတော်တစ်ခုသည် အလွန်ကြီးမားသော သုံးထောင့်သဏ္ဍာန်ရှိသော ပိရမစ်ကြီးနှင့် တူသည်ဟု ဆိုပါသည်။

သုံးထောင့်သဏ္ဍာန်ရှိသော ပိရမစ်ကြီး၏ ထိပ်များတွင် အစိုးရအဖွဲ့

ရှိသည်။ ထိုအစိုးရအဖွဲ့နားတွင် ကပ်လျက် ဗိုလ်ချုပ်ကြီးအချို့နှင့် ဖီးမာရှယ်ခေါ် တပ်ပေါင်းဗိုလ်ချုပ်ကြီးအချို့ ရှိသည်။ ထိုဗိုလ်ချုပ်ကြီးများအောက်တွင် ဒု-ဗိုလ်ချုပ်ကြီးများ ရှိသည်။ ထို ဒု-ဗိုလ်ချုပ်ကြီးများအောက်တွင် ပို၍များသော ဗိုလ်ချုပ်များရှိသည်။ ထိုဗိုလ်ချုပ်များအောက်တွင် ဗိုလ်မှူးချုပ်များ၊ ဗိုလ်မှူးကြီးများ၊ ဗိုလ်မှူးများ။ ဗိုလ်ကြီးများ အဆင့်ဆင့်ရှိနေပြီး၊ သုံးထောင့်ပုံသဏ္ဍာန်ရှိသော ပိရမစ်ကြီး၏ အောက်ခံအနားတွင်မူ ရိုးရိုးစစ်သားပေါင်း သိန်းသောင်းချီ၍ ရှိနေသည်။

ဤကား ဆင်းဟတ်စ်တက္ကသိုလ်မှ သင်ယူခဲ့ရသော အဆိုတည်း။

သို့သော် ကျွန်တော်၏ နည်းပါးလှသော အတွေ့အကြုံအရ ကျွန်တော့်ပခုံးတွင် တုတ်လျှို၍ထမ်းလာသော အထုပ်ကလေးကို ဖြေကြည့်၍ တွေ့ရှိရသော ဘဝအသိအရ...တပ်မတော်ဆိုသည်မှာ သုံးထောင့်သဏ္ဍာန်ရှိသော ပိရမစ်ကြီးကို ပြောင်းပြန်လှန်၍ထားသလိုလည်း ဖြစ်သည်ဟု သဘောပေါက်မိသည်။ ပိရမစ်ကြီး၏ အောက်ခံအနားသည် ထိပ်သို့ရောက်နေပြီး၊ ထိပ်မှချွန်းချွန်းကြီးသည် အောက်တွင် ပင်မကျောက်တိုင်ကြီးအဖြစ် ရှိနေခြင်းတည်း။

ဤပင်မကျောက်တိုင်ကြီးမှာ စစ်သည်တော်တိုင်း၏ စည်းကမ်း၊ စွမ်းရည်၊ ဖွဲ့တို့ပင် ဖြစ်သည်တကား...။

တိုက်ခိုက်ရေးတပ်များ ဖွဲ့စည်းပုံကို ကျွန်တော် ရှင်းရှင်းလင်းလင်းနားလည်သလောက် 'ဦးစီး'အဖွဲ့များနှင့် ပတ်သတ်၍မူ ကောက်ချက်အမျိုးမျိုး အနက်အဓိပ္ပာယ်အမျိုးမျိုးကို ကြားနေခဲ့ရ၏။

တပ်မတော်ကြီးတစ်ခု ဆိုသည်မှာ အလွန်ကြီးကျယ်သော၊ အလွန်သေးစိတ်ကျသော စက်ကြီးတစ်ခုနှင့်တူနေလေရာ ဆံချည်မျှင်လောက်သေးငယ်သော ကိရိယာကလေးမှအစ ဆင်ချည်သော သံကြိုးကြီးလောက်ကြီးသော ကိရိယာအထိ အစိတ်အပိုင်းအားလုံး လည်နေမှ စက်ကြီးတစ်ခုလုံးလည်နေနိုင်သည့်သဘောကို ဆောင်နေလေသည်။

တပ်မတော်ကြီးတစ်ခုကို လည်နေစေသည်မှာလည်း 'အမိန့်'သံကြိုးကွင်းဆက်များပင်ဖြစ်၏။ တပ်မတော်ကြီးတစ်ခု၏ အပေါ်ဆုံးနှင့် အောက်ဆုံးတွင် 'အမိန့်'ပေးရသည်မှာ အလွန်ရှင်းလင်းလွယ်ကူသည်။ သမ္မတကဖြစ်စေ၊ ဝန်ကြီးချုပ်ကဖြစ်စေ ဆီးရီးယားတွင် အာဏာယူထားသော ဗိချီ၏ ပြင်သစ်အစိုးရကို ဖျက်ဆီးချေမှုန်း၍ လွတ်လပ်သော ပြင်သစ်အစိုးရအဖွဲ့သို့ အာဏာပြောင်းပေးရမည်ဟု 'အမိန့်'ပေးလိုက်သောအခါ အပေါ်ဆုံးမှ ပေး

လိုက်သော ထို'အမိန့်'သည် 'အမိန့်'သံကြိုးကွင်းဆက်ပေါင်း ၂၀၀ ကျော်ခန့်ကို ဖြတ်ကျော်၍ အောက်ဆုံးသို့ရောက်လာကာ တပ်ကြပ်ကလေး ဘန်းဘဟာဒူး သာပါးက သူ၏ရဲဘော် ၇ ယောက်အား 'ပစ်'ဟု 'အမိန့်'ပေးနေသည်ကို တွေ့ရပေတော့မည်။

အပေါ်ဆုံးမှပေးလိုက်သော 'အမိန့်'နှင့် အောက်ဆုံးမှပေးလိုက်သော 'အမိန့်' ၂ ခုကြားရှိ အခြားသော သံကြိုးကွင်းဆက် 'အမိန့်'ပေါင်း ၂၀၀ ကျော်ခန့်မှာမူ အပေါ်ဆုံးနှင့် အောက်ဆုံးမှပေးလိုက်သော 'အမိန့်'လို ရှင်းလင်း လွယ်ကူခြင်း မရှိတော့ဘဲ ပြဿနာပေါင်းစုံကိုဖြတ်ရင်း ကျော်ရင်းလွှားရင်း ပေးလိုက်ရသော 'အမိန့်'များသာ ဖြစ်လာရတော့၏။

တပ်ကြပ်ကလေး ဘန်းဘဟာဒူးသာပါးသည် ဤမည်သောတောင်ကုန်း ထိပ်ကိုမှတက်၍ တိုက်ခိုက်ပါဟု မည်သူက အဆုံးအဖြတ်ပေးပါသနည်း။

သူက ဤမည်သော တောင်ကုန်းထိပ်အား တစ်ဖက်သောမျက်နှာစာ မှ တက်ရောက်တိုက်ခိုက်နေစဉ် သူနှင့် မျက်နှာချင်းဆိုင်အရပ်မှ သူအပါအဝင် ဖြစ်သော တပ်စုကဖြစ်စေ၊ တပ်ခွဲကဖြစ်စေ တစ်ချိန်တည်းတွင် တက်ရောက် တိုက်ခိုက်နေခြင်းမရှိဟု သေချာအောင် မည်သူက အစီအစဉ်လုပ်ပေးပါ သနည်း။ ဆိုလိုသည်မှာ ကိုယ့်တပ်သားအချင်းချင်း မှား၍မပစ်မိအောင် မည်သူ က ညွှန်ကြားပေးပါသနည်း။

ဤမည်သော တောင်ကုန်းထိပ်အား ဤမည်သောအချိန်၌ ဤမည်သော တပ်ကြပ်ကလေးတစ်ယောက်က တက်ရောက်တိုက်ခိုက်နိုင်ရန်အတွက် ဆီးရီး ယား စစ်မျက်နှာနှင့် မိုင်ပေါင်း ၃၀၀၀ ခန့်အကွာရှိ ကာလကတ္တားတွင် ထုတ်လုပ်သော ခဲယမ်းမီးကျောက်များကို အဘယ်သူက ပို့ပေးခဲ့လေသနည်း။ ပို့ပေးခဲ့ရာ၌လည်း တောင်ကုန်းထိပ်ကို သိမ်းယူရန် လုံလောက်မည့် ခဲယမ်း အရေအတွက်ကို မည်သူက မှန်းဆလေခဲ့သနည်း။

ဤမည်သော တောင်ကုန်းထိပ်ကို တိုက်ခိုက်နေသည့် တပ်ကြပ်ကလေး အား မည်သူက လာ၍ ထမင်းကျွေးပါသနည်း။ သူ မနေ့က ဗိုက်အောင့်နေ သည်ကိုလည်း မည်သူက လာ၍ဆေးတိုက်ခဲ့ပါသနည်း။ သူ့အိတ်ထဲသို့ မည်သူက လာ၍ စာများထည့်ပေးပါသနည်း။

မည်သည့်နေရာကို တိုက်ခိုက်သိမ်းယူရမည် ဆိုသည်ကို တပ်မှူးများက အမိန့်ပေးသည်။ တပ်ကြပ်ကလေး ဘန်းဘဟာဒူးသာပါး၏ လက်နက်၊ ခဲယမ်း၊ ရိက္ခာ၊ ဆေးဝါး၊ လစာ စသော ကိစ္စအရပ်ရပ်တို့ကို ဖိုင်တွဲကိုင်အမှု

ထမ်းများက ပြုလုပ်ပေးသည်။ စစ်ဦးစီးဌာနမှ အရာရှိများက တပ်မှူးနှင့် ဖိုင်တွဲကိုင် အမှုထမ်းများကြားတွင် ဝင်ကာ တိုက်ခိုက်ရေးအစီအစဉ်တစ်ခုလုံး လိုအပ်သမျှ ချောချောမွေ့မွေ့ဖြစ်စေရန် အသေးစိတ်စီစဉ်ပေးသည်။

တပ်မတော်ကြီးတစ်ခုကို လည်နေစေသည်မှာ 'အမိန့်သံကြိုးကွင်းဆက်များ' ဟုဆိုအံ့၊ ထိုသံကြိုးကွင်းဆက်များ ချောချောမွေ့မွေ့ ရွေ့လျား၍ နေအောင် လုပ်ပေးနေသူမှာ စက်ဆီနှင့်တူသော ဦးစီးဌာနပင် ဖြစ်သည်ဟု ဆိုရပေတော့မည်။

ကျွန်တော်သည် ကျွန်တော့်ကိုယ်ကိုကျွန်တော် စက်ဆီတစ်စက်ဖြစ်ပါလေသည်တကားဟု မြင်လာမိသောအခါ အတော်ပင် စိတ်သက်သာရာရသွားခဲ့လေသည်။

တပ်မတော်ကြီးတစ်ခုလုံးကို 'ချုပ်'သုံး'ချုပ်'က အုပ်ထိန်းကြိုးကိုင်လျက် ရှိသည်။

'ချုပ်'နှစ်'ချုပ်'မှာ 'လူ'နှင့်ဆိုင်သော ပြဿနာ၊ 'ပစ္စည်း'နှင့်ဆိုင်သော ပြဿနာများကို ဖြေရှင်းပြုလုပ်ပေးရသော ဌာနများဖြစ်၍ အရပ်သူ အရပ်သား၊ ကျေးလက်၊ မြို့ရွာများတွင်လည်း အလားတူဌာနများရှိသည်။

'လူ'နှင့်ဆိုင်သောပြဿနာတွင် လစာပေးခြင်း စည်းကမ်းရှိလေအောင် တပ်ထိန်းဖြင့် စည်းကြပ်ရခြင်း၊ ရာထူးတိုးမြှင့်သင့်သူကို တိုးမြှင့်ပေးရခြင်း၊ ချသင့်သူကိုချရခြင်း၊ အမှုစွဲသင့်သူကိုစွဲရခြင်း၊ အပြစ်ပေးသင့်သူကို အပြစ်ပေးရခြင်း၊ အငြိမ်းစားရိက္ခာပေးရခြင်း၊ ကျန်းမာသည်၊ မကျန်းမာသည်ကို စစ်ဆေး၍ ထွက်ပေါ်လာသော အဖြေအရ ဆက်လက်ဆောင်ရွက်ရခြင်း စသော လုပ်ငန်းများ ပါဝင်သည်။ ဤလုပ်ငန်းများ (ဝါ) လူနှင့်ဆိုင်သော ပြဿနာများကို ဖြေရှင်းပြုလုပ်ပေးရသောဌာနကို စစ်ရေးဌာန သို့မဟုတ် စစ်ရေးချုပ်ဟု ခေါ်သည်။

'ပစ္စည်း'နှင့်ဆိုင်သောပြဿနာတွင် စစ်သားများသည် အရပ်သားများကဲ့သို့ပင် အဝတ်အစား၊ အစားအစာ သွားလာရန်ယာဉ်၊ နေထိုင်ရန်အိမ်၊ ဆောက်လုပ်ရေးပစ္စည်း စသည်များနှင့် အရပ်သားနှင့်မတူသော လက်နက်အမျိုးမျိုး ရှိနေရန်လိုသည်။ ဤကဲ့သို့သော 'ပစ္စည်း'များကို စစ်သားများ လက်သို့ ရောက်အောင် ဆောင်ရွက်ရသောဌာနကို စစ်ထောက်ဌာန သို့မဟုတ် စစ်ထောက်ချုပ်ဟုခေါ်သည်။

တတိယ 'ချုပ်'မှာ အရပ်သူအရပ်သားများ၏ လုပ်ငန်းနှင့် လုံးဝမတူ

တော့။ အဘယ်ကြောင့်ဆိုသော် တပ်တစ်ခုတွင် ပါဝင်နေသော စစ်သားများသည် ရန်သူကို ချေမှုန်းသုတ်သင်သည့်အလုပ်ကို လုပ်နေကြရသောကြောင့်တည်း။

ချေမှုန်းသုတ်သင်သည့် ပြဿနာတွင် ဤမည်သော ရန်သူ့စခန်းကို မည်သို့တိုက်ခိုက်ရန်၊ ဤမည်သော မိမိတို့ခံတပ်ကို မည်သို့ခုခံကာကွယ်ရန်၊ စသော အစီအစဉ်များ ပါဝင်သည်။ ဤလုပ်ငန်းများကို စီစဉ်ဆောင်ရွက်ရသော ဌာနကို စစ်ဦးစီးဌာန သို့မဟုတ် စစ်ဦးစီးချုပ်ဟု ခေါ်သည်။

စစ်ဦးစီးချုပ်၏ အဓိကလုပ်ငန်းမှာ မိမိတို့တပ်များ ဘာလုပ်နေသည် ဆိုသော ပြဿနာနှင့် ရန်သူများ ဘာလုပ်နေသည်ဆိုသည်ကို ထောက်လှမ်းရသော ပြဿနာပင်ဖြစ်သည်။ အတိုချုပ်ဆိုရသော် တိုက်ခိုက်ရေးနှင့် ထောက်လှမ်းရေးပင်ဖြစ်၏။

ဤ 'ချုပ်'သုံး'ချုပ်'ကို အတိုချုပ်အားဖြင့် 'ဦး ရေးဆောက်'ဟုခေါ်သည်။ ဤသုံးဌာနအနက် စစ်ဦးစီးဌာနသည် အရေးအကြီးဆုံး၊ အဓိကအကျဆုံး ဆိုသည်မှာ ထင်ရှားနေလေသည်။

စစ်ဦးစီးချုပ်ကို အင်္ဂလိပ်လို ဂျင်နရယ်စတတ်ဖ်ဟုခေါ်၍ အတိုကောက်နည်းဖြင့် ဂျီအက်စ်ဟူ၍လည်းကောင်း၊ စစ်ရေးချုပ်ကို အဂျူးဒင့်ဂျင်နရယ်ဟုခေါ်၍ အတိုကောက်အားဖြင့်'အေ'ဟူ၍လည်းကောင်း၊ စစ်ထောက်ချုပ်ကို ကွာတာမာ့စ်စတား ဂျင်နရယ်ဟုခေါ်၍ အတိုကောက်ဖြင့်'ကြူ'ဟူ၍ လည်းကောင်း ခေါ်သည်။

ဤချုပ်'သုံး'ချုပ်သည် အခါခပ်သိမ်း အတိုင်အဖောက်ညီကာ တက်ညီလက်ညီ ရှိနေစေရမည်ဖြစ်၏။

'ဂျီ အက်စ်'မှ လူများက ပြင်သစ်ပြည် ပါရီမြို့ကို တိုက်နေစဉ် 'ကြူ'မှ လူများက ရောမမြို့တော်သို့ ရိက္ခာများပို့နေသည့်အဖြစ်မျိုးနှင့် မကြုံ အောင် သတိထားရသည်။

ဂျီ 'အက်စ်'မှလူများသည် အပြောင်းအမြောက်ဆုံးသော တိုက်ပွဲကြီးတစ်ပွဲကို တိုက်ခိုက်ရန် မည်ကဲ့သို့ပင် စီစဉ်နေစေကာမူ 'ကြူ'မှလူများက လိုအပ်သော ခဲယမ်းမီးကျောက်များကို လိုအပ်သောနေရာသို့ လိုအပ်သည့်အချိန်တွင် ရောက်အောင် ပို့ပေးနိုင်ပါမှ 'အေ'မှ လူများကလည်း လိုအပ်သည့်စစ်ကြောင်းများတွင် လိုအပ်သည့် တပ်သားများကို ဖြည့်တင်းပေးနိုင်ပါမှ ထိုတိုက်ပွဲသည် ဂျီအက်စ်က စီစဉ်ထားသည့်အတိုင်း ဖြစ်ပေါ်လာနိုင်မည်ဖြစ်၏။

ထို့ကြောင့် ဤ 'ချုပ်'သုံး 'ချုပ်'သည် အမြဲတမ်းပူးတွဲလျက် အမြဲတမ်း တက်ညီလက်ညီရှိနေပြီး သက်ဆိုင်ရာ တပ်မှူး၏အမိန့်ကို တပေါင်းတစည်း တည်း လိုက်နာဖြည့်တင်းနေရမည်သာဖြစ်သည်။

ထို့အတူ စစ်ဦးစီးအရာရှိ တစ်ဦးသည်လည်း သက်ဆိုင်ရာ တပ်မှူးကို လည်းကောင်း၊ သက်ဆိုင်ရာတပ်များကိုလည်းကောင်း၊ အမြဲတမ်းဒွန်တွဲလျက် သစ္စာရှိနေရမည်ဖြစ်သည်။ စစ်ဦးစီးအရာရှိသည် သက်ဆိုင်ရာ တပ်မှူးအား တပ်မှူးစီစဥ်ထားသည့် တိုက်ပွဲကို လိုလည်းမလို၊ ပိုလည်း မပိုရအောင် အတိအကျဖြစ်အောင် တစ်ဖက်မှ ကူညီနေသကဲ့သို့ သက်ဆိုင်ရာတပ်များကို လည်း တိုက်ပွဲတွင် ငွေကုန်ကြေးကျအနည်းဆုံး၊ ထိခိုက်ကျဆုံးမှုအနည်းဆုံး၊ အချိန်အတိုဆုံးနှင့် အောင်ပွဲရအောင် အခြားတစ်ဖက်မှ ညွှန်ပြနေရမည်ဖြစ်သည်။

ဤကား ကျွန်တော့်ပခုံးပေါ်တွင် တုတ်လျှို၍ ထမ်းလာသော အထုပ် ကလေးထဲမှ ကျွန်တော် ပြန်လည်တွေ့ရသောအချက်များတည်း။

ဤအတိုင်းဆိုလျှင် ကျွန်တော်သည် ခေသောသူတစ်ယောက် မဟုတ် တော့။

သာဓု-သာဓု-သာဓု- ကောင်းလေစွ။

ကျွန်တော်သည် အဓိပ္ပာယ်မရှိဘဲ လေတစ်ချက်ချွန်လိုက်ကာ ကျွန်တော့် စားပွဲအံဆွဲကို ဆွဲ၍ဖွင့်ကြည့်လိုက်၏။

အထဲတွင် မည်သည့်သကောင့်သား ပစ်၍ထားခဲ့မှန်းမသိသော စစ်ချီ တက်မှု လေ့ကျင့်ခန်းလုပ်သည့် ဖယားတစ်ခုကို တွေ့ရသည်။

မင်နီ၊ မင်ပြာ၊ မင်နက် စသည်တို့ဖြင့် ကွေ့ကွေ့ကောက်ကောက် တွန့်တွန့်လိမ်လိမ် ရေးဆွဲထားသောလမ်းကြောင်းများမှာ ဝက်ပါထက်ပင် ရှုပ်နေသေးသည်။

ကျွန်တော့်အခန်းတွင် နေသွားသော သကောင့်သားသည် စိတ်ညစ်ညစ် နှင့် ဤစစ်ချီတက်မှုလေ့ကျင့်ခန်းဖယားကို အပြီးအပိုင်မလုပ်ဘဲ ချောင်ထိုး၍ ထားခဲ့သည်မှာ ပေဒင်မေးနေရန်ပင်မလို၊ ဖယားနံဘေးတွင် ရေးထားသော မှတ်ချက်များက သက်သေထူနေသည်။

''ပေးထားတဲ့အမိန့်ကို မဖတ်ဘူးလား''

''ဒီလိုအမှားမျိုး နောက်ထပ်မမှားစေနဲ့''

''ဒီအတိုင်းချီတက်ရင် မင်းဘက်က လူ ၇ ယောက်ထိနေပြီ''

''စစ်ချီတက်နေတာလား၊ လူတွေကို အကြောင်းမဲ့သက်သက် သတ်နေ

တာလား''

မင်နီဖြင့်ရေးထားသော မှတ်ချက်များကိုဖတ်ရင်း ကျွန်တော်သည် သက်ပြင်းတစ်ချက်ချလိုက်သည်။

ထို့နောက် စစ်ချီတက်မှုလေ့ကျင့်ခန်းဖယောင်းစာရွက်လိပ်ကြီးကို မီးဖိုထဲသို့ ထိုးထည့်လိုက်ပြီးနောက် အိပ်ရာပေါ်သို့ ပစ်၍လှဲချလိုက်သည်။

ကျွန်တော်သိစရာတွေ၊ တတ်စရာတွေ၊ သင်ယူစရာတွေ အများကြီး ကျန်နေပါသေးကလား...။

သင်တန်းပထမနှစ်ပတ်တွင် ကျွန်တော်တို့ အဓိကထား၍ သင်ယူရသော သင်ခန်းစာမှာ တပ်မတော်တစ်ခုတွင် ပါဝင်သော တပ်ဖွဲ့တိုင်း၏ အသေးစိတ်ဖွဲ့စည်းတည်ဆောက်ပုံပင်ဖြစ်၏။

သင်တန်းသားတိုင်း ခြေလျင်တပ်ရင်းတစ်ရင်း၏ ဖွဲ့စည်းတည်ဆောက်ပုံကို သိသော်လည်း ထိနိုက်ဒဏ်ရာရသူများ ရှင်းလင်းရေးစနစ်တစ်ခု၏ ဖွဲ့စည်းပုံကိုမူ သိသူ နည်းပါးလှသည်။

သံချပ်ကာ ယန္တရားတပ်ဖွဲ့တစ်ခုသည် မိမိ၏ သံချပ်ကာကားများဖြင့် ချီတက်နိုင်သည်ကို ကျွန်တော်တို့ သိနေသော်လည်း သချိုင်းများစာရင်းကောက်ယူရေးတပ်ဖွဲ့တစ်ခုသည် မည်သည့်ယာဉ်မျိုးကိုသုံး၍ မည်ရွေ့မည်မျှ အရေအတွက်လိုသည်ကို ကျွန်တော်တို့ ကြားပင်မကြားဖူး။

ထို့ပြင် စစ်မြေပြင် တတ်မှန်ရိုက်အဖွဲ့၊ ခဝါသည်အဖွဲ့၊ စက်ကိရိယာကြီးများပြင်ဆင်သည့် အလုပ်ရုံအဖွဲ့ စသည်ဖြင့် အဖွဲ့ပေါင်းများစွာ...။

တစ်ဖွဲ့တစ်ဖွဲ့အတွက် စာမျက်နှာ ၂၀ မှ ၃၀ အထိရှိသော သင်ခန်းစာကလည်း စာရွက်ပေါင်းများစွာ...။

အဖွဲ့ပေါင်းသောင်းခြောက်ထောင်၏ အသေးစိတ်ဖွဲ့စည်းပုံမှာ ဦးစီးအရာရှိလုပ်မည့်သူအတွက် ဒက်ခနဲခံနေအောင် သိနေရမည့် သင်ခန်းစာဖြစ်သည်။

သို့သော် ကျွန်တော်တို့ဦးနှောက်က ရှိသမျှအဖွဲ့တိုင်းကို မည်သို့မှတ်မိနိုင်ပါမည်နည်း။

ကျွန်တော်တို့သည် ပြန်တမ်းဝင်အရာရှိများဖြစ်နေသည့်တိုင် ယခုအချိန်၌ ကျောင်းတက်နေရသော ကျောင်းသားများသာ ဖြစ်နေသည့်အတိုင်း...

နိုတပ်အုပ်စု...

ဖာ လေထီးတပ်ဖွဲ့...

ဘုရင့်အင်ဂျင်နီယာတပ်ဖွဲ့မှ မြေပုံအများပြုလုပ်ရေးဌာနစိတ်

ဘုရင့်သတင်းနှင့် ဝါဒဖြန့်ချိရေးတပ်မကြီးမှ ချင့်ချင့်ချိန်ချိန် ယုံကြည်ကြပါဟု လှည့်လည်ဟောပြောနေသော တပ်ဖွဲ့…

စသည်တို့ကို ကျောင်းသား 'ဘဥ်'အရ ပြက်လုံးထုတ်နေတတ်ကြ၏။

စစ်ဦးစီးတက္ကသိုလ်မှ 'ဆရာ'များသည် ကျွန်တော်တို့အား ရက်သတ္တ ၂ ပတ်မျှ တပ်ဖွဲ့အသီးသီး တည်ဆောက်ဖွဲ့စည်းပုံကို သင်တန်းပေးပြီးနောက် ကျွန်တော်တို့ မည်မျှတက်မြောက်လာသည်ကို သိနိုင်ရန် လေ့ကျင့်ခန်းပုစ္ဆာများကို အဖြေခိုင်းသည်။

ဆရာများပေးသည့် ပုစ္ဆာမှာ မည်သည့်အချိန်၊ မည်သည့်အခါ၊ မည်သည့်နေရာတွင်မှ မည်ကဲ့သို့သောအကြောင်းကြောင့် ဖြစ်ပေါ်တည်ရှိနိုင်မည်မဟုတ်သော တပ်ဖွဲ့တစ်ခု၏ ရိက္ခာပြဿနာဖြစ်၏။

ကျွန်တော်နှင့်ခင်မင်သော သင်တန်းသားတစ်ယောက်က ရိက္ခာထောက်ရမည့် စစ်သားဦးရေမှာ စုစုပေါင်း ၆ရ၀၉ ဖြစ်သည်ဟု အဖြေရေးသည်။ ကျွန်တော့်အဖြေမှာ သူ့ထက်တစ်ယောက်ပိုကာ ၆ရ၁၀ ဖြစ်နေသည်။

သင်တန်းဆရာသည် ကျွန်တော့်အဖြေစာရွက်ပေါ်၌ ''နမော်နမဲ့နိုင်သည်'' ဟု မင်နီဖြင့် မှတ်ချက်ရေးလိုက်၏။

ဟုတ်လည်းဟုတ်သည်။ ကျွန်တော်သည် ရှေ့တန်းစစ်မြေပြင်သို့ ခြင်ဆေးဖျန်းရန် ရောက်လာသော တပ်ကြပ်ကလေး အရံတပ်ရှိရာသို့ ပြန်သွားသည်ကိုပင် သတိမပြုမိဘဲ ထိုတပ်ကြပ်ကလေးကိုပါ ရိက္ခာထောက်ရမည့် စာရင်းတွင် ထည့်သွင်းမိခဲ့သည် မဟုတ်ပါလား။

ထို့နောက် တပ်ဖွဲ့ကလေး အမျိုးမျိုးပါဝင်သော ထိုတပ်ဖွဲ့ကြီးသည် မိုင် ၈၀ ကွာသော စစ်မျက်နှာသို့ ၉ ရက်နှင့် အရောက်ချီတက်ပြီးနောက် မိုင် ၂၀၀ အတွင်း လှည့်လည်လှုပ်ရှားနေနိုင်ရန် မော်တော်ကားအစီး မည်မျှလိုသနည်း။ ရာရှင်ပေါင်ချိန် မည်မျှလိုသနည်းဟူသော ပုစ္ဆာကို တွက်ချက်ရပြန်သည်။

ကျွန်တော်နှင့် သင်တန်းတက်ဘက်ဖြစ်သူ ပိုလ်ကြီးမှူဟာမက်အူစမန်သည် ကုလားထိုင်နောက်မှီကို လေးလေးတွဲ့တွဲ့မှီ၍ထိုင်လိုက်ရင်း…

''ဒီတပ်ဖွဲ့က ဘယ်အရပ်ကို ချီတက်မှာလဲ ပိုလ်မှူး''ဟု မေးလိုက်၏။

''ဘယ်အရပ်ပဲ ချီတက်ချီတက် ဒါက မေးခွန်းနဲ့မဆိုင်ဘူးလေ''

သင်တန်းဆရာက နှုတ်တုံ့ပြန်လိုက်၏။

သို့သော် ပိုလ်ကြီးအူစမန်က ခပ်ပြုံးပြုံးလုပ်ရင်း…

"ဒီလိုပါဗိုလ်မှူး၊ ဒီလိုတပ်ဖွဲ့ကလေးတွေ စုံစီနဖာပါတဲ့တပ်ဖွဲ့ကြီးတစ်ခုက ရန်သူနဲ့သာ တကယ်တိုက်ဖို့ ချီတက်သွားမယ်ဆိုရင် ဒီလိုတပ်ဖွဲ့မျိုးမှာ ကျွန်တော်တော့ မပါချင်ဘူး၊ ကျမှာသေချာနေတာကိုး"

ဗိုလ်ကြီးအူစမန်၏ ပြက်လုံးကြောင့် သင်တန်းသားများနှင့် သင်တန်းဆရာပါ ပွဲကျသွားကြသည်။

သို့သော် ကျွန်တော်တို့သည် ပုစ္ဆာ၏အဖြေကို ဆက်၍ ရှာနေကြရပြန်လေသည်။

တပ်ဖွဲ့ကြီးအတွက် လိုအပ်သောမော်တော်ကားမှာ ၇၄၆ စီးဖြစ်သည်။

သို့သော် တပ်ဖွဲ့ကြီးသည် ၉ ရက်ကြာအောင် ချီတက်ရမည်ဖြစ်ရာ လမ်းတွင် စားသွားမည့် ၉ ရက်စာရိက္ခာကို သယ်ယူသွားမည့် မော်တော်ကားက ထပ်၍လိုလာပြန်သည်။

မိုင် ၂၀၀ အတွင်း လှည့်လည်လှုပ်ရှားနေမည်ဆိုသောကြောင့် ဓာတ်ဆီ၊ ရေနံဆီနှင့် စက်ဆီများလည်း လိုလာသည်။

လူ ၆၇၀၉ ယောက် ပါဝင်သောတပ်ဖွဲ့ကို တစ်နေ့လျှင် လူတစ်ယောက် ရာရှင် ၃ ပေါင်ကျနှုန်းနှင့်တွက်လျှင် တစ်နေ့တည်းအတွက်ပင် ရာရှင်ပေါင်ချိန် ၂၀၁၂၇ လိုသည်။ ၉ ရက်စာဆိုလျှင် ၁၈၁၁၄၃ ပေါင် ရှိရန်ဖြစ်မည်။ ဤရာရှင်များကို သယ်ဆောင်ရန် သုံးတန်ကား ၂၇ စီးလိုသည်။ စောစောက တွက်၍ရထားသော မော်တော်ကား ၇၄၆ စီးတွင် နောက်ထပ် ၂၇ စီး ပေါင်းထည့်လိုက်လျှင် လိုအပ်သည့် မော်တော်ကားအစီးပေါင်း ၇၇၃ စီး ဖြစ်လာသည်။

ပိုလာသော မော်တော်ကားများအတွက် ဓာတ်ဆီ၊ ရေနံဆီ၊ စက်ဆီများပါ ထပ်၍လိုလာရုံမက ပိုလာသောမော်တော်ကားများကို မောင်းသည့် ဒရိုင်ဘာများအတွက်လည်း ရိက္ခာစာရင်းကို တိုး၍တွက်ရတော့မည်ဖြစ်သည်။ ဤအချက်ကို မေ့၍မဖြစ်။

စစ်ဦးစီးတက္ကသိုလ်တွင် သင်တန်းတက်နေကြသော ကျွန်တော်တို့လို ဦးစီးလောင်းများအတွက် လိုအပ်သည့်ရိက္ခာပေါင်ချိန်ကို တိတိကျကျသိရန် လိုသည်ဟုဆိုသည်။ ခန့်မှန်းခြေ နံကြားထောက်နည်းဖြင့် တွက်၍မဖြစ်။ တစ်ပေါင်မှ မလွဲအောင် တိကျရမည်။

ဗြိတိသျှတပ်မတော်ကြီးသည် 'ကရိုင်းမီးယား' စစ်ပွဲကြီးတွင် ခံခဲ့ရသည့် အဖြစ်မျိုးကို ဘယ်တော့မှ အဖြစ်မခံတော့ဟုဆိုသည်။

ကရိုင်းမီးယားစစ်ပွဲတုန်းက ဗြိတိသျှသဘော်များသည် ခဲယမ်းမီးကျောက် အမြောက်အမြားကို သင်္ဘောဝမ်းဗိုက်ထဲတွင်ထည့်၍ ထိုခဲယမ်းသေတ္တာများ အပေါ်မှ စစ်ဖိနပ်များကို ထောင်နှင့်ချီ၍တင်ကာ သယ်ယူပို့ဆောင်ပေးခဲ့ကြ၏။

သို့သော် ကြုံရပုံမှာ ထိုခဲယမ်းများသည် ကရိုင်းမီးယားစစ်မျက်နှာတွင် ဗြိတိသျှတပ်များ ကိုင်စွဲနေသည့် သေနတ်များနှင့် မည်သို့မှ အံမကျဘဲ ဖြစ်နေရုံမျှမက ဖိနပ်များမှာလည်း ဘယ်ဘက်ချည်းဖြစ်နေခဲ့သည် မဟုတ်ပါလား။

တပ်ဖွဲ့ကြီးအတွက် တိတိကျကျလိုအပ်သော မော်တော်ကားအစီးပေါင်းမှာ ၈၆၆ စီးဖြစ်သည်ဟု နောက်ဆုံးတွင် အဖြေထွက်လာသည်။ ရန်သူ့လေကြောင်းမှ လာရောက်တိုက်ခိုက်နိုင်သည့် အန္တရာယ်ရှိနေသည် ဆိုသောကြောင့် မော်တော်ကားအစီး ၄၀ လျှင် အုပ်စုတစ်ခုဖွဲ့၍ အုပ်စုတစ်ခုနှင့်တစ်ခု တစ်မိုင်ကွာမှနေ၍ ချီတက်ရန်...

ကျွန်တော်သည် သင်တန်းဆရာ၏ ဆွေးနွေးချက်များကို မကြားတော့ဘဲ ကရာချိတွင် ရက်သတ္တသုံးပတ်တိုင်အောင် စောင့်နေရစဉ်က ကရာချိ ကမ်းခြေတွင် တွေ့ခဲ့ရသော ကျောင်းဆရာမကလေးဆီသို့ စိတ်ရောက်နေလေသည်။

လ,ခြမ်းပုံ ငွေယဉ်သာလို ကွေးကောက်နေသော ကရာချိကမ်းခြေသည် လွှလွှဖြူသောသဲသောင်ပြန့်ဖြင့် သာယာကြည်နူးဖွယ်ကောင်းလှသည်။

လှိုင်းခေါင်းဖြူကြီးများက တဝုန်းဝုန်းအသံပေးကာ သဲသောင်စပ်ဆီသို့ ပြေးတက်လာလိုက်၊ ပြန်၍ပြေးဆင်းလိုက် လုပ်နေသည်ကို ကြည့်ရသည်မှာလည်း အရသာတစ်မျိုးရှိလှသည်။

ထိုထက် ကျွန်တော့်ဘေးတွင် ရေကူးဝတ်စုံ ဝတ်ထားသဖြင့် ပေါင်အဖွေးသား၊ ရင်အုံကြီးကထွားထွားနှင့် ရှိနေသော ကျောင်းဆရာမကလေး၏ ဖောင့်ပွအာရုံက ပို၍ ပို၍...

''လူကြီးမင်းများခင်ဗျာ ကျွန်တော်နဲ့အတူဆက်ပြီး အခြားပုစ္ဆာတစ်ခုကို ဆွေးနွေးရအောင်''

သင်တန်းဆရာ၏စကားသံကြောင့် ကျွန်တော်သည် လန့်ဖျပ်သွားကာ ကျွန်တော်တို့ ဝိုင်းထိုင်နေသော စားပွဲကို ကိုးကန်းတောင်းမှောက်ကြည့်လိုက်၏။

သင်တန်းဆရာက ''လူကြီးမင်းခင်ဗျာ'' ဟု အခေါ်ခံရသူမှာ ကျွန်တော်မဟုတ်၊ တော်ပါသေးသည်။ စားပွဲအဆုံးရှိ ကုလားထိုင်တစ်လုံးပေါ်တွင် ဗိုလ်ကြီးတင်သည် တရှူးရှူးနှင့် အိပ်ပျော်နေလေသည်။

သင်တန်းဆရာက ''လူကြီးမင်းခင်ဗျာ''ဟု ခပ်ကျယ်ကျယ်ကလေး ထပ်၍ခေါ်လိုက်သည်။

ဗိုလ်ကြီးတင်သည် ဖျတ်ခနဲနိုးလာကာ ''ကျွန်တော် ဘရိုင်ရာရဲ့ အစီအစဉ်ကို သဘောတူပါတယ်''ဟု ကိုယ်ကို မတ်မတ်ထားရင်း ပြောလိုက်၏။

ကျွန်တော်တို့သည် ၇ ယောက်တစ်ဝိုင်း၊ ၈ ယောက်တစ်ဝိုင်းစီ ဝိုင်းဖွဲ့ကာ သင်တန်းဆရာ စီစဉ်ရေးဆွဲလာသော စာရွက်စာတမ်းများ၊ ဇယားများကို စောစောက လေ့လာထားပြီးနောက် သင်တန်းဆရာနှင့်အတူ ဆွေးနွေးဝေဖန်နေခြင်းဖြစ်သည်။

သင်တန်းဆရာသည် ပင်လယ်ရပ်ခြားသို့သွား၍ တိုက်ခိုက်ရမည့် တပ်များကို မည်ကဲ့သို့ ဆက်သွယ်ရေးလမ်းကြောင်းများ ဖွဲ့စည်းကာ ရိက္ခာနှင့် ခဲယမ်းများ ထောက်ပံ့ရမည်ကို မူတည်၍ ဆွေးနွေးနေလေသည်။

သင်တန်းဆရာသည် အမြောက်တပ်မှ ဗိုလ်ကြီး 'ဘာဂလေ'ဘက်သို့ လှည့်ကာ–

''ဆက်သွယ်ရေးလမ်းကြောင်း ဖွဲ့စည်းမှုရဲ့ အခြေခံအချက်တွေက ဘာတွေလဲ''ဟု မေးလိုက်၏။

''ရန်သူနဲ့ ရင်ဆိုင်တိုက်ခိုက်နေရတဲ့ စစ်သားတိုင်းဟာ ဘယ်တော့မှ ရန်သူကို ကျောခိုင်းပြီး ခဲယမ်းရိက္ခာကို နောက်လှည့်ပြီး ယူမနေရဘူး။ တိုက်ပွဲအတွက် လိုသမျှပစ္စည်းတွေမှန်သမျှကို ဆက်သွယ်ရေးလမ်းကြောင်းက နေပြီး တိုက်ပွဲဝင်နေတဲ့ စစ်သားဆီကို အရောက်ပေးပို့ ရောက်ရှိနေစေရမယ်''

စစ်ဦးစီးတက္ကသိုလ်တွင် သင်တန်းတက်နေသူများမှာ တိုက်ပွဲတိုင်းလိုလိုတွင် ကိုယ်ထိလက်ရောက် ပါဝင်တိုက်ခိုက်ခဲ့ဖူးသူချည်းဖြစ်ရာ ဆွေးနွေးပွဲမှာ အဆိုပြုချက်၊ ကန့်ကွက်ချက်၊ ဖြည့်စွက်ချက်၊ ပြင်ဆင်ချက်များဖြင့် စိုစိုပြည်ပြည်ရှိနေပြီး သင်တန်းဆရာက အဓိကကျသော ပြဿနာတစ်ခုကို ယေဘုယျနည်းဖြင့် မဖြေရှင်းမိရန်နှင့် ပုဂ္ဂလိကနည်းဖြင့် ဖြေရှင်း၍ရခဲ့ရသော ပြဿနာတစ်ခုကို အဓိကဖြေရှင်းနည်းဖြစ်သည်ဟု စွဲမနေစေရန် ထိန်းကျောင်းပေးနေရသည်။

''ဘာဆရာကို ဦးစီး ၃ အဖြစ်နဲ့ ကျွန်တော်ရောက်တဲ့နေ့မှာ...

ကျွန်တော်ဆွေးနွေးရမည့်အလှည့်သို့ အရောက်တွင် ကျွန်တော်သည် ခဏမျှ စဉ်းစားလိုက်ပြီးနောက် စကားစလိုက်၏။

ဦးစီး ၃ ဆိုသည်မှာ စစ်ဦးစီးဌာနတွင် ဗိုလ်ကြီးအဆင့်အတန်းဖြင့်

အမှုထမ်းရခြင်းကို ဆိုလိုခြင်းဖြစ်သည်။

ဦးစီး ၂ မှာ ဗိုလ်မှူးအဆင့်အတန်း ရှိသည်။ ဦးစီး ၁ မှာ ဒုဗိုလ်မှူးကြီး အဆင့် ရှိသည်။ ဦးစီး ၁၊ ၂၊ ၃ ထက် ရာထူးကြီးသူများမှာမူ ဗိုလ်မှူးချုပ် စစ်ဦးစီးဌာန စသည်ဖြင့် ရာထူးအဆင့်ကို ဖော်ထုတ်၍ ခေါ်ခြင်းအားဖြင့် သိသာထင်ရှားနေလေသည်။

''ဘာဆရာကို ဦးစီး ၃ အဖြစ်နဲ့ ကျွန်တော်ရောက်တဲ့နေ့မှာ ကျွန်တော့် အထက်အရာရှိဖြစ်တဲ့ ဗိုလ်မှူးဂျို့ကို ဗိုလ်ချုပ်ကြီးရဲ့နာမည် ဘယ်နှယ့်ခေါ် သလဲဆိုပြီး မေးကြည့်တယ်။ သူက မျောက်ဖိုးစိန်လို့ လွှတ်ခနဲပြောလိုက်မိ ပြီးမှ ကျော့လို့ခေါ်ပါတယ်ကွာလို့ ဆိုပြီးမှ အေး... မောင်ရင့်ကို သူ့ဆီခေါ်သွား ပြီး မိတ်ဆက်ပေးရဦးမယ်ဆိုပြီး ခေါ်သွားတယ်။

ဗိုလ်ချုပ်ကြီးရဲ့ ရုံးခန်းကို ရောက်သွားတော့ ကျွန်တော်တို့ကို ကျောပေး ပြီး သိုးမွေးကုတ်အကျီအဟောင်းကြီးကို ဝတ်ထားတဲ့ ဗိုလ်ချုပ်ကြီးကို တွေ့ရ တယ်။ ဒီကုတ်အကျီဟာ သူ့မိန်းမဆီက သူရလာတာနဲ့ တူပါတယ်။ တော်တော် ကို ဟောင်းနေပါပြီ။

ဗိုလ်ချုပ်ကြီးဟာ သူ့ရှေ့မှာ ချိတ်ထားတဲ့ ဘာဆရာမြို့မှာရှိတဲ့ သင်္ဘော ကျင်းတွေပါတဲ့ မြေပုံကြီးကို စူးစိုက်ပြီးကြည့်နေတယ်။

ဗိုလ်မှူးဂျိုက ကျွန်တော့်ကို မိတ်ဆက်ပေးလိုက်တော့ သူဟာ ကျွန်တော့် ကို တစ်ချက်လှမ်းကြည့်လိုက်ပြီး အလုပ်သိပ်များတယ်လို့ပြောရင်း နှုတ်ဆက် လိုက်ပါတယ်။ သူ့အသံဟာ တကယ်ပဲ မျောက်အော်သံနဲ့တူနေတယ်။

ကျွန်တော် စစ်ဦးစီးဌာနကိုသွားပြီး အလုပ်လက်ခံလိုက်တယ်ဆိုရင်ပဲ ကျွန်တော် တစ်ခါမှမတွေ့ဖူးတဲ့ ပြဿနာတွေနဲ့ ရင်ဆိုင်တိုးရပါတော့တယ်။

ကြုံကနေပြီး ကျွန်တော်တို့စစ်ဦးစီးဌာနကို ပို့လိုက်တဲ့စာတစ်စောင် ရောက်လာတယ်။ စာထဲမှာပါတဲ့အကြောင်းကတော့ အိန္ဒိယကနေပြီး သင်္ဘော သုံးစင်း။ ဘာဆရာကို တစ်ပြိုင်နက်ရောက်လာတယ်၊ ပထမသင်္ဘောမှာ ဘရင်းကယ်ရီယာ ၄၀ ပါလာတယ်၊ ဒုတိယသင်္ဘောမှာ လေယာဉ်ပစ် အမြောက်တွေပါလာတယ်၊ တတိယသင်္ဘောမှာတော့ အခြေစိုက်ဆေးရုံဖွင့်ဖို့ အတွက် ခုတင် ၅၀၀ ပါလာတယ်။ ဒီသင်္ဘောတွေကို အစီအစဉ်နဲ့ ဘယ် သင်္ဘောကို ဦးစားပေးပြီး ကုန်ချရမလဲလို့ မေးလိုက်တဲ့စာပဲ။

ဦးစီး ၃ အနေနဲ့ ကျွန်တော်ဖြင့် ဘယ်ဟာကို ဦးစားပေးရမယ်ဆိုတာ အဖြေရကျပ်နေတယ်။ ဘာဖြစ်လို့လဲဆိုတော့ ဘရင်းကယ်ရီယာ ဆိုတာက

လည်း ဘာသရေစစ်မျက်နှာမှာရှိနေတဲ့ တပ်ရင်းတိုင်းက အရေးတကြီးတောင်း နေတဲ့ဥစ္စာဖြစ်နေတယ်။ လေယာဉ်ပစ်အမြောက်ကျပြန်တော့လည်း ဘာဆရာကို ဂျာမန်တွေရဲ့ ခရီးဝေးပျံသန်းနိုင်တဲ့ ဗုံးကြဲလေယာဉ်ကြီးတွေက ခဏခဏ လာပြီး ဒုက္ခပေးနေတော့ သူကလည်း ချက်ချင်းလက်ငင်း ကုန်းပေါ်ရောက်လာ ဖို့ လိုနေပြန်တယ်။

တစ်ခါ ဆေးရုံအတွက် ခုတင်တွေ ဆိုပြန်ရင်လည်း လူနာ ၂၀၀ လောက်ဟာ လူနာရှင်းလင်းရေးဌာနမှာ ခုတင်မရှိသေးဘဲ ဒီအတိုင်း မြေကြီး ပေါ်မှာ တုံးလုံးပက်လက် ဖြစ်နေပြန်တယ်။

ဒီတော့ ကျွန်တော် ဘယ်သဘော်ကို ဦးစားပေးပြီး ကုန်ချရမလဲ။ စဉ်းစားလေ အဖြေရကျပ်လေပါပဲ။ ဒါပေမယ့် မဖြေဘဲနေလို့လည်း မဖြစ်တော့ ကျွန်တော် ကောင်းမယ်ထင်တာကို စွတ်ပြီးတင်လိုက်ရတော့တာပဲ။ ကျွန်တော့် အထက်က အရာရှိတွေကလည်း ကျွန်တော့်ဆုံးဖြတ်ချက်ကို တစ်ယောက်မှ မကန့်ကွက်ကြဘူး။ ဘာဖြစ်လို့လဲဆိုတော့ သူတို့လည်း ကျွန်တော်လိုပဲ ဘေးကျပ်နံကျပ် ဖြစ်နေကြတာကိုး။ ဒါက ပထမတွေ့ရတဲ့ပြဿနာ။ နောက် ပြဿနာက…

'ဘက္ကဒက်'ကို ရိက္ခာပို့သွားတဲ့ ကျွန်တော်တို့ မော်တော်ယာဉ်အုပ်စုဟာ မိုင်တိုင် ၇၀ မှာ ရာရှစ်အလီ ခေါင်းဆောင်တဲ့ အာရပ်လူဆိုးဂိုဏ်းကြီးရဲ့ တိုက်ခိုက်လုယက်တာကို မနေ့က ခံရတယ်။ ဒါကြောင့် ရိက္ခာပို့တဲ့ ယာဉ်အုပ်စု တိုင်းမှာ လက်နက်ကိုင်အစောင့် လုံလုံလောက်လောက် ထည့်ပေးပါဆိုတဲ့ ပြဿနာပဲ။

ခင်ဗျားတို့ သိကြတဲ့အတိုင်း ရိက္ခာပို့ယာဉ်အုပ်စုတိုင်းမှာ လက်နက်ကိုင် အစောင့် လုံလုံလောက်လောက် ထည့်ပေးဖို့ဆိုတာကတော့ ဘယ်လိုမှ ဖြစ်နိုင် တဲ့ကိစ္စ မဟုတ်ဘူး။ လူပြဿနာက ရှိနေတယ်မဟုတ်လား။

ဒီအတောအတွင်းမှာ သံချပ်ကာ ကားတပ်တစ်တပ်က ဘက္ကဒက်ကို ချီတက်ရမယ့် အစီအစဉ် ဖြစ်လာတယ်။ ဒီတော့ ဘာလုပ်ရမလဲ။ ဒီတပ်နဲ့ အတူ ပုလိပ်တချို့ထည့်ပေးလိုက်ပြီး လူဆိုးတွေ သောင်းကျန်းနေတဲ့ နေရာ တစ်ပိုက်ကို အရှင်းခိုင်းဖို့ပဲရှိတယ်။ ဒါပေမယ့် သေချာအောင် ထောက်လှမ်း ရေးဌာနကို လှမ်းပြီး အာရပ်လူဆိုးဂိုဏ်းအကြောင်းကို မေးရသေးတယ်။ အဖြေရတော့မှ ကျွန်တော့်အစီအစဉ်ကို ကျွန်တော့် အထက်အရာရှိဖြစ်တဲ့ ဂျီဆီကို တင်ပြ၊ ဂျီက ဗိုလ်ချုပ်ကြီးဆီကို ထပ်ဆင့်ပြီးတင်ပြ၊ ဒါပေမယ့်

တစ်ခုခက်နေတာက ရာရှစ်အလီရဲ့ လူဆိုးဂိုဏ်းကြီးဟာ ကျွန်တော်တို့ဌာနချုပ်လုပ်ထားတဲ့ ဘာဆရာမြို့တော်ရဲ့ မာကွီလ်ဆိုတဲ့အရပ်မှာတောင် မှောင်ခိုပြီး သောင်းကျန်းနေလေတော့ ကြီးမားတဲ့ ရန်သူကြီးဖြစ်တဲ့ ဂျာမနီကို တိုက်နေတဲ့ ကျွန်တော်တို့အဖို့ ကမ္ဘာမီးလောင်ရာမှ ဆီမီးခွက်ပါ ဝင်တောက်နေသလို ဖြစ်နေတော့တာပါဗျာ။

ပြဿနာတွေ ပတ်ချာဝိုင်းနေတဲ့ ကျွန်တော်ဟာ ဦးစီးဌာနမှာ ထိုင်ရင်းထိုင်ရင်းနဲ့ပဲ တော်တော်ကလေး အရေထူလာတယ်။ ကျွန်တော့်ကိုယ်ကိုလည်း ကျွန်တော် အထင်ကြီးလာတယ်။ ပြဿနာတိုင်းမှာ ငါပါမှဖြစ်တာပါကလားဆိုပြီး ဘဝင်လည်းမြင့်ချင်သလိုလို ဖြစ်လာတယ်။ ငါက စာကလေးတစ်ကြောင်းလောက် ရေးလိုက်ရုံနဲ့ လူပေါင်း ၂၀၀၀၀ လောက်ဟာ မနက် ၅ နာရီမှာ အိပ်ရာက ထပြီး ကျန်းမာရေးလေ့ကျင့်ခန်း လုပ်ကြရတယ်။

ကျွန်တော်က ဒီလိုဘဝင်မြင့်နေမိတဲ့အချိန်မှာပဲ ဗိုင်တွဲကိုင်အမှုထမ်းတွေကို အုပ်ချုပ်ရတဲ့ ဗိုလ်မှူးကြီးတစ်ယောက် ကျွန်တော့်စာပွဲကို ရှူးရှူးရှားရှားနဲ့ ရောက်လာပြီး သူ့လက်ထဲမှာပါလာတဲ့ ကျွန်တော်တို့စစ်ဦးစီးဌာနက ထုတ်လိုက်တဲ့ ညွှန်ကြားလွှာတစ်ထပ်ကြီးကို ပုန်းခနဲ စားပွဲပေါ်ကို ပစ်ချလိုက်တယ်။

ဒီအချိန်မှာ ကျွန်တော့်အထက်အရာရှိဖြစ်တဲ့ ဂျိုက ဗိုလ်ချုပ်ကြီးနဲ့ အပြင်ကိုလိုက်သွားနေပြီး ထောက်လှမ်းရေးက ဦးစီး ၃ က ပုလိပ်အရာရှိတစ်ဦးနဲ့ ရာရှစ်အလီဂိုဏ်းအကြောင်းကို ပြောနေတော့ ကျွန်တော်တစ်ယောက်တည်းပဲ တာဝန်ခံဖြစ်နေတယ်။

"ခင်ဗျားတို့ စစ်ဦးစီးဌာနကလူတွေဟာ ရုံးခန်းထဲမှာထိုင်ပြီး၊ ညွှန်ကြားချက်တွေချည်း ထုတ်နေတာပဲ။ ကျုပ်လူတွေဟာ တစ်နေ့ တစ်နေ့ကို ရှာရှင်ပစ္စည်းတန်ချိန်(၉၀)လောက် ထုတ်ပေးနေရတယ်။ ဒီအထဲက မနက် ၅ နာရီမှာ ကျန်းမာရေးလေ့ကျင့်ခန်းထလုပ်ဖို့ သေနတ်ပစ်ကွင်းသွားပြီး ၄ နာရီလောက် သေနတ်ပစ်လေ့ကျင့်ဖို့ ဘယ်လိုလုပ်ပြီး အချိန်ရမလဲ"

ပထမဗိုလ်မှူးကြီးရဲ့ ဒေါသသံမှ မဆုံးသေးမီ ဒုတိယဗိုလ်မှူးကြီးတစ်ယောက် ကျွန်တော့်စားပွဲကို ရောက်လာပြန်တယ်။ သူကတော့ မော်တော်ယာဉ် တပ်ကပဲ၊ သေနတ်ပစ်လေ့ကျင့်ဖို့သွားတဲ့ လူတွေကို အသွားရောအပြန်ပါ သယ်ယူပို့ဆောင်ပေးရမှာက သူ့တာဝန်ဖြစ်နေတာကိုး။ သူ့လက်ထဲမှာလည်း ကျွန်တော်တို့ဆီက ပို့လိုက်တဲ့ ညွှန်ကြားလွှာတွေ တစ်ထပ်ကြီးနဲ့။

သူကလည်း သေနတ်ပစ်ကွင်းကို ပို့ပေးရမယ်၊ ပြန်ခေါ်ရမယ့်အချိန်ဟာ

တခြားကိစ္စတွေလုပ်ဖို့ တာဝန်ယူထားတဲ့အချိန်နဲ့ တိုက်နေတဲ့အတွက် ကျွန်တော့်ကို ဆူပြန်တော့တယ်။

''ကျွန်တော်ဟာ သူတို့နှစ်ယောက် ကျေနပ်အောင် အချိန်ဇယားကို ပြောင်းပေးဖို့မှ မပြီးသေးခင် တံခါးပေါက်မှာ မျက်နှာနီနီနဲ့ ဗိုလ်မှူးတစ်ယောက် ရောက်လာပြန်ပါရော။ ဒီအချိန်မှာပဲ ကျွန်တော့်လက်အောက်က စာရေးတစ်ယောက်က အမြောက်တပ်က ဗိုလ်ကြီးနှစ်ယောက် ကျွန်တော်နဲ့ သူတို့စခန်းအကြောင်း တိုင်ပင်ချင်လို့ ရောက်နေတဲ့အကြောင်း လာပြီး သတင်းပို့ပြန်တယ်''

ကျွန်တော့်စကား အဆုံးမသတ်မီ သင်တန်းဆရာက ဖြတ်၍–

''အင်း...မောင်ရင်ကတော့ အတော်စုံခဲ့တဲ့လူပဲ၊ ဟိုဘက်က ဆရာကြီးတော့ အိပ်မောကျနေပြန်ပြီထင်တယ်''ဟု ပြောလိုက်၏။

ဗိုလ်ကြီးတင်သည် ပြန်၍အိပ်ပျော်နေလေသည်။

ဆွေးနွေးပွဲများကို တစ်ကြိမ်လျှင် လူတစ်ဒါဇီ လဲ၍ပေးသောကြောင့် သင်တန်းသားအားလုံးသည် ပို၍အကျွမ်းဝင်ရင်းနှီးလာကြသည်။ တစ်ယောက်အကြောင်းကိုလည်း တစ်ယောက် ပိုသိလာကြသည်။

◆

## အခန်း ( ၂ )

အရပ် ၅ ပေ၊ ၅ လက်မ စိမ်းညို့ရောင် လှပဝိုင်းစက်သောမျက်လုံး၊ ဖြိုးမောက်သောရွှေရင်အုံ၊ သေးသောခါး၊ အချိုးကျသောတင်ပါးတို့၏ ပိုင်ရှင် 'ဘာဘရာ'ကို ကျွန်တော် စ၍တွေ့သော ညက သူ့တွင် လက်ထပ်လက်စွပ် ဝတ်ထားသည်ကို ကျွန်တော် သတိပြုမိသည်။

သို့သော် သူ့ကို ကျွန်တော်က စိတ်ဝင်စားစွာ တစ်ချက်မျှ စိုက်၍ကြည့်လိုက်မိသည်။

ကျွန်တော့်အကြည့်နှင့် သူ့အကြည့်က ဆုံ၍သွားသောအချိန်တွင် ကျွန်တော်သည် ရင်ခုန်မိပါသည်ဟုပင် ဆိုပါရစေ။

သူသည်လည်း ကျွန်တော့်လိုပင် ရင်ခုန်နေမည်ဟု ထင်ရ၏။ သူသည် ဓိန်းမသားမို့ ဣန္ဒြေဆောင်ရှာပါသည်။ သို့သော် မလုံ။

ထိုည ကပွဲမှစ၍ သူနှင့် ကျွန်တော် ရင်းနှီးသွားခဲ့ကြသည်။

သူနှင့် ကျွန်တော် စ,၍တွေ့သည့်အချိန်က သူ၏အိမ်ထောင်ရေးမှာ ပျော်ရွှင်မှုကင်းမဲ့ကာ အချစ်ခေါင်းပါးနေလေသည်။

'ဘာဘရာ'သည် ငါးစိမ်းကိုမြင်သောကြောင့်၊ ငါးကင်ကို ပစ်သူကား မဟုတ်။ အိမ်ထောင်ရေး၏ ခါးသီးသောအတွေ့အကြုံကြောင့် အချစ်ဆိုသည်ကို စိတ်နာကာ မေတ္တာဆိုသည်ကိုလည်း မယုံနိုင်အောင် ဖြစ်နေသောအချိန်ဖြစ်၏။

ကျွန်တော်သည် 'ဘာဘရာ'၏ အိမ်ထောင်ရေးနှင့်ပတ်သက်၍ မည်သူ့ကိုမျှ အပြစ်မတင်လိုပါ။

မိုက်သောလင်နှင့် မှားသောမယားဟူ၍ ကျွန်တော့်အဘိဓာန်တွင် မရှိပါ။ စိတ်သဘောချင်း မတိုက်ဆိုင်မှုသာ ရှိပါသည်။

ကျွန်တော်သည် 'ချိုလတန်'တောင်ကို တစ်ယောက်တည်းတက်ရင်း ဘာဘရာအကြောင်းကို အတွေးနယ်ချဲ့နေမိလေသည်။

'ဘာဘရာ'၏ လင်ယောကျ်ားမှာ စစ်ထွက်ရသူတစ်ယောက် မဟုတ်သော ကြောင့် 'ကွေတာ'တွင်ပင် ရှိနေသည်။ ကျွန်တော်သည် ပိုင်ရှင်ရှိသောပစ္စည်း တစ်ခုကိုမှ စွဲစွဲလမ်းလမ်း တပ်တပ်မက်မက်ဖြစ်နေမိလေသည်။

လင်မယားကွာရှင်းမှုကိစ္စတွင် ပါဝင်သက်ဆိုင်နေသော အရာရှိတစ်ဦး သည် ရာထူးမှ အဘယ်ကြောင့် နုတ်ထွက်စာမတင်သင့်ကြောင်းကို ထုချေလွှာ အတောင်းခံရမည်ဖြစ်ကြောင်းနှင့်လည်း တပ်တွင်းအမိန့်တစ်ရပ် မကြာမီကမှ ပေါ်ထွက်လာသည်။

အကယ်၍သာ တပ်မှ ကျွန်တော်ထွက်ရလျှင် ကျွန်တော့်တွင် အသက် မွေးမှုပညာ တစ်ခုမျှမရှိသောကြောင့် အခက်တွေ့ရပေတော့မည်။

ကျွန်တော်သည် 'ဆင်းဟတ်စ်' စစ်တက္ကသိုလ်သို့ တက်ရောက်ဖူးသူ တစ်ဦး ဖြစ်သော်လည်း 'ဆင်းဟတ်စ်'က ကောလိပ်ဒီဂရီ ပေးလေ့မရှိသဖြင့် ကျွန်တော့်နာမည်နောက်မြီးတွင် မည်သည့်'ဘွဲ့'ကိုမှလည်း ထပ်၍မဖြစ်။

ကျွန်တော်သည် စစ်သားတစ်ယောက် ဖြစ်နေသည့်အတိုင်း စစ်တိုက်ဖို့ ကိုသာ တတ်သည်။ ကျွန်တော်သည် ယူနီဖောင်းဝတ်ရုံသာ ဝတ်ထားသော စစ်သားမဟုတ်ဘဲ သေနတ်ကို သေဝပ်သောစည်းကမ်းဖြင့် ကိုင်တွယ်ပစ်ခတ် ရင်း အသက်ရှင်နေလိုသူ ဖြစ်သည်။ မိန်းမတစ်ယောက်နှင့် ယောကျ်ား တစ်ယောက်တို့ ချစ်ကြိုက်ပြီးနောက် ညားကြရာတွင် 'အချစ်'တစ်ခုတည်းရှိပြီး ထမင်းမရှိလျှင် မဖြစ်ကြောင်းကိုလည်း သိနေသူဖြစ်သည်။

မည်သို့ပင်ဖြစ်စေ ကျွန်တော်သည် 'ဘာဘရာ'နှင့် ချစ်နေရသည့်အတွက် ပျော်နေမိသည်။

ဘာဘရာ၏ စိမ်းညို့သော မျက်လုံးအစုံသည် ကျွန်တော့်ကို ညို့ထားရာ၌ အံ့ဩဖွယ်ကောင်းလောက်အောင် စွမ်းလေသည်တကား။

ကျွန်တော်သည် မြင့်သောတောင်စောင်းတစ်ခုပေါ်သို့ ရောက်လာ၏။ တောင်ထွတ်ပေါ်သို့ ရောက်ရန်ကား...များစွာလိုသေးသည်။

ရှည်လျားကွေ့ကောက်သော တောင်ဆင်းလမ်းအတိုင်း ပြန်၍ဆင်းလာ ခဲ့၏။

ကျွန်တော်တို့သည် သင်တန်းခန်းမများမှ ထွက်ကာ ကွင်းသို့ဆင်း၍ လက်တွေ့လေ့ကျင့်နေရပေပြီ။

အတက်၊ အဆုတ်၊ အကာအကွယ်၊ အတိုက်အခိုက်နည်းများကို ကွေတာပတ်ဝန်းကျင်ရှိ တောတောင်များ၊ သဲကန္တာရများတွင် လေ့ကျင့်ရသည်။

သဲသဲမဲမဲရွာသော မိုး၊ ခြစ်ခြစ်တောက်ပူသော နေ၊ တဟူးဟူးတိုက်ခတ်သော လေတို့မှာ ကျွန်တော်တို့၏မိတ်ဆွေများ ဖြစ်နေပေပြီ၊ ကျားကိုခလုတ် သစ်ငုတ်ကိုသင်ဖြူး၊ ဆူးကိုမွေ့ယာအဖြစ် သဘောထားနေရပေပြီ။

လေ့ကျင့်တိုက်ခိုက်ရသော တိုက်ပွဲတစ်ပွဲပြီးတိုင်း ကျွန်တော်တို့သင်တန်းဆရာက ကျွန်တော့်တို့တက်နည်း၊ တိုက်နည်း၊ ကာကွယ်နည်း၊ ဆုတ်နည်း၊ ဆက်သွယ်နည်း၊ မှန် မမှန်ကို ပန်းရောင်စာရွက်ပေါ်တွင် မှတ်ချက်ရေး၍ ခြစ်ပေးလေ့ရှိသည်။

ကျွန်တော်တို့သည် သင်တန်းဆရာ၏ ပန်းရောင်စာရွက်နှင့် အမြဲလိုလို သဘောကွဲနေတတ်ကြ၏။ တစ်ခါတစ်ခါတွင် သင်တန်းဆရာ၏ မှတ်ချက်ကို ကျွန်တော်တို့က ပြင်းပြင်းထန်ထန်ပင် ဆန့်ကျင်ကာ ကန့်ကွက်ကြသည်။ တပ်တွင်းသူပုန်ထသည်ဟု ဆိုရလောက်နီးနီး ဆူပူ ကန့်ကွက်တတ်ကြ၏။

ဤသို့သောအခါများတွင်ပင် သင်တန်းဆရာက စစ်တွင် မည်သည့်အခါမျှ 'တစ်ခုတည်းသောအဖြေမှန်'ဟု မရှိနိုင်ကြောင်း အသံကလေးရဲရဲဖြင့် ရှင်းပြတတ်ပါသည်။

'ထိုးစစ်'နှင့် ပတ်သက်၍ ဆွေးနွေးရာတွင် ထိုးစစ်တစ်ခုအတွက် ၇ ရက်ခန့်ကြာအောင် ဆက်၍ အဘက်ဘက်မှ တင်ပြဝေဖန်တတ်ကြ၏။

ကျွန်တော်တို့ 'တပ်ကြီး' ချီတက်သွားစဉ် လမ်းတွင်တွေ့ရမည့်ပြဿနာများ၊ အခက်အခဲများကို မည်သို့ဖြေရှင်းဖြတ်ကျော်မည်၊ တစ်တပ်နှင့်တစ်တပ် မည်သို့အဆက်အသွယ် အချိန်းအချက်လုပ်မည်။ မည်သို့ကင်းထောက်မည်။ ထို့နောက် ရန်သူကို မည်သို့ထိုးခိုက်မည်။ ပြန့်ကြဲသွားသောတပ်များကို မည်သို့ ပြန်လည်ရုံးစုမည်၊ ဤအချိန်တွင် ရန်သူက တန်ပြန်ထိုးစစ်ဆင်လာလျှင် မည်သို့ခံစစ်ပြုမည်၊ မည်သို့ထိုးဖောက်၍ထွက်ကာ ရန်သူကို ပြန်လည်တိုက်ခိုက်မည် စသည်တို့ကို အပြန်အလှန် တင်ပြကြ၊ ဆွေးနွေးကြ၊ ဝေဖန်ကြသည်။

ကျွန်တော်တို့သည် ထိုးစစ်အတွက် နမူနာပြုလုပ်ထားသော သဲမြေပုံပေါ်တွင် စိတ်ကူးဖြင့်သွား၍ ချီတက်ကြသည်။ ရန်သူ့စခန်းကို မှန်ပြောင်းဖြင့်

ကြည့်ရှုလေ့လာကြသည်။ ထိုခိုက်ကျဆုံးသူ မည်မျှရှိနိုင်မည်ကို ခန့်မှန်းကြသည်၊ သယ်ယူပို့ဆောင်ရေးအတွက် စီစဉ်ကြရသည်၊ ရိက္ခာစခန်းများကို ရွေးချယ်ကြသည်၊ ဖွက်ထဲတွင်နစ်နေသော တင့်ကားများကို ပြန်လည်ထုတ်ယူကြသည်၊ ထိခိုက်ဒဏ်ရာရသူများအား အချိန်မီ ဆေးဝါးကုသပေးနိုင်ရန်နှင့် ကျဆုံးသူများအား မြှုပ်နှံသဂြိုဟ်နိုင်ရန် စီစဉ်ကြရသည်။

သင်တန်းတက်ကာစက စိတ်ရှုပ်စရာကောင်းလောက်အောင် မှတ်သား၊ လေ့လာထားခဲ့ရသော တပ်ဖွဲ့အမျိုးမျိုးသည် ယခုအချိန်၌ ကျွန်တော်တို့ စီမံကွပ်ကဲမှုအောက်တွင် သံစုတီးဝိုင်းကြီးကို မြိုင်မြိုင်ဆိုင်ဆိုင်ကြီး အသုံးတော်ခံနေပေပြီ။

တနင်္ဂနွေနေ့ညတိုင်း ကျွန်တော့်အခန်းတွင် ပြုလုပ်လေ့ရှိသော ပါတီမှာလည်း တစ်ပတ်ထက်တစ်ပတ် ပို၍မြိုင်ဆိုင်လာသည်။

ကမ္ဘာကျော် ဂီတစာဆိုတော်ကြီး 'ဘီသိုဗင်'၏ တေးဂီတများကို ကျွန်တော်နှင့် အမြဲပါလာလေ့ရှိသော တတ်စက်ဖြင့်ဖွင့်၍ အရသာခံသည့်ညများတွင်မူ အမျိုးသားနှင့် အမျိုးသမီး တစ်ဒါဇင်ကျော်ကျော်ခန့်သည် လက်ထဲတွင် ဘီယာခွက်များကို ကိုင်ထားရင်း ရှာန်ဝင်နေသော ပုဂ္ဂိုလ်များလို မလှုပ်မရှားရှိနေတတ်ကြ၏။ သန်းခေါင်ကျော်၍ ကြမ်းပြင်ပေါ်တွင် ထိုင်နေရာမှ ထလိုက်ကြသောအခါ ကျွန်တော်တို့ကိုယ်ခန္ဓာများမှာ ထုံကျင်ကိုက်ခဲနေတော့သည်။ ဤအချိန်တွင် နောက်ဆုံးလက်ကျန်ဘီယာကို ရှင်း၍ လူစုခွဲရသည်။ သည်လိုဖြင့် ရက်သတ္တတစ်ပတ်ကုန်လွန်ကာ နောက်ရက်သတ္တတစ်ပတ်သို့ ရောက်ခဲ့ရပြန်လေသည်။

ဤကဲ့သို့သောညများတွင် 'ဘာဘရာ'သည် ကျွန်တော့်ပါတီသို့ မိတ်ဆွေတစ်ဦးဦး၏ကားဖြင့် ရောက်လာသည်။ အပြန်တွင်မူ ကျွန်တော်က သူ့အား ဘိုင်စကယ်ဘားတန်းတွင် ထိုင်စေပြီး သူ့အိမ်သို့ အရောက်ပို့လေ့ရှိသည်။ အပြန်ခရီးမှာ တောင်ဆင်းကြီးဖြစ်ရာ ဘိုင်စကယ်တစ်စီးပေါ်တွင် ချစ်သူနှစ်ယောက် အတူစီးရသော အရသာမှာ အသက်အစိတ်မှ သုံးဆယ်အတွင်းသို့ ရောက်နေကြပြီဖြစ်သော ကျွန်တော်တို့နှစ်ယောက်အား ဆယ်ကျော်သက်ကလေးများကဲ့သို့ ငယ်မူပြန်အောင် ဖန်တီးပေးနေသလို ဖြစ်နေတော့၏။

သင်တန်းဆင်းပွဲပြီးဆုံးသည့် အထိမ်းအမှတ်ဖြင့်ပြုလုပ်သည့် ကပွဲကြီးတွင် ဘာဘရာနှင့် ကျွန်တော်သည် အတူတူတွဲ၍ကပြီးနောက် မှောင်ရိပ်ကျသော သစ်ပင်အောက်၌ ရှမ်ပိန်ကို တစိမ့်စိမ့်သောက်ရင်း ကျွန်တော်တို့၏ ရှေ့ရေးကို

ဆွေးနွေးနေမိကြ၏။

ဘာဘရာနှင့် ကျွန်တော်သည် တစ်ယောက်ကိုတစ်ယောက် အသည်းစွဲအောင် ချစ်နေမိကြပေပြီ။

မကြာမီ ခွဲခွာကြရဦးမည်ဟူသော အသိကြောင့်လည်း ကျွန်တော်တို့နှစ်ယောက်မှာ တစ်ယောက်နှင့်တစ်ယောက် မျက်စိအောက်ကမှ အပျောက်မခံနိုင် ဖြစ်နေကြသည်။

ညတစ်နာရီတွင် ကပွဲပြီးသွားသောအခါ အစုံအစုံသောအတွဲတို့သည် တစ်ယောက်ခါးကိုတစ်ယောက်ဖက်လျက် ကပွဲကျင်းပရာ မြက်ခင်းပြင်မှ 'ဟန်နာ'လမ်းမကြီးအတိုင်း ထွက်ခွာလာကြသည်။

ဘာဘရာသည် ကျွန်တော့်ခါးကို တင်းတင်းကလေးဖတ်ထားရာမှ ဖြုတ်လိုက်ကာ ကျွန်တော့်လက်ကို သူ့လက်တစ်ဖက်ဖြင့်ကိုင်လျက် သူ့ဂါဝန်ဖားဖားကြီးကို အခြားလက်တစ်ဖက်ဖြင့် မ,ကာ 'ဟန်နာ'လမ်းမကြီးအတိုင်း စ၍ပြေးတော့သည်။

အခြားအတွဲများသည် ကျွန်တော်တို့အတွဲကို အားကျကာ ကျွန်တော်တို့နောက်မှ ပြေး၍လိုက်လာကြ၏။

'ဟန်နာ'လမ်းမကြီးတစ်လျှောက်လုံးမှာ မြင်းအုပ်ကြီးလွှတ်၍လာသလို ဖိနပ်သံတဖြောင်းဖြောင်း ဆူညံနေတော့၏။

ထိန်ထိန်သာနေသော လရောင်အောက်တွင် တစ်တွဲနှင့်တစ်တွဲ အော်ဟစ်နောက်ပြောင်ရင်း ဖုန်ထူသောလမ်းမကြီးတွင် တစ်တွဲထက်တစ်တွဲ ပို၍မြန်အောင်ပြေးရသည်မှာ ပျော်စရာကောင်းလှသည်။

ကျွန်တော်တို့အတွဲသည် အခြားအတွဲများကို နောက်တွင် အတော်ဝေးဝေး ချန်ထားနိုင်ခဲ့ကာ လမ်းဘေးခပ်ကျကျရှိ လျှိုကလေးတစ်ခုအတွင်းသို့ ရောက်လာခဲ့ကြ၏။ ဤအချိန်တွင် အော်သံ၊ ဟစ်သံ၊ နောက်သံ၊ ပြောင်သံ၊ ပြေးသံလွှားသံများ ရုတ်တရက် တိတ်ဆိတ်ငြိမ်သက်သွားသည်ကို သတိပြုလိုက်မိ၏။

ဘာဘရာနှင့် ကျွန်တော်တို့၏ အသက်ပြင်းပြင်းရှူသံသာ ကမ္ဘာကြီးတစ်ခုလုံးကို စိုးမိုးနေသည်ဟု ထင်ရတော့သည်။

မကြာမီရက်များအတွင်းတွင် ကျွန်တော်သည် ချစ်သောဘာဘရာနှင့် ဝမ်းနည်းစွာ ခွဲခွာခဲ့ရတော့၏။

သင်တန်းမှ ဆင်းလျှင်ဆင်းချင်း ကျွန်တော့်အား အမှတ် (၇) အိန္ဒိယ

ခြေလျင်တပ်မသို့ ကို ၂ အဖြစ် ခန့်ထားလိုက်သည်။ ကျွန်တော်သည် အမှတ်(၇) အိန္ဒိယ ခြေလျင်တပ်မတွင် တပ်မဟာတစ်ခုအဖြစ် ပါဝင်နေသော အမှတ်(၁၁၄) တပ်မဟာ၌ ဗိုလ်မှူးအဆင့်အတန်းရှိသော စစ်ဦးစီးအရာရှိ အဖြစ် တာဝန်ထမ်းဆောင်ရပေတော့မည်။

ဤအချိန်တွင် အမှတ်(၇) အိန္ဒိယခြေလျင်တပ်မသည် အိန္ဒိယပြည် မြောက်ပိုင်းရှိ 'ဘာကရေး'စခန်း၌ တပ်သားများကို လေ့ကျင့်ပေးလျက် ရှိနေလေသည်။

ကျွန်တော်သည် ချစ်သော 'ဘာဘရာ'ကို မခွဲချင် ခွဲချင်နှင့် ခွဲခွာလာခဲ့ ရသည်။

ဘာဘရာသည် ကွေတာဘူတာရုံအထိ ကျွန်တော့်ကို လိုက်ပို့သည်။

မပိုင်ဝက်မွေးဖြစ်နေသော သူနှင့် ကျွန်တော်တို့အချစ်ရေးမှာ ဘယ်နေ့ တွင် ဘယ်သောင်ဘယ်ကမ်းသို့ ဆိုက်လေမည်ကို ကျွန်တော် မခန့်မှန်းတတ်။

မိန်းမသားတစ်ဦးဖြစ်သော ဘာဘရာအတွက် ကျွန်တော်သည် များစွာ ရင်နာ၍နေမိသည်။

ဘာဘရာသည် လက်ကိုင်ပဝါအဖြူကလေးကို လေထဲတွင်ဝှေ့ယမ်း၍ ပြရင်း နောက်တွင် ဝေး၍ ဝေး၍ ကျန်ခဲ့နေရစ်ခဲ့ပေပြီ။

အချစ်ဆိုသည်မှာ 'ခွဲခွာရခြင်း'ဆိုသည့် အဓိပ္ပာယ်တစ်ခုတည်းကိုသာ ဆောင်နေလေသလား...။



# အခန်း ( ၃ )

စစ်ဦးစီးတက္ကသိုလ်ရှိရာ 'ကွေတာ'မှ ထွက်ခွာလာပြီးနောက် ၂ ရက်မြောက်သည့်နေ့ ည ၂ နာရီတွင် ဆန်အိတ်တင်သော ထရပ်ကားတစ်စီး၏ နောက်ပိုင်း၌ ဝိုက်မျဉ်းအိပ်ပျော်ရင်း အမှတ်(၁၁၄) ခြေလျင်တပ်မဟာ စခန်းချလျက်ရှိသော 'ဘာကရေး'သို့ ကျွန်တော် ရောက်လာခဲ့၏။

ဦးစီး ၂ အဖြစ် တာဝန်ထမ်းဆောင်ရပေတော့မည်။ 'ဘာကရေး'စခန်းသည် နန်ဂါပရဘတ်တောင်တန်းကြီး၏ တောင်ဘက် မိုင် ၈၀ ခန့်အကွာတွင် တည်ရှိနေသော်လည်း ဟိမဝန္တာမှလာသော သင်းပြသည့်လေကို လတ်ဆတ်စွာ ရှူရှိုက်နေရ၏။

ရက်ပေါင်းများစွာသော အညိုရောင်မိုးကာတဲများသည် ထင်းရှူးပင်များကြီးတိုးကျဲဝဲပေါက်နေသော တောင်ကုန်းကလေးများပေါ်တွင် တစ်မျှော်တစ်ခေါ်ကြီး စီတန်းလျက်...။

မိုးလင်း၍ ကျွန်တော် အိပ်ရာမှ နိုးလာသောအခါ၊ ကျွန်တော်၏ အကူရဲဘော်ကလေး ဒါးလ်ဂျစ်သာပါးသည် ကျွန်တော့် ဂေါ်ရခါးဦးထုပ်မှ မေးသိုင်းကြိုးကို ပိုး၍တိုအောင် ပြုပြင်နေသည်ကို တွေ့ရ၏။

ကျွန်တော်သည် ဒါးလ်ဂျစ်သာပါး လက်ထဲမှ ဦးထုပ်ကို ဆွဲယူလိုက်ပြီး ဦးထုပ်လက်ဝဲဘက်တွင် တပ်ဆင်ထားသော အမှတ်(၄) ဂေါ်ရခါးတပ်ရင်း တံဆိပ်ကို လက်ညိုးထိုးပြကာ...'

''ငါက ဂေါ်ရခါးတပ်က လာတဲ့လူပါကွာ...သခင်ကြီးတပ်ကလာတဲ့လူ မဟုတ်ဘူး၊ ဒီအတိုင်းပဲထားလိုက်ပါ''ဟု ဂေါ်ရခါးစကားဖြင့် ပြောလိုက်၏။

အကူရဲဘော်ကလေး ဒါးလ်ဂျစ်သာပါးသည် ကျွန်တော့်စကားကို သဘော ကျသွားကာ တစ်ချက်မျှ ပြုံးလိုက်ပြီးနောက် မေးသိုင်းကြိုးကို ပြန်၍ရှည်လာ အောင် ဆွဲချနေလေသည်။

အင်္ဂလိပ်စစ်တပ်တွင် မျက်နှာဖြူအရာရှိများသည် မျက်နှာဖြူမဟုတ်သော အရာရှိများနှင့် ကွဲပြားခြားနားလေအောင်ဆို၍ ဦးထုပ်ဆောင်းရာ၌ မေးသိုင်း ကြိုးကို အောက်နှုတ်ခမ်းအောက်တွင်သာ တင်ထားလေ့ရှိသည်။ မေးပေါ်တွင် တင်ထားခြင်းမရှိ။

ဤအချက်ကိုသိနေသော အကူရဲဘော်ကလေးက ကျွန်တော့် ခေါ်ရပါ၊ ဦးထုပ်မှ မေးသိုင်းကြိုးကို တိုအောင် ပြုပြင်နေခြင်းဖြစ်၏။

သင်တန်းတက်နေချိန်၌ စစ်ဝတ်စုံကို စနစ်တကျမဝတ်သဖြင့် အပြတ်မ်း အမှတ်လျှော့ခံခဲ့ရသော ကျွန်တော်သည် ဗိုလ်မှူးချုပ်ထံ သွားရောက်သတင်း ပို့ရမည်ဖြစ်သောကြောင့် အထူးသတိထား၍ ဝတ်ရသည်။

ကျွန်တော်သည် ဗိုလ်မှူးချုပ် မိုက်ကယ်ရွှတ်ဟတ်စ်ရောဘတ်အကြောင်း ကို နားစွန်နားဖျားမျှသာကြားထားသူဖြစ်ရာ စတွေ့လျှင်တွေ့ရချင်း ကျွန်တော့် အပေါ်တွင် မကျေနပ်စရာ တစ်ခုမျှမတွေ့ရအောင် ဂရုစိုက်ရ၏။

အင်္ဂလိပ်စစ်တပ်တွင် ဗိုလ်မှူးချုပ်လုပ်သူသည် လက်နက်ကိုင်အမှုထမ်း ကိုသာ ကွပ်ကဲရပြီး ဖိုင်တွဲကိုင်အမှုထမ်းများကို အုပ်ချုပ်ရခြင်းမရှိ။ ထို့ကြောင့် ဗိုလ်မှူးချုပ်ဟုဆိုလျှင် ခြေလျင်တပ်၊ အမြောက်တပ် စသည့် တပ်မွဲ့များကို တပ်မဟာတစ်ခုစာမျှ ကွပ်ကဲရသူသာ ဖြစ်တော့သည်။

ဗိုလ်မှူးချုပ် ဆိုသူများတွင်လည်း တောကိုတွေ့နေရသဖြင့် သစ်ပင်ကို မမြင်သူ၊ သစ်ပင်များကိုသာ တွေ့နေရသောကြောင့် တောကို သတိမထားမိသူ များ ရှိတတ်သည်။ ဤလူစားမျိုးသည် ဘာမဟုတ်သည့်နေရာတွင် အသေးစိတ် ကျတတ်ပြီး သိပ်သိပ်သည်းသည်းလုပ်ရမည့်အလုပ်မျိုးတွင် သာမန်ကာလျှံကာ သာ လုပ်တတ်သည်။

ကျွန်တော်တွေ့ရတော့မည့် ဗိုလ်မှူးချုပ်မှာ မည်ကဲ့သို့သော လူစားမျိုး ဖြစ်သည်ကို ကျွန်တော်မသိ။

ဗိုလ်မှူးချုပ်ရောဘတ်၏တဲအတွင်းသို့ ကျွန်တော်ရောက်သွားသောအခါ ကျွန်တော့်အထက်မှ တပ်မှူးအဖြစ် ကွပ်ကဲအုပ်ချုပ်ရသည့် ဗိုလ်မှူးချုပ် သည် ဖော်ရွေသောပုဂ္ဂိုလ်တစ်ယောက်ဖြစ်ကြောင်း ဝမ်းမြောက်ဖွယ် တွေ့ရှိ ရ၏။

ကျွန်တော်သည် အခြားရာထူးတစ်နေရာသို့ ပြောင်းရွှေ့သွားမည့် ဦးစီး ၂ ထံမှ စာရင်းအင်းများ၊ ဖိုင်တွဲများ၊ ငွေများ၊ လျှို့ဝှက်စာရွက်စာတမ်းများ၊ ဆိုဖာများ၊ လက်နက်နှင့် ခဲယမ်းများ၊ သော့များကို သုံးရက်တိုင်တိုင် စစ်ဆေးလက်ခံ၍ လွှဲပြောင်းယူရသည်။ ကျွန်တော့်နေရာတွင် လုပ်ကိုင်သွားသည့် အရာရှိမှာ အိန္ဒိယအမျိုးသားတစ်ဦးဖြစ်သော်လည်း အလွန်မိုလိဆန်ချင်သူတစ်ယောက် ဖြစ်သည်ကို တွေ့ရ၏။ မိုးကာတဲအတွင်းမှ သူ့ပစ္စည်းများမှ လော်ရီကားကြီးတစ်စီးတိုက်မျှပင် များပြားခမ်းနားနေတော့၏။

ကျွန်တော်တို့တပ်စခန်းမှ သူ့မော်တော်ကားကြီးထွက်သွားတော့မှ ကျွန်တော်သည် ဟင်းခနဲ သက်ပြင်းတစ်ချက်ချလိုက်နိုင်ကာ ကိုယ်လက်ပေါ့ပေါ့ပါးပါးဖြစ်သွားသည်။ ချက်ချင်းဆိုသလိုပင် အလုပ်ကို နိုင်နိုင်နင်းနင်းမှ လုပ်နိုင်ပါမလားဟူသော စိုးရိမ်စိတ်က ကျွန်တော့်ကို ဖိစီးလာပြန်သည်။

ယခုအချိန်တွင် ကျွန်တော်သည် စစ်ဦးစီးချုပ်ဌာနတွင် အရေးပါအရာရောက်သော ဦးစီး ၂ ရာထူးကို လက်ခံရရှိနေပေပြီ။ ဤရာထူးသည် အရေးပါအရာရောက်သည်နှင့်အမျှ တာဝန်ကလည်း ကြီးလေးလှ၏။ တပ်မတော်နှင့် တပ်မကြီးများတွင် ကျွန်တော်ကဲ့သို့သော ဦးစီး ၂ အရာရှိများ ဖုတ်စား၍ မကုန်နိုင်လောက်အောင် ပေါများသည်မှာ မှန်ပါ၏။ သို့သော် များစွာသော ဦးစီး ၂ တို့မှာ စာအိတ်တွင် တံဆိပ်ခေါင်းကပ်သည့် အလုပ်မျိုးနှင့်သာ အချိန်ဖြုန်းနေတတ်ပြီး အချို့မှာ သက်စွန့်ဆံဖျား တိုက်ခိုက်နေရသော ရှေ့တန်းစစ်မျက်နှာမှ စစ်သားများနောက်တွင် မိုင် ၂၀ လောက် ကပ်၍ နေရသည်ကိုပင် တကယ့်စွန့်စားခန်းတစ်ရပ်ကို လုပ်နေရသလို ထင်နေတတ်ကြ၏။

တပ်မတစ်ခုတွင် ဦးစီး ၂ အဆင့်အတန်းရှိသူ အရာရှိနှစ်ယောက်ရှိသည်။ သူတို့အပေါ်တွင် ဦးစီး ၁ တစ်ဦးရှိသည်။ တပ်မဟာတစ်ခုတွင်မူ ဦးစီး၂ တစ်ဦးတည်းသာရှိလျက် ဤတစ်ဦးတည်းသော ဦးစီး၂ ကပင် အစစအရာရာကို ဒိုင်ခံ၍လုပ်ရသည်။ တစ်နည်းဆိုလျှင် သူသည် တပ်မဟာ၏ ဦးစီးချုပ်ပင် ဖြစ်နေတော့၏။ သူ့ကို ဘရီဂိတ်မေဂျာဟုလည်း ခေါ်သည်။

သူသည် တပ်မဟာ၏ ဦးစီးချုပ် အလုပ်တာဝန်များကိုသာမက တပ်မဟာဌာနချုပ်ကိုလည်း ဦးစီးရသူဖြစ်ရာ ဌာနချုပ်တွင်ရှိသော တပ်သားများ၏ လေ့ကျင့်ရေးစည်းကမ်းနှင့် ရုံးတာဝန်များကိုပါ မလစ်ဟင်းရအောင် ဂရုစိုက်ရသည်။ တပ်မဟာတစ်ခုလုံးတွင် သူမှလွဲ၍ အာဏာအရှိဆုံး တာဝန်

အရှိဆုံးပုဂ္ဂိုလ်မှာ တပ်မဟာမှူးသာဖြစ်တော့သည်။ ဤမျှတာဝန်များပြားသောသူ့အား ကူညီရန် ဗိုလ်ကြီးအဆင့်အတန်းရှိသော ဦးစီး ၃ တစ်ယောက်တည်းသာရှိသည်။ ဦးစီး ၃ သည် 'အော'နှင့် 'ကြူ'တာဝန်များကို ကူညီထမ်းဆောင်ရသည်။

ကျွန်တော်သည် ကျွန်တော်လုပ်ရမည့် တာဝန်ဝတ္တရားကို သဘောပေါက်အောင် ထုံးစံအတိုင်း လေ့လာပြီးနောက် ကျွန်တော့်အလုပ်၏ အဓိကသော့ချက်ဖြစ်သော ဗိုလ်မှူးချုပ် မိုက်ကယ်ရောဘတ်က ကျွန်တော့်အပေါ်တွင် စိတ်ကြိုက်တွေ့နိုင်အောင် အကဲခတ်လေ့လာရပြန်သည်။

ဗိုလ်မှူးချုပ်မှာ အသက် ၄၈ နှစ် ရှိပြီဖြစ်၏။ လွန်ခဲ့သောသုံးနှစ်ခန့်က သူနှင့် တစ်ကြိမ်တွေ့ဆုံဖူးသည်။ ထိုတစ်ကြိမ်မှာလည်း ကျွန်တော် 'ကွေတာ' တွင်ရှိနေစဉ် သူ့သမီးချော'ဗလင်တိုင်'အား ကပွဲတစ်ခုသို့ 'ထုတ်'သွားစဉ်က ဖြစ်၏။

တော်ပါသေးသည်၊ ထိုစဉ်က ကျွန်တော် လူကြီးလူကောင်းတစ်ယောက်ပီပီ 'ဗလင်တိုင်'ကို ဆက်ဆံခဲ့သည်။ ထိုစဉ်ကသာ ကျွန်တော့်အကျင့်အတိုင်း 'ဗလင်တိုင်'အပေါ်တွင် 'ဗရုတ်'ကျထားခဲ့ပါမူ ယခုလို သူ့အဖေကြီးလက်အောက်သို့ ဒုတ်ဒုတ်ကြီး လာရောက်အမှုထမ်းရသည့် ကိန်းမျိုးနှင့် ကြုံလျှင် ဒုက္ခ။

အဘိုးကြီးမှာ ငါးဆယ်နားနီးနေပြီဖြစ်သော်လည်း သန်တုန်း၊ မြန်တုန်းပင်ဖြစ်သည်။ စိတ်မြန်ကိုယ်မြန်သလို ဦးနှောက်လည်းမြန်သည်။ တွေ့ကြုံလာသော အခက်အခဲကို ဖြေရှင်းပုံ၊ ဆုံးဖြတ်ပုံ၊ အမိန့်ပေးပုံမှာလည်း မြန်သည်။

ပြဿနာတစ်ခုကို မည်ကဲ့သို့ဆုံးဖြတ်၍ မည်ကဲ့သို့ အမိန့်ပေးရမှန်း မသိသော တပ်မှူးတစ်ဦးအောက်၌ ဦးစီးအဖြစ်လုပ်ရသောအရာရှိမှာ မဟာဒုက္ခကြီးနှင့် ရင်ဆိုင်တိုးရခြင်းပင် မဟုတ်ပါလား...။

တပ်မှူးဖြစ်သူ မိုက်ကယ်ရောဘတ်နှင့် တစ်ပတ်နှစ်ပတ်ခန့်တွဲ၍ အလုပ်လုပ်မိသောအခါ အဘိုးကြီးသည် သူလုပ်ရမည့်အလုပ်ကိုသာ သိနေရုံမကဘဲ ကျွန်တော်လုပ်ရမည့်အလုပ်ကိုလည်း နားလည်နေကြောင်း ထင်ထင်ရှားရှား သိလာတော့၏။

တပ်မှူးတစ်ယောက်သည် မည်သည့်အလုပ်ကိုလုပ်စေ၊ မည်သည့်အလုပ်ကို မလုပ်စေရဟု ကန့်သတ်ထားခြင်း မရှိသည့်အလျောက် အဘိုးကြီးသည်

လက်အောက်ငယ်သားများ၏ အလုပ်တွင် အချိန်မရွေး ဝင်ရောက်စွက်ဖက်နိုင်ခွင့်ရှိနေသည်။ အဘိုးကြီးသည် ကျွန်တော့်အလုပ်ခွင်သို့ဝင်၍ တောင်စပ်စပ် မြောက်စပ်စပ် လုပ်လေ့ရှိရာ ကျွန်တော့်မှာ အနေကျုံ့နေတော့၏။

ကျွန်တော်နှင့် ကျွန်တော့်လက်အောက်မှ ဦးစီး ၂ ဖြစ်သူ ဗိုလ်ကြီး ခရစ္စလိမ်းတို့သည် အဘိုးကြီးအကြိုက်ကို အလိုက်သင့်တွေ့နိုင်အောင် ကြိုးစား၍ လုပ်ကြရသည်။ သို့သော် မြေစမ်း၍ ခရမ်းပျိုးသည့်သဘောမျိုးသာ ဖြစ်နေသေးသည်။ အဘိုးကြီးအကြိုက်နှင့် အံဝင်ခွင်ကျမဖြစ်သေး။

တစ်လလောက်ကြာပြီးနောက် တစ်ခုသောညနေတွင်မှ အဘိုးကြီး စိတ်ကြိုက်နှင့် ဒက်ခနဲနေအောင် ကျွန်တော် အစွမ်းပြနိုင်မည့် အခွင့်ကောင်း ပေါ်လာတော့၏။

တစ်နေ့လုံး ရုံးအလုပ်ဖြင့် ခါးကုန်နေခဲ့ရပြီးနောက် ညနေသို့အရောက်တွင်...

"ကျုပ်တို့ရဲဘော်တွေ ကျန်းမာရေးနဲ့လည်းကိုက်အောင် တောထွင်ပြီး ချီတက်တိုက်ခိုက်တဲ့နည်းကိုလည်း ကျွမ်းကျင်အောင် သုံးလေးရက်လောက် ကြာမယ့် တိုက်ပွဲလေ့ကျင့်ခန်းတစ်ခု စီစဉ်စမ်းပါ"ဟု အဘိုးကြီးက စကားစလိုက်ပြီး သူလိုချင်သည့်တိုက်ပွဲပုံစံကို ပြောပြသည်။

ကျွန်တော်က သူပြောသမျှကို မှတ်စုဖြင့်လိုက်၍ 'တေး'မထားဘဲ စိတ်ဖြင့်သာမှတ်ထားရင်း ကျွန်တော် နားမရှင်းသည့်အချက်ကို မေးလိုက်၊ တိုက်ပွဲလေ့ကျင့်ခန်းနှင့်ပတ်သက်၍ ကျွန်တော့်ထင်မြင်ချက်ကိုပေးလိုက် လုပ်နေသည်။

ညနေ ထမင်းစားချိန်သို့ရောက်သောအခါ အဘိုးကြီးသည် စားပွဲပေါ်မှ ဦးထုပ်ကို ကောက်ကိုင်လိုက်ရင်း...

"နက်ဖြန်ကျရင် တိုက်ပွဲပုံစံအကြမ်း ဆွဲပေးမယ်၊ မောင်ရင်က အချော ကိုင်ပေးပေါ့"ဟု ပြောကာ ရုံးခန်းထဲမှ ထွက်ခွာသွားသည်။

ကျွန်တော်သည် အရာရှိရိပ်သာသို့ သုတ်ခြေတင်လာခဲ့ပြီး ချိန်ကိုက်လာအောင် ခပ်မြန်မြန်ကလေး မော့လိုက်သည်။ ထို့နောက် ဌာနချုပ်ရုံးခန်းသို့ ပြန်လာကာ အဘိုးကြီးလိုချင်သော တိုက်ပွဲပုံစံကို ကျွန်တော့်ခေါင်းထဲတွင် မှတ်သားထားမိသမျှ အကြမ်းရေးဆွဲသည်။ ပြီးလျှင် ကျွန်တော့်လက်အောက်မှ ဗိုလ်ကြီး ခရစ္စလိမ်းကို ခေါ်ယူလိုက်ပြီး စစ်ဦးစီးဌာနမှ စာရေးများ ည ၁၂ နာရီတွင် ကျွန်တော့်ရုံးခန်းသို့ လာရောက်သတင်းပို့ရန် ညွှန်ကြားထား

လိုက်၏။

ထို့နောက် ခရစ္စလိပ်နှင့် ကျွန်တော်တို့သည် တိုက်ပွဲလေ့ကျင့်ခန်းအတွက် လိုအပ်မည့် အသေးစိတ်အစီအစဉ်များ၊ အမိန့်များကို သက်ဆိုင်ရာမြေပုံများ၊ ရည်ညွှန်းချက်များဖြင့် အပြည့်အစုံရေးဆွဲကြ၏။

ည ၂ နာရီထိုးသောအခါ စစ်ဦးစီးဌာနမှ စာရေးကြီးသည် စာကူးစက်ဖြင့် လှည့်ထားသော တိုက်ပွဲပုံစံဖိုင်တွဲတစ်ခုကို ကျွန်တော့်ထံ လာရောက်ပေးပို့နိုင်တော့၏။

ကျွန်တော်သည် ထိုဖိုင်တွဲကို အဘိုးကြီး၏စားပွဲပေါ်တွင် တင်ထားလိုက်ကာ သက်ဆိုင်ရာမြေပုံများကိုလည်း မင်နီမင်ပြာဖြင့် လိုအပ်သလို 'တေး'၍ ပူးတွဲထားလိုက်ပြီး စာရွက်တစ်ရွက်ပေါ်တွင် 'စစ်ဆေးအတည်ပြုချက်ပေးပါရန်'ဟု ရေးပြီး ဖိုင်တွဲထိပ်တွင် ချိတ်ထားလိုက်သည်။

နောက်တစ်နေ့နံနက် ၁၀ နာရီတွင် အဘိုးကြီးက ခေါ်သဖြင့် ရုံးခန်းထဲသို့ ဝင်လိုက်သောအခါ ပြုံးရွှင်နေသော အဘိုးကြီးမျက်နှာကို ဦးစွာသတိပြုလိုက်မိပါသည်။

အဘိုးကြီးသည် ဖိုင်တွဲကို ကျွန်တော့်အား လှမ်းပေးရင်း...

''ကောင်းတယ်ဟေ့ ဆက်သာလုပ်'' ဟု အမိန့်ပေးလိုက်ပါသည်။

တိုက်ပွဲလေ့ကျင့်ခန်းလုပ်သည့်အချိန်မှစ၍ ကျွန်တော်နှင့် တပ်မှူးတို့သည် များစွာအလွမ်းသင့်သွားကြပါတော့သည်။

ထမင်းကောင်း၊ ဟင်းကောင်း ချက်တတ်သူသည် အစားကောင်း၊ အသောက်ကောင်းကို ရွေး၍ စားတတ်သူအား ထမင်းချက်ကျွေးရလျှင် ကျေနပ်သလို ကျွန်တော်တို့ စစ်ဦးစီးအရာရှိများသည်လည်း အလုပ်ကောင်းသည် မကောင်းသည်ကို စိစစ်တတ်၊ သိမြင်တတ်သော တပ်မှူးကိုမှ သဘောကျသည်။ မည်သည့်ဟင်းနှင့်ပင် စားရစားရ၊ စားရလျှင်ပြီးရောဟု သဘောထားသူအား ဟင်းကောင်းကျွေးကောင်း ချက်ကျွေးနေ၍ မည်သို့ အကျိုးထူးပါမည်နည်း။

တပ်မှူးမိုက်ကယ်ရော်ဘတ်ထံတွင် စစ်ဦးစီးအဖြစ် ကျွန်တော် အမှုမထမ်းမီ အခြားတပ်မှူးတစ်ဦးထံတွင်လည်း ဦးစီးအဖြစ်နှင့်ပင် အမှုထမ်းခဲ့ဖူးသည်။ ဒုတိယ ကမ္ဘာစစ်ကြီးမပြီးဆုံးမီ ကျွန်တော်သည် နောက်ထပ်၍ ဤကဲ့သို့ အရေးပါအရာရောက်သော ဌာနကြီးကို ကိုင်ကာ ၂ ကြိမ်တိုင်တိုင် အမှုထမ်းဆောင်ခဲ့ရသည်။ တပ်ရင်းတစ်ရင်းနှင့် တပ်မဟာတစ်ခုကိုလည်း

တပ်မှူးအဖြစ်အုပ်ချုပ်ခဲ့ရသည်။ ထိုတပ်မဟာတစ်ခုကိုလည်း ယာယီတပ်မှူးကြီးတစ်ဦးအနေဖြင့် ကွပ်ကဲခဲ့ရသည်။

ထို့ကြောင့် ဦးစီးတစ်ယောက်၏ 'အလုပ်'နှင့် တပ်မှူးတစ်ယောက်၏ အလုပ်မှာ မည်သို့ကွဲပြားခြားနားမှုရှိသည်ကို ကျွန်တော် ကောင်းစွာနားလည်ခဲ့၏။

တပ်မှူးတစ်ယောက်နှင့် ဦးစီးတစ်ယောက် မည်ကဲ့သို့ အလုပ်ချင်းကွဲပြားခြားနားကြောင်းနှင့် ပတ်သက်သည့် တစ်ယောက်စကား တစ်ယောက်နား အဆင့်ဆင့်ကြားခဲ့ရသော အဖြစ်အပျက်တစ်ခု ရှိနေခဲ့သည်။

ပထမကမ္ဘာစစ်ကြီးအတွင်း ၁၉၁၄ ခု၊ စက်တင်ဘာလတွင် ဖြစ်ပွားခဲ့သော တန်နင်းဘတ်ဂ်တိုက်ပွဲကြီး၌ ဂျာမန်တို့က ရုရှတို့ကို တပ်လုံးပျောက်သည်အထိ ချေမှုန်းသုတ်သင်နိုင်ခဲ့သည်။ ထို့ကြောင့် ထိုတိုက်ပွဲကြီးကို ဦးစီးကွပ်ကဲရသော ဂျာမန်စစ်သူကြီး ဗီးမာရှယ်ဗွန်-ဟင်ဒင်ဘတ်ဂ်မှာ တကယ့်သူရဲကောင်းကြီးအဖြစ် ကျော်ကြားလာတော့၏။

သို့သော် မကြာမီပင် တန်နင်းဘတ်ဂ်တိုက်ပွဲကြီး၏ သေနင်္ဂဗျူဟာကို စီစဉ်ရေးဆွဲခဲ့သူမှာ စစ်သူကြီးဟင်ဒင်ဘတ်ဂ် မဟုတ်ဘဲ သူ၏စစ်ဦးစီးချုပ်ဖြစ်သူ ဗိုလ်ချုပ်လူဒင်ဒေါ့ဖ်သာဖြစ်သည်ဟု စစ်အရာရှိလောကတွင် တီးတိုးသတင်းပျံ့လာသည်။ ထို့ကြောင့် တကယ့်သူရဲကောင်းမှာ လူဒင်ဒေါ့ဖ်သာဖြစ်သည်ဟု တစ်မျိုးပြောင်းလဲ၍ မှတ်သားခဲ့ကြပြန်သည်။

တစ်ဖန် တိုက်ပွဲကြီး၏ သေနင်္ဂဗျူဟာ အသေးစိတ် အစီအစဉ်ကို အမှန်တကယ်ရေးဆွဲခဲ့သူမှာ ဦးစီးချုပ်လူဒင်ဒေါ့ဖ်မဟုတ်။ စစ်ဦးစီးဌာနချုပ်တွင် စစ်ဆင်ရေးဌာနခွဲ၌ အမှုထမ်းနေသော ဦးစီး ၃ အဆင့်အတန်းရှိ ဗိုလ်ကြီးဟော့ဖ်မင်း၏ လက်ရာသာဖြစ်သည်ဟု သတင်းဖြစ်လာပြန်သည်။ သို့ဖြင့် ဟော့ဖ်မင်းကို တကယ့်သူရဲကောင်းကြီးအဖြစ် ချီးကျူးသူများ များပြားလာပြန်တော့သည်။ ပထမကမ္ဘာစစ်ကြီးပြီး၍ နှစ်အတန်ကြာသောအခါ ဂုဏ်သရေရှိအမျိုးသမီးကြီးတစ်ဦးက ညစာစားပွဲတစ်ခုတွင် ဗီးမာရှယ် ဗွန်ဟင်ဒင်ဘတ်ဂ်နှင့်တွေ့ဆုံရင်း တန်နင်းဘတ်ဂ်တိုက်ပွဲကြီး၏ တကယ့်သူရဲကောင်း အစစ်အမှန်မှာ မည်သူပါလဲဟု မေးမြန်းခဲ့သည်။ ဤတွင် စစ်သူကြီး ဟင်ဒင်ဘတ်ဂ်က...

"ဂုဏ်သရေရှိသော အမျိုးသမီးကြီးခင်ဗျာ၊ တန်းနင်းဘတ်ဂ်တိုက်ပွဲတွင် မည်သူ သူရဲကောင်းဖြစ်သည်ကို ကျွန်ုပ်မသိရှိခဲ့ပါ။ သို့သော် မည်သူရှုံးမည်ကိုမူ ကြိုတင်၍ သိရှိခဲ့ပါသည်"ဟု အဖြေပေးခဲ့လေသည်ဟူသော ပုံပြင်လိုလို

တကယ့်အဖြစ်အပျက်လိုလို အကြောင်းအရာတစ်ရပ်ကို ကျွန်တော်ကြားခဲ့ဖူး၏။

ရက်များကြာလာသည်နှင့်အမျှ တိုက်ပွဲလေ့ကျင့်ခန်းများလည်း တိုးတက်များပြားလာသည်။ ဤအတွင်း ကျွန်တော်တို့တပ်မဟာကို အနောက်သဲကန္တာရသို့ လွှတ်မည်ဟူသော သတင်းထွက်လာသည်။

သို့သော် တိတိကျကျမဟုတ်။

တပ်မဟာသို့ ရောက်စက နာမည်လောက်သာ၊ မျက်နှာလောက်သာ မျက်မှန်းတန်း၍ သိနေခဲ့သော အရာရှိ၊ အရာခံ၊ အကြပ်၊ တပ်သားများကို ရက်ကြာလာသည်နှင့်အမျှ ပို၍ သိရှိရင်းနှီးလာသည်။

ကျွန်တော်၏ လက်အောက်အရာရှိဖြစ်သူ ခရစ္စလိမ်းမှာ ဟာသကြွယ်သူဖြစ်သလို သဘောသကာယလည်း ကောင်းသူဖြစ်ကြောင်း တွေ့လာရသည်။ ပြဿနာပေါင်းစုံနှင့်ဆုံပြီး တစ်ခါတစ်ခါ ကျွဲမြီးတိုတတ်သော ကျွန်တော့်အား စိတ်ပြေအောင် ဖြေတတ်သူဖြစ်သည်။

ကျွန်တော်သည် ဌာနချုပ်မှ ရဲဘော်များကို အခြားတိုက်ခိုက်ရေးတပ်မှ ရဲဘော်များကဲ့သို့ အကြမ်းပတမ်းခံ၍ တိုက်နိုင်အောင် အချိန်ရသမျှ ကွင်းထဲသို့ဆင်း၍ လေ့ကျင့်ပေးသည်။ တစ်ခါတွင် ဌာနချုပ်ရဲဘော်များကို ကွင်းဆင်း၍ တိုက်ပွဲလေ့ကျင့်ခန်းပေးနေခိုက် တပ်မှူးမိုက်ကယ်ရော်ဘတ်ကိုယ်တိုင် ရောက်လာသည်။

သူရောက်လာသည့်အခိုက်တွင်ပင် အစီအစဉ်မှားပြီး တိုက်ပွဲဖရိုဖရဲဖြစ်လာ၏။ တပ်မှူးသည် တစ်နာရီခန့်ကြာအောင် ကြည့်နေပြီး ကျွန်တော့်အား အပြစ်တင်စကားမပြောဘဲ ထွက်ခွာသွားသည်။

တပ်မှူးတွင် ဤကဲ့သို့ ခွင့်လွှတ်တတ်သည့် ဉာဉ်ကလေးရှိသည်။

သို့သော် သူနှင့် ကျွန်တော်တို့ဆက်ဆံရေးတွင် အဖုအထစ်ကလေးတစ်ခုက ခိုးလိုးခုလုနှင့် မှတ်မှတ်ရရကျန်ရစ်ခဲ့သည်။

ရှေးဟောင်းအိန္ဒိယစကားပုံများအနက် လူစား ၃ စားကို ခွဲခြား၍ပြသော စကားပုံတစ်ခု ရှိခဲ့၏။

ထိုစကားပုံမှာ အစ်တီဖာကွမ်၊ ဟာဇရီကီဘက်၊ ဘာရာဖကျား ဟူသတည်း။

'ဘာရာဖကျား' မှာ နံနက်စောစော 'ကျီးမနိုးမီ'ဟူသော အဓိပ္ပာယ်ရသည်။

'ဟာဇရီကိဘက်'မှာ နံနက်စာစားပြီးနောက်'ဟု ဆိုလိုသည်။

'အစ်တီဖာကွမ်'မှာ 'အလျှဉ်းသင့်သလို'ဟု အဓိပ္ပာယ်ပြန်ရမည်ထင်သည်။

လူတစ်ယောက် မည်သည့်အချိန်တွင် အိမ်သာသို့တက်သည်ကို ကြည့်၍ လူကဲခတ်သော စကားပုံတည်း။

'ကျီးမနိုးမီ' လူစားမျိုးမှာ လုံ့လဝီရိယ ရှိတတ်သူများဖြစ်သည်။

နံနက်စာစားပြီးနောက် လူစားမျိုးမှာ ဝတ်ကျေတန်းကျေသမားများသာ ဖြစ်သည်။

"အလျှဉ်းသင့်သလို" လူစားမျိုးကား ပေါ့ပေါ့တန်တန်နေတတ်သော လူဖျင်းများတည်း။

အမေရိကန်ပြည်တွင်းစစ်တိုက်ပွဲတွင် ကျောက်နံရံဂျက်ဆင်က 'မနက်' သုံးနာရီထသော လူစားမျိုးကိုပေးပါ" ဆိုသည်မှာ 'ဘာရာဖရား' လူစားမျိုးကို ဆိုလိုရှာသလားဟု တွေးမိပါသည်။

ကျွန်တော်တို့တပ်မှူး မိုက်ကယ်ရော်ဘတ်မှာ ဘာရာဖရား၊ ကျီးမနိုးမီ လူစားမျိုးဖြစ်ကြောင်း တိုက်ပွဲလေ့ကျင့်ခန်းထွက်ရသော ညတစ်ညက အမှတ်တရ သိရှိခဲ့ရ၏။

တပ်မှူးသည် အရုဏ်မတက်ခင် တစ်နာရီခန့်ကပင် နိုးနေပုံရသည်။ သူသည် အိပ်ရာမှ ထ၍ ကြမ်းပြင်ကိုနင်းလိုက်သော ခြေသံကြောင့် ကျွန်တော် နိုးလာသည်။ ကာကီညဝတ်အင်္ကျီရှည်ကြီးကိုဝတ်ထားသော ကျွန်တော်သည် အိပ်ရာမှ လူးလဲထလိုက်၏။ လက်ထဲတွင် လက်နှိပ်ဓာတ်မီးအသင့် မှတ်စုစာအုပ်အသင့်...

"ကျွန်တော် ဘာများလုပ်ပေးရဦးမလဲ တပ်မှူး"

ကျွန်တော်က လေ့ကျင့်ခန်းနှင့်ပတ်သက်၍ တစ်စုံတစ်ခု ညွှန်ကြားစရာ ရှိနေသည်ထင်၍ ကျိုးကျိုးနွံနွံပင် မေးလိုက်၏။

ဤတွင် တပ်မှူးက...

"ကမ္ဘာပေါ်မှာ ဘယ်လောက်ပဲတော်တယ်ဆိုတဲ့ ဦးစီးပဲဖြစ်ဖြစ်၊ ဒီအလုပ်ကိုတော့ ကျုပ်အတွက် လုပ်ပေးနိုင်မှာမဟုတ်ဘူး" ဟု အသံပြတ်ပြတ်နှင့် ပြောရင်း အိမ်သာရှိရာသို့ ထွက်သွားသည်ကို တွေ့လိုက်ရသဖြင့် ကျွန်တော့်မှာ အောင့်သက်သက်ဖြစ်သွားကာ ဤအဖြစ်အပျက်ကလေးမှာ သူနှင့် ကျွန်တော်တို့၏ ဆက်ဆံရေးကြားတွင် နိုးလိုးခုလုဖြစ်၍ကျန်နေတော့သည်။

ဘာဘရာနှင့် ခွဲခွာလာခဲ့ရသည်မှာ သုံးလနီးပါးပင်ရှိလာခဲ့သည်။ သူ့ထံမှ

မာကြောင်းချာကြောင်းစာများကို မှန်မှန်ကန်ကန်ပင် ရနေခဲ့၏။

ရဝေါပင်ဒီမြို့သို့ ခေတ္တမျှအလည်သွားစဉ် ကွေတာမှရောက်လာသော စစ်ဗိုလ်တစ်ယောက်နှင့်ဆုံမိပြီး ဘာဘရာတွင် ဝမ်းကိုက်ရောဂါ စွဲကပ်နေကြောင်း ကျွန်တော်သိရှိရသဖြင့် စိတ်မကောင်းဖြစ်မိသည်။

ကျွန်တော်စိတ်ညစ်မှာစိုး၍ သူ့ကိုယ်သူ နေကောင်းပါသည်ဟု စာရေးနေသော 'ဘာဘရာ'ကိုလည်း သနားနေမိ၏။

တပ်မဟာရှိရာ 'ဘာကရေး'စခန်းသို့ ကျွန်တော် ပြန်ရောက်လာသော အခါ တပ်မဟာဌာနချုပ်မှ ကျွန်တော် ခေတ္တခွင့်ယူသွားနိုက်တွင်လည်း ကောင်းစွာလှုပ်ရှားနေနိုင်သည်ကို တွေ့ရှိရသဖြင့် နောက်ထပ်၍ ခွင့် ၁၅ ရက်ခန့်ယူပြီး 'ဘာဘရာ'နှင့် တွေ့ရန် ဆုံးဖြတ်လိုက်သည်။

ကျွန်တော်သည် 'ဘာဘရာ'အား ရဝေါပင်ဒီသို့ ဆင်းလာရန် စာရေးလိုက်ပြီးနောက် တပ်မှူးထံ ခွင့် ၁၅ ရက်ပေးရန် စာတင်လိုက်၏။

ဟိမဝန္တာတောင်တန်းကြီး၏ တောင်စွယ်တောင်တန်းတစ်ခုဖြစ်သော နန်ဂါပါဘက်နှင့် ဘာဘူဆာတောင်ကြားအနီးရှိ 'ကွန်ဟာ'ချောင်းတွင် မယ်နှင့် မောင် တွေ့ဆုံရန်တည်း။



# အခန်း ( ၄ )

မြင့်လှစွာသော ဟိမဝန္တာ တောင်တန်းတောင်စွယ် တောင်နှာမောင်းများကို ငါးကျည်တောက်ကို သွန်မှောက်လိုက်သလို တစ်ရှိန်ထိုး ကျဆင်းလာတတ်သော တောင်ကျရေများက တိုက်စားဖန်များလာသောအခါ တောင်သည် ရေစောင်း၏ဒဏ်ကို မခံနိုင်တော့ဘဲ တောင်ပေါက်လမ်းအဖြစ်သို့ ရောက်လာခဲ့ရတော့၏။

တောင်ပေါက်လမ်းများသည် ရာဇဝင်အစဉ်အဆက်ကစ၍ ပဒေသရာဇ်ကေရာဇ်တို့ စစ်ခင်းလေ့ရှိသော စစ်တလင်းများအဖြစ် တည်ရှိခဲ့သည်ကို ကမ္ဘာအနှံ့အပြားရှိ တောင်ပေါက်လမ်းဟူသမျှက သမိုင်းမှတ်တိုင်ထူလျက်ရှိသည်။

သို့သော် မြင့်မားလှစွာသော ဟိမဝန္တာ၏ တောင်ပေါက်လမ်းများသည် ပဒေသရာဇ်၊ ကေရာဇ်တို့အတွက် စစ်ခင်း၍မရနိုင်အောင် အပေါ်သို့ မြင့်တက်မတ်စောက်လျက်ရှိရာ အိန္ဒိယပြည်မကြီးပေါ်တွင် ဖြစ်ပွားပေါ်ပေါက်ခဲ့သော ရာဇဝင်အစီအစဉ်သည် နိမ့်သော အနောက်ဘက်နယ်စပ် တောင်ပေါက်လမ်းများမှ ဝင်ရောက်လာခဲ့သော အဖြစ်အပျက်များသော်လည်းကောင်း၊ ပင်လယ်ကို ဖြတ်၍ ရောက်လာခဲ့သော အဖြစ်အပျက်များသော်လည်းကောင်း၊ ဖြစ်ကြရတော့၏။

ဟိမဝန္တာတောင်တန်းပေါ်ရှိ တောင်ပေါက်လမ်းများတွင် တောင်ပေါ်နေလူမျိုးစုအချင်းချင်း၊ မိန်းမအတွက်သော်လည်းကောင်း၊ တောင်ယာအတွက်

သော်လည်းကောင်း၊ ယဇ်ပူဇော်မည့် ကျွဲနွားများအတွက်သော်လည်းကောင်း၊ လူမျိုးစုတစ်စုက တစ်စုကို ကျွန်လုပ်ရန်သော်လည်းကောင်း၊ သတ်ပွဲဖြတ်ပွဲ သွေးချောင်းစီးပွဲများ ဖြစ်ခဲ့သည်မှာ အမှန်ပင်ဖြစ်၏။

သို့သော် မြားပစ်သံ၊ ဝါးခုတ်သံများ ရပ်စဲသွားသည်နှင့်တစ်ပြိုင်နက် ဟိမဝန္တာ၏ တောများ၊ တောင်များ၊ လျှိုများ၊ မြောင်များ၊ ချောင်းများ၊ မြောင်းများသည် တိတ်ဆိတ်မြဲတိတ်ဆိတ်၊ ငြိမ်သက်မြဲငြိမ်သက်ကာ သဘာဝ၏ ပကတိတည်ငြိမ်ချမ်းမြေ့မှုသည် ပြန်လည်တည်မြဲလာပြန်လေသည်။

ဟိမဝန္တာ၏ တစ်ခုသောတောင်စောင်းမှနေ၍ ကွမ်ဟာချောင်းဆီသို့ ညနေချမ်းအချိန်တွင် ရှုကြည့်ငေးမောရသော အရသာမှာ မနောဟာဒယကို ကြည်လင်ချမ်းမြေ့စေသည်။

ဝေးသော တောင်ထိပ်များဆီမှ ရေခဲတောင်ထွတ်များမှာ စိန်တုံးကြီး တဖျစ်ဖျစ်တောက်နေသလို ဖြစ်နေသည်။

ဘာဘရာနှင့် ကျွန်တော်တို့သည် ရဝေါပင်ဒီမြို့တွင်ဆုံကြပြီးနောက် ကွမ်ဟာချောင်းဝှမ်းဆီသို့ မော်တော်ကားဖြင့်လာခဲ့ကြ၏။

မော်တော်ကားလမ်းသည် ကွမ်ဟာချောင်း လက်ယာဘက်ရှိ ပေ ၃၀၀ မြင့်သော ဘာလကွတ်စခန်းတွင် ဆုံးလျက်ရှိရာ ကျွန်တော်တို့သည် ဝန်စည်စလယ်များတင်သော လားသုံးကောင် လားသမားလေးယောက်၊ အကူရဲဘော် ဒါးလ်ဂျစ်တို့နှင့်အတူ ခြေလျင်ခရီးနှင်ကြရတော့၏။

ဘာဘရာမှာ ရဝေါကပင်ဒီတွင် ကျွန်တော်နှင့်တွေ့စက ပန်းလျှမော ဟိုက်သည့် အသွင်ရှိနေသော်လည်း သူ၏ဝမ်းကိုက်ဝေဒနာမှာ ကွေတာမှ ထွက်ခွာခဲ့သည့်နေ့ကပင် ရပ်တန့်သွားပြီဟု သိရှိခဲ့ရ၏။

ဟိမဝန္တာတောင်ခြေသို့ရောက်လာသည့်အချိန်တွင် ဘာဘရာသည် ရေ တွေ့သောပန်းလို လန်းဆန်းလာသည်ကို သတိပြုမိသည်။

ပထမနေ့တွင် ကျွန်တော်တို့သည် ပင်လယ်မြေမျက်နှာပြင်မှ အမြင့်ပေ ၄၀၀ ရှိသော 'ခန်'စခန်းရှိ ဗိုလ်တဲသို့ ခြေလျင်လှမ်းကြရ၏။

'ဘာလကွတ်'နှင့် 'ခန်'မှာ များစွာ ကွာလှမ်းခြင်းမရှိသော်လည်း အမြင့်က ပေ ၁၀၀၀ ခန့် ကွာနေသဖြင့် တောင်တက်ခရီးဖြစ်နေသည်။

ကျွန်တော်သည် ဘာဘရာကို သနားပိုနေမိလေသည်။

လမ်းထက်ဝက်သို့အရောက်တွင် ကျွန်တော်တို့နှစ်ယောက်သည် ပိုးစာပင် အောက်၌ အချိန်တော်ကြာအောင်ပင် အမောဖြေကြသည်။ အကူရဲဘော်

ဒါးလ်ကျစ်ဦးစီးသော လားဝန်တင်အဖွဲ့မှာ ကျွန်တော်တို့ရှေ့သို့ တစ်နာရီခရီးမျှ လွန်၍ ရောက်နေကြသဖြင့် တစ်တောလုံး၊ တစ်တောင်လုံးတွင် ဘာဘာရာနှင့် ကျွန်တော်တို့နှစ်ယောက်သာ ရှိနေတော့၏။

ကျွန်တော်တို့နှစ်ယောက်မှာ အပေါင်းအသင်းမိတ်ဆွေများအကြားတွင်သာ တွေ့ဆုံလေ့ရှိခဲ့ကြရာ ယခုလို နှစ်ယောက်တည်း လူသူမရှိသည့် တောစခန်းတွင် ဆုံမိကြသောအခါ ညားကာစ အကြင်လင်မယား အတူတူလက်တွဲ၍ လမ်းထွက်ရသလို ရှက်ကိုးရှက်ကန်း ဖြစ်နေမိကြ၏။

တစ်စခန်းနှင့်တစ်စခန်းမှာ မိုင်းမခြေလှမ်းဖြင့် တစ်နေကုန်လျှောက်ရလောက်အောင် ဝေးကွာရာ ကျွန်တော်သည် ညနေသို့ရောက်လာတိုင်း တောင်ကုန်းပေါ်တွင် မားမားကြီးရပ်တည်နေသော ဗိုလ်တဲသို့ဖြစ်စေ၊ ဆူညံစွာ စီးဆင်းလျက်ရှိသော စမ်းချောင်းတစ်ခု၏နံဘေးတွင် တည်ရှိနေသော တည်းခိုရေး စခန်းသို့ဖြစ်စေ မောပန်းစွာရောက်နေကြပြီး ဖြစ်နေလေသည်။

စခန်းစောင့် ဒရဝမ်များမှာ စခန်းနှင့် ၂ မိုင်မှ ၅ မိုင်အထိကွာသော တောင်ပေါ်ရွာများတွင် နေထိုင်ကြသော်လည်း စခန်းမီးဖိုခေါင်းတိုင်မှ မီးခိုးကို မြင်ရသည်နှင့်တစ်ပြိုင်နက် ကျွန်တော်တို့ထံသို့ ရောက်လာတတ်ကြသည်။

တောင်ပေါ်ညများမှာ အထူးအေးလှရာ ကျွန်တော်တို့သည် ပဲဟင်းနှင့် ထမင်းကို ဂေါ်ရခါးများစားသလို လက်များဖြင့်စားပြီး ရမ်ကို နို့နှင့်သော်လည်းကောင်း၊ ကိုကိုးနှင့်သော်လည်းကောင်း ရော၍သောက်ကာ နွေးအောင် ထွေးကြရ၏။

ကမ္ဘာ့ခေါင်မိုးဖြစ်သော ဟိမဝန္တာတောင်တန်းကြီးပေါ်မှကျော်၍ တိုက်ခတ်လာသောလေမှာ ပင်လယ်ပြင်တွင် တိုက်ခတ်နေသလိုပင် တဖြိန်းဖြိန်းမြည်နေသည်။

ဆောင်းဝင်စပြုလာမည်ပြီဖြစ်၍ ကွန်ဟာချောင်းတစ်လျှောက် မြေနိမ့်အရပ်ဒေသတွင်ပင် အချမ်းပိုလာသည်။ သိုးထိန်းသည်များသည် သိုးအုပ်ကြီးကို ပို၍နွေးသောနေရာသို့ 'မ'သွားရန် ပြင်ဆင်နေကြပေပြီ။

ကွန်ဟာချောင်းမှ စိမ်းလဲ့ကြည်လင် ငွေသားအသွင်ကိုဆောင်သော ရေအလျဉ်သည် တသွင်သွင်မြည်သောအသံကိုပြုကာ ကျောက်ဆောင် ကျောက်တုံးများကို တိုးဝှေ့စီးဆင်းနေပေပြီ။

ချောင်းတစ်ဖက်ကမ်းတွင် ထိုးထွက်နေသော သဲသောင်းစပ်ကို မှေးတင်၍ ကျန်နေသော သင်္ဂီတစ်ဝက်၊ နီတစ်ဝက်ဖြင့် ဆေးစုံစွတ်ထားသော သစ်ရွက်အချို့ တန်းစီး၍နေသည်ကို တွေ့ရ၏။

ချောင်းကမ်းဘေးနှင့်ယှဉ်၍ပြေးနေသော တောင်တက်လမ်းမှာ တစ်ခါ တစ်ခါတွင် အဝါရောင်မြေမှုန့်များ၊ တစ်ခါတစ်ခါတွင် ဟသ်ပြဒါးဆိုးထားသလို တွတ်တွတ်နီနေသော မြေမှုန့်များ၊ တစ်ခါတစ်ခါတွင်မူ နနီညိုရွှေအဆင်းရှိသည့် ကျောက်ရွက်ဝါများဖြင့် ဖုံးအုပ်နေသည်။

ကျယ်ပြန့်သောပန်းချီကားချပ်ကြီးပေါ်တွင် တက်၍ လမ်းလျှောက်နေရသကဲ့သို့တည်း။

ညနေဘက် နေရီရီတွင် အုံ့ဆိုင်းလာသော နှင်းမြူများ၊ နှင်းမိုးများနှင့် တောင်ငွေ့များသည် ကျွန်တော်တို့ရပ်နေသောနေရာကို ရှပ်တိုက်၍ ပြေးသွားပြီးနောက်မှ ခဏအကြာတွင် အပေါ်သို့ မြောက်၍တက်သွားသည်ကို မြင်နေရသည်။

ကျွန်တော်တို့သည် နှင်းငွေ့၊ မြူငွေ့ထဲတွင် ကိုယ်ရောင်ထွက်၍သွားသော နတ်သား၊ နတ်သမီးများလို ဖြစ်နေကြလေသည်။

ခရီးထွက်လာခဲ့ပြီးနောက် ၉ ရက်မြောက်သောနေ့တွင် ကျွန်တော်တို့ အစဉ်အတိုင်း လိုက်၍လာခဲ့သော ကွန်ဟာချောင်းဝှမ်း၏ ဝဲဘက်မှ တောင်ကမ်းပါးယံသည် ရုတ်တရက် ပွဲ့၍ထွက်သွားသလို မြင်ရ၏။

အရှေ့ဘက်မှ ချောင်းလက်တက်တစ်ခု ကွန်ဟာချောင်းတွင်းသို့ စီးဆင်းလာသော နေရာတည်း။

ကျွန်တော်ယူဆောင်လာခဲ့သော မြေပုံကို ဖြန့်ခင်း၍ ကြည့်လိုက်သော အခါ ထိုချောင်းလက်တက်သည် ကွန်ဟာတောင်ကြပ်ကြား အထက်ဘက် ငါးမိုင် ခြောက်မိုင်ကွာရှိ အိုင်ကြီးတစ်ခုတွင် မြစ်ဖျားခံပြီးနောက် ကွန်ဟာချောင်းထဲသို့ စီးဝင်လာကြောင်း တွေ့ရ၏။

ချောင်းလက်တက် မြစ်ဖျားခံသော ရေအိုင်ကြီးမှနေ၍ ကြည့်လိုက်လျှင် ပေတစ်သောင်းရှစ်ထောင်ငါးရာ အမြင့်ဆောင်သော မလိခပါဘက်တောင်တန်းကြီးကို ရှုမြင်ရလိမ့်မည်ဟု ထင်ရသည်။ ကျွန်တော်တို့ ရောက်ရှိနေသော ချောင်းလက်တက်နှင့် ကွန်ဟာချောင်းတို့ဆုံရာနေရာမှကြည့်ပါမူ ကွန်ဟာချောင်းကို ကာဆီးပိတ်ဆို့ထားသော တောင်ကြပ်ကြား ကမ်းပါးနှစ်ဖက်သည် မလိခပါဘက်တောင်တန်းကြီးကို လုမ်းမျှော်၍မမြင်နိုင်အောင် ဖုံးကွယ်နေသည်ကို တွေ့ရ၏။

ကျွန်တော်သည် လားသမားများအား နောက်စခန်းရှိရာသို့ ဆက်လက်သွားနှင့်ရန် ပြောဆိုလိုက်ပြီးနောက် ကွန်ဟာချောင်းသို့ စီးဝင်လာသော

လက်တက်အတိုင်း အကူရဲဘော် ဒါးလ်ဂျစ်ကိုပါခေါ်၍ အညာဘက်သို့ တက်လာခဲ့ကြ၏။

ကွန်ဟာချောင်းလက်တက်၏ အဆန်ခရီးသည် မတ်စောက်သည်နှင့်အမျှ သာယာကြည်နူးဖွယ် ရှုမျှော်ခင်းတို့နှင့်လည်း အပြည့်ရှိနေလေသည်။'

သုံးနာရီခန့်အမောခံ၍ တက်လိုက်ကြသောအခါ ချောင်းလက်တက် ချောင်းဖျားခံရာ ရေအိုင်ကြီးသို့ ပန်းလျှစွာရောက်လာကြ၏။

ဘာဘရာနှင့် ကျွန်တော်တို့သည် ရေအိုင်ကြီးထိပ်တွင် မှင်တက်မိနေသူများကဲ့သို့ ငြိမ်သက်စွာရပ်နေမိကြလေသည်။

ရေအိုင်ကြီးနှင့်တကွ ပတ်ဝန်းကျင်ရှိ ဩကာသလောကသည် ကျွန်တော်တို့နှစ်ယောက်ကို စပါးကြီးမြွေညို့သလို ညို့နေပေပြီ။

စိန်ရောင်တောက်နေသော ရေခဲတောင်ကြီး ၂ လုံးသည် ရေအိုင်ကြီးကို မျက်နှာချင်းဆိုင်အရပ်မှနေ၍ အုပ်မိုးထားကာ ထိုရေခဲတောင်ကြီး ၂ လုံးမှ ဖြာထွက်နေသော တောင်စွယ်၊ တောင်စောင်း၊ တောင်နှာမောင်းများသည် ရေအိုင်ကြီး၏ ကမ်းစပ်ဝယ် မေးတင်လျက်ရှိနေကြသည်။

ဝေးဝေးဆီတွင် မလိခ ပါဘက်တောင်တန်းကြီးသည် ရေခဲဖုံးသော တိမ်များအောက်တွင် မှိုင်းမှိုင်းပျပျ ဖြစ်နေသည်ကို တွေ့ရ၏။ ရေအိုင်ကြီး၏ တစ်ဖက်သောရေစပ်အနီးတွင် မလိခ ပါဘက်တောင်တန်းကြီးမှ ပြိုင်ဆင်းလာသော ရေခဲပြင်ကြီးတစ်ခုသည် ငြိမ်သက်စွာ လဲလျောင်းနေသည်ကို မြင်ရ၏။

ရေအိုင်ကြီးမှ ရေများသည် စိမ်းလဲ့နက်မှောင်သည့်အသွင်ကို ဆောင်နေကြသည်။ ရေပြည့်အိုးကဲ့သို့ ဘောင်ဘင်ခတ်ခြင်းလည်းမရှိ။

ရေအိုင်ပတ်လည်တွင် သစ်ပင်လည်းမရှိ၊ မြက်ပင်လည်းမရှိ၊ ကျေးငှက် တိရစ္ဆာန်လည်းမရှိ။

ရေအိုင်ကြီး၏ကမ်းစပ်တွင်မူ ရေခဲကဲ့သို့ ဖွေးဖွေးဖြူဂနေသော သစ်တို သစ်စများ မှေး၍တင်နေသည်ကို တွေ့ရ၏။

ကျွန်တော်တို့သည် ထိုသစ်တို သစ်စများကို စုဆောင်းကာ မီးဖိုတစ်ဖို ဖိုပြီးနောက် ကိုကိုးဖျော်၍သောက်ကြ၏။

ရေခဲဖုံးသောတိမ်များသည် တဖြည်းဖြည်းနိမ့်ဆင်းလာပြီး ဘာဘရာနှင့် ကျွန်တော်တို့ထိုင်နေသောနေရာကို ဖြတ်သွားသည်။

ကျွန်တော်တို့နှစ်ယောက်ဘေးတွင် ရှိနေသော မီးဖိုသည် ခဏအတွင်း မှေးမှေးမှိန်မှိန်ဖြစ်လာရုံမက ကျွန်တော်တို့၏ စက္ခုအာရုံမှပင် ပျောက်ကွယ်

သွားသည်ဟုပင် ထင်လိုက်ရ၏။ သို့သော် မကြာလှပါ။ မျက်လှည့်ပြလိုက်သလိုပင် မီးဖိုကို ကျွန်တော်တို့ ပြန်၍မြင်ရ၏။

ကျွန်တော်တို့သည် အိပ်မက်ကမ္ဘာသို့ပင် ရောက်နေလေသလားဟု ထင်မှတ်နေရလေသည်။

အကူရဲဘော် ဒါးလ်ဂျစ်သည် ရိက္ခာသံဘူးထဲမှ ချပါတီနှစ်ချပ်ကို ထုတ်ယူပြီး အိုင်ကြီး၏ရေစပ်သို့ ဆင်းသွားကာ အရှေ့တောင်ဘက်သို့ မျက်နှာမူ၍ ရပ်ရင်း ပါးစပ်မှ တီးတိုးရွတ်ဆိုနေသည်ကို မြင်ရ၏။

သူ၏ဇာတိဖြစ်သော နီပေါပြည်သည် ရေအိုင်ကြီး၏ အရှေ့တောင်ဘက်တွင် တည်ရှိနေလေသည်။

ခဏကြာလျှင် ချပါတီနှစ်ချပ်ကို အနီးရှိ ကျောက်ဖျာတစ်ချပ်ပေါ်တွင် တင်ထားခဲ့ပြီး ပြန်လာသော ဒါးလ်ဂျစ်ကို တွေ့ရသည်။

ကျွန်တော်တို့သည် ချောင်းလက်တက်အတိုင်း ပြန်၍ခုန်ဆင်းလာကာ ကွန်ဟာချောင်းဆုံသို့ ဦးလှည့်ခဲ့ကြ၏။

ဖိနပ်သံခွာနှင့် အောက်မှ ကျောက်တုံးတို့ ထိသံပွတ်သံမှာ သာယာနာပျော်ဖွယ်ကောင်းသော ဂီတဟုပင် ထင်နေရလေသည်။

နေမှာ ထွန်းတောက်နေသော်လည်း နှင်းပွင့်များ တဖွဲဖွဲကျနေ၏။

ကျွန်တော်တို့သည် ကိုင်းတောနှင့် ထင်းရှူးတောများကို ဖြတ်ကာ ဗိုလ်တဲသို့ ရောက်လာကြသည်။

ဘာဘရာမှာ ဟိမဝန္တာ၏ သန့်ရှင်းသောလေကို ရှူရှိုက်ကာ နေ့စဉ်မှန်မှန် လမ်းလျှောက်နေရသောကြောင့် လန်းဆန်းကျန်းမာနေလေသည်။

ဒါးလ်ဂျစ်တို့လူသိုက်က ညစာချက်ပြုတ်ရင်း အလုပ်များနေစဉ် ဘာဘရာနှင့် ကျွန်တော်သည် ဗိုလ်တဲအတွင်းရှိ မီးဖိုဘေးတွင်ထိုင်ရင်း ရမ်ဖန်ခွက်ကိုယ်စီဖြင့် ရှိနေကြ၏။

''ဝမ်းကိုက်ရောဂါ ပျောက်သွားတာကတော့ အတော်ကို အံ့သြဖို့ကောင်းတယ်''

ကျွန်တော်သည် လှပဖွံ့ဖြိုးနေသော ဘာဘရာ၏ ကိုယ်ခန္ဓာလေးကို ရွှန်းရွှန်းစားစားကြည့်ရင်း မှတ်ချက်ချလိုက်၏။

''ဝမ်းကိုက်တာကို ဆရာဝန်နဲ့ စစ်ဆေးကြည့်တော့လည်း ဘာမှမတွေ့ရဘူး။ စတုတ္ထအကြိမ် ဝမ်းကိုက်ရောဂါနဲ့ အိပ်ရာထဲမှာ လဲနေတော့ ဆရာဝန်ဟာ ဆေးတောင်မထိုးပေးတော့ဘူး။ ခင်ဗျား စိတ်ချမ်းချမ်းသာသာရှိရဲ့လား

လို့သာ မေးတော့တယ်။ ဒီတော့ စိတ်မချမ်းမသာ ဖြစ်နေရတဲ့အကြောင်း ဖွင့်ပြောလိုက်တော့...ဆရာဝန်က ခင်ဗျား တစ်နေရာရာမှာ ချက်ချင်းအနား သွားယူပါ။ ဒီလိုမှမယူရင် ခင်ဗျားအသက်ကိုတောင် ထိခိုက်နိုင်တယ်လို့ ပြောတယ် မောင်ရယ်..."

ဘာဘရာသည် ဖြည်းဖြည်းနှင့်လေးလေး ပြောနေလေသည်။

"မောင့်ဆီကို သံကြိုးရိုက်လိုက်ပြီး ကွေတာက ထွက်လာမယ်လဲလုပ်ရော အိန္ဒုမြစ်က ရေလျှံပြီး ကွေတာဟာ ရဝေါပင်ဒီနဲ့ အဆက်အသွယ်ပြတ်နေပြန် ရော။ ပြီးတော့ စစ်ဘက်ကလည်း စစ်ကိစ္စနဲ့ပတ်သတ်တဲ့လူတွေမှ ခရီးသွားခွင့် လက်မှတ်ထုတ်ပေးတော့ ခက်နေပြန်တာပေါ့။ ဒါနဲ့ ဘုံဘေကို ပြန်ချင်တဲ့ ဘာဘရာ အစ်မတစ်ယောက်ရယ်၊ အိမ်မှာခိုင်းထားတဲ့ လူတစ်ယောက်ရယ် အဖော်ခေါ်ပြီး မီးရထားစီးလာခဲ့ကြတယ်။

"ဘလူးချစ္စတန် ကုန်းပြင်မြင့်အဆုံးကို ရောက်တယ်ဆိုရင်ပဲ အိန္ဒု မြစ်က လျှံပြီးတက်လာခဲ့တဲ့ ရေတွေ ဖွေးဖွေးလှုပ်နေတော့ ခရီးအဆက်ရ ခက်နေပြန်ပါလေရော..."

ဘာဘရာသည် ကျွန်တော်နှင့် ရဝေါဒီတွင် ချိန်းထားသည့်အချိန်အတိုင်း ရောက်လာနိုင်ရန် ကမ်းလျှံ၍နေသော အိန္ဒုမြစ်ကြီးကို လှေကလေးတစ်စင်း ဖြင့် ဖြတ်ကူးလာခဲ့ရသည်။

ကျွန်တော်သည် ဘာဘရာကို အံ့ဩနေမိလေသည်။

အိန္ဒုတစ်ဖက်ကမ်းသို့ ရောက်လာပြန်သောအခါလည်း မော်တော်ကား ဟူ၍ တစ်စင်းတလေမျှ ရှာမရသောကြောင့် မိုင် ၂၀ ခန့် တောလမ်းခရီးကို မြင်းလှည်းကလေးဖြင့် ဆက်၍လာခဲ့ရပြန်သည်။ လမ်းတစ်လျှောက်တွင် ရွာအနည်းငယ် တွေ့ရှိရသော်လည်း ရွာသူရွာသားများမှာ အိန္ဒိယပြည် ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီ၏ နိုင်ငံရေးလှုံ့ဆော်ချက်ကြောင့် အင်္ဂလိပ် ဆန့်ကျင်ရေးစိတ်ဓာတ်များ ပြင်းထန်လျက်ရှိသည်ကို ချိတ်ဆွဲထားသော ပိုစတာများ၊ အလံများအရ သိရှိရသည်။

အယူသည်းနိုင်ငံရေးသမားအချို့သည် ခေါင်းဆောင်ကြီးဂန္ဒီ၏ သေသည် အထိ ဆန္ဒပြရမည်ဟူသော ကြွေးကြော်သံကို အဓိပ္ပာယ်တလွဲကောက်ယူကာ မီးရထားလမ်းများ၊ တံတားများနှင့် သယ်ယူပို့ဆောင်ရေး မော်တော်ကားများ ကို အကြမ်းဖက်၍ ဖောက်ခွဲဖျက်ဆီးပစ်နေသည့်အချိန် ဖြစ်နေလေသည်။

ဤမျှခက်ထန်သော ကန္တာရကို ဖြတ်ကျော်၍ ကျွန်တော့်ထံ စွန့်စွန့်

စားစားလာခဲ့သော ဘာဘရာသည် ကျွန်တော့်ကို မည်မျှချစ်သည်ကို သက်သေထူနေပေပြီ။

''မောင်တို့ လက်ထပ်ကြပါစို့လား ဘာဘရာ''

ဘာဘရာသည် ချစ်ရည်ရွှန်းလဲ့သော စိမ်းညို့ရောင်မျက်လုံးအစုံဖြင့် ကျွန်တော့်မျက်နှာကိုကြည့်ရင်း သူ့ခေါင်းကို ညင်သာစွာ ညိတ်လိုက်သည်။

''ဒါပေမယ့် တစ်ခုတော့ စောစောက ပြောထားပါရစေ ဘာဘရာ...''

ကျွန်တော်က ပြောမည့်စကားလုံးများကို ခေါင်းထဲတွင် နေသားတကျဖြစ်အောင် စီစဉ်လိုက်ပြီးမှ ဆက်၍ပြောလိုက်သည်။

''ဘာဘရာဟာ ဘယ်တော့မှ ဗိုလ်ချုပ်ကြီးဆာဂျွန်မာစတာရဲ့ကတော်လေဒီမာစတား ဖြစ်လာနိုင်မယ်မဟုတ်ဘူး ဆိုတာကိုတော့ ခုကတည်းက သိထားစေချင်တယ်''

''မောင့်ဆန္ဒ၊ မောင့်သဘောတွေကို ဘာဘရာ သိထားပြီးသားပါ မောင်ရယ်၊ ဘာဘရာက မောင့်ကို လက်ထပ်မယ်လို့ သဘောတူလိုက်တာဟာ ဒီလိုရာထူး ဂုဏ်ထူးနဲ့ ငွေကြေးအတွက် မျှော်လင့်လို့ မဟုတ်ဘူးဆိုတာ မောင် သိစေချင်ပါတယ်''

''ဒီလိုကြားရတာ ဝမ်းသာပါတယ် ဘာဘရာ၊ မောင့်မှာ ငွေကြေးစုပြီး ဆောင်းပြီးသားရှိတဲ့လူ မဟုတ်သလို ဘယ်သူ့ဆီကမှ အမွေရနိုင်မယ့်လူလည်း မဟုတ်ပါဘူး။ ဒီအထဲမှာ မောင်ဟာ မောင်ချစ်တဲ့ ဂေါ်ရခါးစစ်သားတွေကို ဘယ်လိုမှ ခွဲနိုင်မှာ မဟုတ်ဘူးဆိုတာကိုလည်း မောင်သိနေတယ်။ တကယ်လို့ မောင့်ကို ဗိုလ်ချုပ်ကြီးရာထူးကို ပေးပါ့မယ်၊ မောင်ချစ်တဲ့ ဂေါ်ရခါးစစ်သားတွေနဲ့တော့ ခွဲရမယ်ဆိုရင် မောင်ဟာ ဗိုလ်ချုပ်ကြီးရာထူးကို လွယ်လွယ်ကလေးနဲ့ စွန့်ပစ်လိုက်မယ့်လူပါ။ မောင့်ရဲ့ဆန္ဒကို မောင့်ရဲ့လောဘကြောင့် ဘယ်တော့မှ အပျက်မခံဘူးဆိုပြီး သန္နိဋ္ဌာန်ချထားတဲ့အတွက် ဘာဘရာကို ဒီလိုစကားမျိုးတွေ ပြောနေရတာပါ ဘာဘရာ။ မောင့်ကို ခွင့်လွှတ်ပါ''

ဘာဘရာသည် ရှိုက်၍ ရှိုက်၍ ငိုနေလေသည်။

''မောင် ဘယ်အခြေအနေပဲရောက်ရောက်၊ ဘာပဲဖြစ်နေဖြစ်နေ ဘာဘရာ မောင့်ကို အမြဲချစ်နေမယ်ဆိုတာ ယုံပါမောင်ရယ်...''

ကျွန်တော်သည် ဘာဘရာကို ချော့မော့နေရလေသည်။

အမှန်တော့ ဘာဘရာသည် ကျွန်တော့်ကို ချစ်၍သာ၊ ယုံ၍သာ၊ ပုံ၍သာ သမုဒ္ဒရာကြီးတစ်စင်းလို ကျယ်ပြောခက်ထန်နေသော အိန္ဒိယမြစ်ကြီးကို

လေ့ကလေးတစ်စင်းဖြင့် ဖြတ်ကူးကာ အင်္ဂလိပ်ဆန့်ကျင်ရေးစိတ်ဓာတ်ပြင်းထန်နေသည့်အလျောက် အခွင့်သာတိုင်း အကြမ်းဖက်နေသော တောလမ်းတောင်လမ်းများကို မြင်းလှည်းကလေးတစ်စီးဖြင့် ဖြတ်ကျော်လျက် ကျွန်တော့်ထံမှောက်သို့ အရောက်လာခဲ့သည် မဟုတ်ပါလား။

ဟိမဝန္တာ၏ 'ဆောင်း'သည် နှင်းမုန်တိုင်းများကို အဖော်ပြုကာ ကွန်ဟာ ချောင်းဝှမ်းတိုင် သက်ဆင်းလာခဲ့ပြီ ဖြစ်သည့်အလျောက် နွေရာသီတွင် လွင်ပြင်များရှိရာဒေသသို့ သွားလာအနားယူနေခဲ့သော နယ်ခြားစောင့်စစ်တပ်မှ စစ်သားများပင် 'ဆောင်း'မထန်မီ 'ဘာဘူဆာ'တောင်ကြားရှိ ကင်းစခန်းများကို တာဝန်ထမ်းဆောင်ရန် ကွန်ဟာချောင်းဝှမ်းအတိုင်း ပြန်လာကြသည်ကို တွေ့နေရပေပြီ။

မကြာမီရက်များအတွင်း ကွန်ဟာချောင်းဝှမ်းသည် ခရီးသည်များ သွား၍လာ၍မရသော ကန္တာရကြီးအဖြစ်သို့ ပြောင်းလဲလာပေတော့မည်။

နယ်ခြားစောင့် စစ်ရဲမက်များနောက်မှ နွေရာသီတွင် အာရှအလယ်ပိုင်းဒေသ၌ လှည့်လည်ကျက်စားနေခဲ့သော 'ပိုဝင်ဒါ'လူမျိုးအုပ်စုအချို့သည် ကုလားအုတ်တန်းကြီးကို သူတို့ရှေ့မှတင်၍မောင်းကာ အိန္ဒိယပြည်ထဲသို့ ပြန်၍ ဝင်လာကြသည်ကိုလည်း တွေ့နေရပေပြီ။

ကျွန်တော်တို့သည် သူတို့နောက်နားမှ ကပ်လျက် ကွန်ဟာချောင်းဝှမ်းအတိုင်း အောက်သို့စုန်၍လာခဲ့ကြသည်။

ရဝေါပင်ဒီသို့ ပြန်ရောက်သောအခါ ကျွန်တော်သည် ချစ်သောဘာဘာရာကို ခွဲခွာကာ 'ဘာကရေး'စခန်းသို့ ပြန်လာခဲ့ရတော့သည်။

x x x

တပ်မဟာစခန်းချလျက်ရှိသော 'ဘာကရေး'သို့ ရောက်လျှင်ရောက်ချင်း ကျွန်တော်သည် တပ်မှူးဖြစ်သူ မိုက်ကယ်ရောဘတ်ထံ သတင်းပို့သည်၊ ထို့နောက် ကျွန်တော်သည် ကာမပိုင်ရှိသော အမျိုးသမီးတစ်ဦး၏ လင်မယားကွာရှင်းရေးကိစ္စတွင် အရေးကြီးသော လူတစ်ယောက်အဖြစ် ပါဝင်လာရတော့မည့်အကြောင်းကို ဖွင့်၍ အစီရင်ခံလိုက်၏။

တပ်မှူးသည် ကျွန်တော့်ထံမှ အစီရင်ခံချက်ကိုကြားစက အတော်ပင် ဒေါသဖြစ်သွားသည်။ သို့သော် ကျွန်တော်က ဖြစ်သမျှဇာတ်လမ်းစုံကို အကုန်

ဖွင့်၍ပြောလိုက်သောအခါ…

''ဒီလိုဆိုတော့လည်း မောင်ရင့်ကို အပြစ်တင်ဖို့ ခဲယဉ်းသားပဲ။ ဘာပဲဖြစ်ဖြစ် ပျော်ရွှင်ချမ်းမြေ့တဲ့ အိမ်ထောင်စုတစ်ခု ဖြစ်လာမယ်ဆိုရင်တော့ မောင်ရင့်ကို ခွင့်လွှတ်ရမှာပဲဟု ဖြည်းလေးစွာ မှတ်ချက်ချလိုက်သည်။ ပြီးမှ–

တပ်မှူးသည် သူ့ကက်ဦးထုပ်မှ အနီပတ်ကြီးကို လက်ညိုးညွှန်၍ပြရင်း…

''သာယာတဲ့အိမ်ထောင်တစ်ခုကိုသာ ရယူနိုင်မယ်ဆိုရင် ဟောဒီလို တပ်မှူးရာထူးကို ဆယ်ခါတောင်စွန့်ပစ်နိုင်ပါသေးတယ်ဟု ဆက်၍ပြောလိုက်ပါသည်။

ရက်များမကြာမီပင် ဘာဘရာထံမှ ကွေတာသို့ ပြန်လည်ရောက်ရှိပြီဖြစ်ကြောင်း သူ့ယောက်ျားနှင့် တရားဝင်ကွာရှင်းပြီးခြင်း မရှိသေးသော်လည်း အိမ်ခွဲ၍နေပြီဖြစ်ကြောင်း စာရရှိခဲ့သည်။

နောက် ၂ လအတွင်းတွင် ဘာဘရာနှင့် ကျွန်တော်သည် ၂ ခါသာ လူချင်းဆုံခွင့်ရသည်။ ရပြန်တော့လည်း တစ်ခါလျှင် တစ်ရက်မျှသာ…

တပ်မဟာ၏ လေ့ကျင့်ရေးတိုက်ပွဲများမှာ ပိုမိုများပြားလာကာ နားရသည့်အချိန်ဟူ၍ပင် မရှိတော့။

ဒီဇင်ဘာလသို့ ရောက်လာသောအခါမူ အနောက်သဲကန္တာရသို့ ချီတက်ရမည်ဟူသော သတင်းကြောင့် ကျွန်တော်တို့တစ်တွေမှာ ပြောင်းရွှေ့ချီတက်ရန်အတွက် အစစအရာရာ အသင့်ပြင်ဆင်နေရသည်။

သို့သော် ဇန်နဝါရီလသို့ ကူးလာသောအခါ ကျွန်တော်တို့တပ်မဟာမှာ အိန္ဒိယပြည်အလယ်ပိုင်းသို့ ပြောင်းရွှေ့ရန် အမိန့်ရလာသည်သာမက သဲကန္တာရတိုက်ပွဲ လေ့ကျင့်ခန်းများအစား တောတွင်းတိုက်ပွဲလေ့ကျင့်ခန်းများကိုသာ ပြုလုပ်ရန် ညွှန်ကြားချက်ရရှိလာတော့၏။

ကျွန်တော်တို့သည် ဂျာမန်များကို မတိုက်ရတော့ဘဲ အရှေ့ဘက်မှ ဂျပန်များကို ရင်ဆိုင်ရပေတော့မည်။

အနောက်ဘက်စစ်မျက်နှာတွင် သေနင်္ဂဗျူဟာသည် လျင်မြန်စွာ ပြောင်းလဲနေပေပြီ။ သို့သော် ကျွန်တော်တို့တပ်မဟာမှာ စစ်ထွက်ရတော့မည်ဟူသော အသိဖြင့် 'ချီတက်'ရမည့်အမိန့်ကိုစောင့်ရင်း သုံးလကျော်ကျော် လေးလအတွင်းသို့ ရောက်လာသည်အထိ 'နေမြဲ' ဖြစ်နေလေသည်။

ကျွန်တော်သည် သည်းမခံနိုင်လောက်အောင် ဖြစ်လာသည်။

'စစ်ထွက်ရရင်လည်းထွက်၊ မထွက်ရရင်လည်း ဘာဘရာရဲ့ ရင်ခွင်ထဲမှာ

နေပါရစေ။ ဒီလို ဟိုမရောက် ဒီမရောက်တော့ မနေပါရစေနဲ့ဘုရား…”

ကျွန်တော်သည် ဘုရားကိုပင် တိုင်တည်မိပါတော့၏။

ကျွန်တော်တို့ တပ်မဟာအခြေစိုက်စခန်းချထားသော ‘ချီမင်ဝါရာ’မြို့က လေး၏ ပတ်ဝန်းကျင်မှ စစ်သားအပြည့်တင်ဆောင်ထားသော ရထားများ ဂျုံးဂျုံးဂျက်ဂျက်မြည်သောအသံကိုပေးရင်း အိန္ဒိယပြည် တောင်ဘက်သို့ ထွက်ခွာသွားသည်ကို တွေ့နေရတိုင်း စစ်မြေသို့လည်းမရောက်၊ ချစ်သူထံသို့လည်း မပေါက်နိုင်သော ကျွန်တော့်အဖြစ်ကို ကြိတ်မနိုင်ခဲမရ ဖြစ်နေမိလေသည်။

ကျွန်တော်တို့တပ်မဟာ စခန်းချခဲ့သောနေရာကို ယခုအချိန်တွင် ‘မဒရာပရာဆတ်’ ခေါ်ဝေါ်နေကြ၏။ ဤအရပ်ဒေသတစ်ပြင်တစ်ခွင်တွင် ကျွန်းပင်ပုကလေးများနှင့် ကျောက်တုံးကျောက်ခဲကလေးများသည် တစ်ကန့်စီ မင်းမူနေပြီး တောဝက်နှင့် သမင်၊ ဝက်ဝံနှင့် ကျားသစ်တို့ စစ်ခင်းလေ့ရှိသော ဒေသဖြစ် သည်။

စခန်း၏ အရှေ့ဘက်စူးစူးတွင် ‘ဆီအိုနီ’ တောင်တန်းကြီးနှင့် ‘ဝိုင်ဂန်ဂ’ မြစ်တို့သည် စုလျားရစ်ပတ်လျက်ရှိနေကြ၏။ ဤတော၊ ဤတောင်နှင့် ဤမြစ်ကမ်းစပ်များတွင် ကျွန်တော်သည် အကူရဲဘော်ဒါးလ်ဂျစ်တစ်ဦးတည်း လိုက်ပါလျက် တိုက်ပွဲလေ့ကျင့်ခန်းများ ပြုလုပ်၍ ကောင်းမည့်နေရာများကို လှည့်လည်ရှာဖွေနေခဲ့ရလေ၏။

ဇန်နဝါရီလမှ ဖေဖော်ဝါရီလသို့ ရောက်ရှိလာသည်။ သို့တိုင်အောင် ကျွန်တော်တို့ စစ်မထွက်ရသေး။

‘ဆီအိုနီ’နှင့် ‘ဝိုင်ဂန်ဂ’ မြစ်တစ်လျှောက်တွင် ခြေရာချင်းထပ်အောင် လျှောက်ခဲ့ရသော ကျွန်တော့်မှာ သစ်ပင်ရိပ်ကောင်းကောင်းတွင် ခိုနားနေစဉ် ကာမှ အင်္ကျီမှာ ချွေးစို၍ရလောက်အောင် ချွေးများဖြင့် နစ်နေလေသည်။

ကျောက်တုံးကျောက်ခဲများကို ဖြတ်၍စီးဆင်းနေသော ‘ဝိုင်ဂန်ဂ’မြစ်မှ ရေစီးသံ၊ ကျေးငှက်သာရကာတို့ တွန်ကျူးသံ၊ သင်္ဂီတစ်ဝက် မြူတစ်ဝက် ဖြစ်နေသော သစ်ရွက်များ၊ လေအထတွင် ကြွ၍တက်လာသော ဖုန်မှုန့်များ၊ ဤအထိမ်းအမှတ်များက နွေသို့ရောက်လာတော့မည်ကို ဆီးကြိုလှစ်ဟနေကြ၏။

ဤအချိန်တွင် မလေးယားတိုက်ပွဲ၌ တစ်နှစ်ကျော်ကျော်ကပင် ပျောက်ဆုံးနေသည်ဟု ယူဆထားရသော ကျွန်တော့်ညီ အလက်ဇ်မှာ ဂျပန်များလက်

တွင်းတွင် သံ့ပန်းအဖြစ် ရောက်ရှိနေသည်ဟူသော သံကြိုးစာ ကျွန်တော့် ဖခင်ထံမှ ရောက်ရှိလာလေသည်။

ဖေဖော်ဝါရီလမှာ လည်ချောင်းကွဲအောင် ပူအိုက်သော မတ်လသို့ ကူးလာခဲ့ပြန်၏။

ညအချိန်တွင် ခရမ်းရောင်အသွင်ရှိသော ကောင်းကင်မှ ကြယ်ကလေး များပင် ပူအိုက်သောသဏ္ဍာန်ကို ဆောင်နေကြ၏။

ကျွန်တော်တို့သည် အရာရှိရိပ်သာတွင် ညဥ့်နက်အောင်ထိုင်ရင်း ပူအိုက် သည့်ဒဏ်ကို တတ်နိုင်သမျှ တွန်းလှန်နေကြရသည်။

အိပ်နှင့် ဖော်ကွာဝေးနေသဖြင့် အရက်ကိုသာ ဆေးအဖြစ် မှီဝဲနေရသော စစ်ဗိုလ်ကလေးတစ်ယောက်သည် မှုးမှုးနှင့် စားပွဲခုံပေါ်တွင် မျက်နှာကို မှောက်ချလိုက်ပြီး...

''မိန်းမတွေရဲ့ ရွှေရင်အုံဟာ တယ်လို့ပဲ ခုံမင်စရာကောင်းပါကလား။ ငါကိုယ်တော်မြတ်မှာ အတောင်တစ်စုံလောက် ရှိစမ်းချင်ပေ့ါ မောင်မင်း''ဟု ဇာတ်ဟန်ပါပါ ညည်းတွားသံကို ကြားလိုက်ရသည်။

ကျွန်တော်သည် ချစ်ရခင်ရ ကြင်နာရသော ဘာဘာရာကို လွမ်းနေမိ လေသည်။

ဘာဘာရာသည် ကေ့တာမှ ရဝေါပင်ဒီမြို့သို့ ပြောင်းရွှေ့လာခဲ့ပြီဖြစ်၏။ သူသည် ထိုမှတစ်ဆင့် ဘုံဘေရှိ သူ့အစ်မထံ ထပ်မံပြောင်းရွှေ့နေမည်ဟု အစီအစဉ်ရှိနေသည်။

မတ်လတစ်လလုံး စစ်ထွက်ရနိုး မျှော်ကိုးရင်း ကုန်သွားပြန်၏။

ဒယ်အိုးကြီးကို မှောက်ထားသည်နှင့်တူသော ကောင်းကင်ပြင်သည် ခဲသား ရောင်ထနေသော နေမင်း၏ အပူရှိန်က မခံမရပ်နိုင်အောင်ရှိလှသည်။

တန်ခူးရာသီသို့ တိုင်ခဲ့ပြီဖြစ်၍ အနောက်လေထန်လာသည်။

လေပြင်းသည် မိုးကိုအဖော်ခေါ်၍လာကာ ကျွန်တော်တို့အခန်းတစ်ပိုက်ကို ရုတ်ခြည်းပင် တိုက်ခိုက်သည်။ လေပြင်းမစဲမီပင် ပတ်ဝန်းကျင်ရှိ သရက်ပင် များမှ သီးကင်းစ သရက်သီးများမှာ ပြောင်သလင်းခါသွားတော့သည်။

ရွာလာဘိ သည်ခါမဲ့မိုး...

မေလသို့ ကူးခဲ့ပြန်သည်။

တစ်ခုသောနေ့တွင် တပ်မှူးက...

''စစ်တော့ထွက်ရတော့မယ်။ မောင်ရင့်အဆက်နဲ့ တွေ့သေးသလား''ဟု

ဆိုလာသည်။

ကျွန်တော်သည် တပ်မှူး၏ ခွင့်ပြုချက်အရ ခွင့် ၁၄ ရက်ယူကာ ဘာဘရာရှိရာ ဘုံဘေသို့ အကူရဲဘော်ဒါးလ်ဂျစ်ကိုပါ ခေါ်၍ သုတ်ခြေတင်ခဲ့သည်။

ကျွန်တော်တို့တပ်မဟာအပါအဝင်ဖြစ်သော အမှတ်(၇) အိန္ဒိယတပ်မမှာ ပြင်းထန်သောတိုက်ပွဲကြီးများ ဖြစ်နေသည့် ရရိုင်စစ်မျက်နှာသို့ အပို့ခံရမည်မှာ သေချာသလောက် ဖြစ်နေသည်ကို ကျွန်တော်သိထား၏။

ရရိုင်စစ်မျက်နှာရှိ ဗြိတိသျှတပ်များသည် 'ဘိုးရားစစ်ပွဲတုန်းက မှားခဲ့သော အမှားမျိုးကို ထပ်၍မှားကာ ရန်သူ့လက်ဝယ် အလူးအလဲခံနေရလေသည်။ ဤအခြေအနေကို ပြောင်းပြန်ဖြစ်၍လာအောင် ကျွန်တော်တို့တပ်မဟာ အပါအဝင်ဖြစ်သော အမှတ်(၇) တပ်မက တိုက်ပေးရတော့မည်ဖြစ်၏။

ကျွန်တော်သည် ဘုံဘေသို့ ရောက်သွားပြီးနောက် ဘုံဘေမြောက်ဘက် ၁၅ မိုင်ကွာရှိ 'ဂျူဟူ' ဆိပ်ကမ်းသာတွင် အခန်းကလေးတစ်ခန်းငှားလိုက်၏။

ကောင်းကင်က ဖန်ရောင်တောက်နေသလို နေကလည်း ချစ်ချစ်တောက်ပူပြင်းလှသည်။ တစ်ခါတစ်ခါတွင် ဝေးဝေးဆီမှ မိုးချုန်းသံများကို ကြားရ၏။

မှောင်စပျိုးသည့်အချိန်တွင် ဘာဘရာနှင့် ကျွန်တော်သည် သဲသောင်စပ်တွင် လဲလျောင်းရင်း ချစ်တင်းစကားဆိုကြသည်။

ပြော၍မကုန်နိုင်သော စကားလက်ဆုံပါတကား...

ဘာဘရာက သူ့ယောက်ျားနှင့် တရားဝင် ကွာရှင်းပြတ်စဲခွင့်ပြုရန် လွယ်ကူမည်မဟုတ်ကြောင်း၊ ကွာရှင်းရန် ငြင်းဆန်နေကြောင်း ကျွန်တော့်ကို ပြောပြသည်။

စစ်မြေပြင်သို့ ထွက်ရတော့မည့်ဆဲဆဲဖြစ်သော ကျွန်တော်သည် နောက်ဆံတင်းရပြန်ပေပြီ။

ဘာဘရာနှင့် ကျွန်တော့်မှာ အချစ်နယ်တွင်းသို့ ခရီးလွန်ခဲ့ကြပြီဖြစ်၍ မည်သည့်နည်းနှင့်မျှ ပြန်၍ နောက်မဆုတ်နိုင်တော့။

သို့သော် တရားဝင်နေသူက ကွာရှင်းခွင့်ပေးရန် ငြင်းဆန်နေသော အခါ...

ကျွန်တော့်မှာ စစ်စည်းကမ်းအရ စစ်ထွက်ရတော့မည်ဟု ဘာဘရာအား အသိပေး၍လည်းမဖြစ်၊ ကျွန်တော်တို့ အချစ်ရေးကလည်း သောင်မတင်ရေမကျ။

အကယ်၍ ကျွန်တော် တိုက်ပွဲတွင် ကျဆုံးသွားခဲ့သော်...

ကျွန်တော်သည် ဘာဘာရာကို အသနားပို၍ နေခဲ့လေတော့သည်။ သို့သော် အခြေအနေ ဘယ်လိုမှမလှူပ်သာ။

''ရှေ့ရေးကို သိပ်လည်းတွေးပြီးပူမနေစမ်းပါနဲ့ ဘာဘာရာ၊ မှုအချိန်မှာတော့ အခြေအနေကပေးတဲ့အတိုင်း နေကြရဦးမှာပဲ၊ ဒီတော့...''

'ဒီတော့ ဘာဖြစ်သလဲ မောင်ရယ်''

ကျွန်တော့်စကားအကျကို ဘာဘာရာက ကောက်၍မေးလိုက်သည်။

ကျွန်တော်သည် စကားမပြောနိုင်ဘဲ ငေးငိုင်ငိုင်ကြီး ဖြစ်နေမိသည်။

ဘာဘာရာ့မျက်နှာကို အကဲခတ်ရခြင်းအားဖြင့် ကျွန်တော် စစ်မြေသို့ ထွက်ရတော့မည်ကို သိနေပုံရသည်ဟု ထင်ရ၏။

''မောင်နဲ့ ဘာဘာရာတို့နှစ်ယောက်က ပေါက်ဖွားလာတဲ့ ရင်သွေးတစ်ယောက် လိုချင်လိုက်တာ မောင်ရယ်''

ဘာဘာရာက ရုတ်တရက်ပြောလိုက်သောကြောင့် ကျွန်တော် လန့်ဖျပ်၍ သွားမိသည်။

စစ်ထွက်ယောကျာ်းတစ်ယောက်ဖြစ်သော ကျွန်တော်သည် ဘာဘာရာလို မိန်းမသားတစ်ဦးအား အိုးနှင့်၊ အိမ်နှင့်၊ ငွေနှင့်ကြေးနှင့် ပြည့်ပြည့်စုံစုံမထား၊ နိုင်ရုံမက ရင်သွေးတစ်ယောက်ကိုပါ ပုံ၍ ဒုက္ခစုံအောင်ဖန်တီးခဲ့ဦးမည်ဆိုလျှင် ကျွန်တော့်လောက်မိုက်မဲသည့် သတ္တဝါ ဤကမ္ဘာတွင် ရှိချင်မှရှိတော့မည်။

ကျွန်တော်သည် ဘာဘာရာ၏ အဆိုကို အကြောက်အကန် ငြင်းဆန်ရတော့၏။

အိမ်ထောင်တစ်ခုတွင် သားသမီးတည်းဟူသော အသီးအပွင့်ရှိမှ ပြည့်စုံသည်ကို ကျွန်တော် နားလည်ပါ၏။

သို့သော် ဘာဘာရာနှင့် ကျွန်တော်သည် အိမ်ထောင်မဟုတ်လား...။

ဤမျှက ကျွန်တော်သည် စစ်ထွက်ယောကျာ်း ဖြစ်နေချေသေး၏။

စစ်ထွက်ယောကျာ်း မြွေသမားတို့၏အသက်သည် ဆံဖျားတွင် ရှိနေသည် မဟုတ်ပါလား...''

သို့သော် ကျွန်တော်၏အကြောက်အကန်ငြင်းဆန်ချက်မှန်သမျှသည် ကေဝစနာ တစ်ခွန်းတည်းသော ဘာဘာရာ၏စကားဖြင့် နေလာလျှင် နှင်းပျောက်သကဲ့သို့ ရှိရချေတော့၏။

''မောင်သာ ဘာဘာရာလို မိန်းမတစ်ယောက်ဆိုရင် ဘာဘာရာရဲ့ဆန္ဒကို

ဘာဘရာနှင့် ကျွန်တော်သည် ဒေလီတွင် လမ်းခွဲကြရတော့သည်။

တပ်မဟာဌာနချုပ်သို့ ကျွန်တော် ရောက်သွားသောအခါ တပ်မဟာ တစ်ခုလုံးလိုလို ရှေ့တန်းစစ်မျက်နှာသို့ ချီတက်သွားပြီဖြစ်သည်ကို သိရှိရပြီး ပတ်စာခွာဖျာသိမ်းရန်အတွက် နောက်ရံတပ်အဖြစ် ကျန်နေရစ်ခဲ့သူများကိုသာ တွေ့ရတော့၏။

တပ်မှူး၏လက်ရေးဖြင့် ကျွန်တော်၏အမည်ကို လိပ်တပ်လျက် ချန်ထားခဲ့သော စာအိတ်တစ်အိတ်ကို ဖောက်လိုက်သောအခါ စာနှစ်စောင် ထွက်လာသည်။

တစ်စောင်မှာ အိန္ဒိယပြည်စစ်ဌာနချုပ် အတွင်းဝန်ထံမှ ကျွန်တော့်ထံ ပို့လိုက်သော အမိန့်စာဖြစ်လျက် အခြားတစ်စောင်မှာ တပ်မှူးမိုက်ကယ်ရော်ဘတ်က ကျွန်တော့်အတွက် ရေးခဲ့သောစာ ဖြစ်၏။

ကျွန်တော်သည် 'အမိန့်စာ'ကို အလျင်စလို ကောက်၍ဖတ်လိုက်မိသည်။

ဗိုလ်ရဲမာစတား (ဗိုလ်ကြီး အရေးပေါ်နှင့် ဗိုလ်မှူး ယာယီ) အမှတ် ၄ ဂေါ်ရခါးလက်နက်ကိုင်တပ်အား အမှတ်(၁၁၁) အိန္ဒိယခြေလျင်တပ်မဟာသို့ စစ်ဦးစီး ၂ အဖြစ် ပြောင်းရွှေ့ခန့်ထားလိုက်သည်။ အိန္ဒိယပြည် အလယ်ပိုင်း ဂါတီရာရှိ တပ်မဟာဌာနချုပ်သို့ အမြန်ဆုံးသတင်းပို့။

အိန္ဒိယပြည် စစ်ဌာနချုပ် အတွင်းဝန်ထံမှလာသော အမိန့်စာကိုဖတ်ရင်း နဝေတိမ်တောင်ဖြစ်သွားသော ကျွန်တော်သည် ဗိုလ်မှူးမိုက်ကယ်ရောဘတ် ရေးထားခဲ့သော စာကို ချက်ချင်းပင်ဖတ်လိုက်မိပြန်သည်။

စာတွင်...အမှတ်(၁၁၁) အိန္ဒိယခြေလျင်တပ်မဟာ၏ တပ်မှူးမှာ ဂျိုလင် တက်နီဟု စုံစမ်းသိရှိရကြောင်း။ ဂျိုသည် ကျွန်တော်နှင့် ဂေါ်ရခါးတပ်တွင် အတူတူ အမှုထမ်းဖူးသူဖြစ်၍ ကျွန်တော့်အမည်ကို ခေါင်းတပ်ကာ သူ့ တပ်မဟာသို့ ခေါ်ယူခြင်းဖြစ်သည်ဟု သိရကြောင်း၊ ဂျို၏ တပ်မဟာမှာ အထူးလျှို့ဝှက်သော တိုက်ပွဲစဉ်တစ်ခုကို ဆင်နွှဲရန် စီစဉ်နေသည်ဟု စုံစမ်း သိရှိရကြောင်း၊ ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးနှင့် ပတ်သက်မည် ထင်ရကြောင်း။ ကျွန်တော့်အား ရာထူးပြောင်းရွှေ့ခန့်ထားခြင်း အမိန့်ကို ပယ်ဖျက် ပေးရန် အတန်တန်ကြိုးစားခဲ့ကြောင်း။ ကျွန်တော့်မှာ သူနှင့်အတူ ဆယ်လမျှ လက်တွဲလုပ်ကိုင်ခဲ့သဖြင့် အံဝင်ခွင်ကျ ဖြစ်နေပြီဖြစ်ကြောင်း၊ စစ်မြေပြင်သို့ ဆင်းရမည့်အချိန်ကျမှ သူ့ထံမှ ပြောင်းရွှေ့ခေါ်ယူသွားခြင်းမှာ ရှုံးမိုက်ရာသာ ကျကြောင်း အမျိုးမျိုးပြ၍ ကန့်ကွက်ခဲ့သော်လည်း စစ်ဌာနချုပ်က ရှိသမျှ

တပ်ထဲမှ ကြိုက်ရာလူကို ခေါင်းခေါက်၍ ခေါ်ယူပါ။ ကျွန်တော့်ကိုမူ ပြန်၍ မပေးနိုင်ဟု ငြင်းဆန်နေကြောင်း၊ ထို့ကြောင့် သူသည် များစွာစိတ်မကောင်းခြင်း ဖြစ်နေရကြောင်းဖြင့် ပါရှိသည်။

ကျွန်တော့်အား အမှတ်(၁၁၁) တပ်မဟာသို့ ပြောင်းရွှေ့ခေါ်ယူလိုက်ခြင်း အတွက် အံ့ဩနေမိသော ကျွန်တော်သည် ထိုတပ်မဟာမှာ အသစ်ဖွဲ့စည်းလိုက်သော တပ်ဖွဲ့တစ်ခုသာဖြစ်ကြောင်း သိရှိလာရသောအခါ မခံမရပ်နိုင်အောင် ဒေါသဖြစ်လာပြန်လေသည်။

တပ်ဖွဲ့အသစ်ဆိုလျှင် လေ့ကျင့်ခန်းလည်း အသစ်ပြန်၍ဆင်းရဦးမည် မဟုတ်ပါလား။

"ငါ့အလုပ်က တိုက်ပွဲလေ့ကျင့်ခန်းတွေချည်း လုပ်နေရမယ့် အလုပ်လား။ ငါဟာ လေ့ကျင့်ခန်းတွေချည်းလုပ်ပြီး လက်တွေ ဘယ်တော့မှ တိုက်ရမယ့်အကောင် မဟုတ်တော့ဘူးလား။

ကျွန်တော့်ဘဝသည် မည်သည့်အခါမျှ သတို့သားမဖြစ်ရဘဲ လူပျို့ရံအဖြစ်ချည်းဖြင့်သာ စခန်းသိမ်းရမည့်ဘဝပင် ဖြစ်လေရော့သလား..."

ကျွန်တော်သည် စိတ်ဆိုးမာန်ဆိုးဖြင့် စစ်အတွင်းဝန်ထံမှ လှမ်း၍ ကန့်ကွက်မည်ကြံပါသေးသည်။

သို့သော်...ကျွန်တော့်တပ်မှူးကိုယ်တိုင် ကန့်ကွက်၍မရသောအချက်ကို ကျွန်တော် ကန့်ကွက်၍ရပါမည်လောဟု စဉ်းစားမိပြန်သောအခါ ငြိမ်၍သွားရပြန်သည်။

ထို့ပြင် ကျွန်တော်၏ စစ်သားစိတ်ကလည်း အထက်မှပေးသောအမိန့်ကို ပြန်၍မေးခွန်းထုတ်နေရမည်ကို မသတီသလို ဖြစ်နေစေသည်။

ဒေါသစိတ်က တရိပ်ရိပ်ကျသွားသောအခါ သိချင်စိတ်က ပြင်းပြလာပြန်၏။

ရှေ့တန်းစစ်မြေပြင်ကို ချီတက်နေတဲ့ တပ်မဟာတစ်ခုက ဦးစီး ၂ လို အရာရှိတစ်ယောက်ကို ခုမှလေ့ကျင့်နေတဲ့ တပ်ဖွဲ့တစ်ခုက အရေးတကြီး ခေါ်ယူလိုက်တယ်ဆိုတာ ဘာဖြစ်လို့လဲ။ ဂျို့ဆိုတဲ့ တပ်မှူးက ဘယ်လောက် အရေးကြီးတဲ့တိုက်ပွဲကို တိုက်ဖို့ စီစဉ်နေလို့လဲ...။

ကျွန်တော်သိရသလောက် တပ်မှူးဂျိုမှာ ၁၉၄၂ ခု မြန်မာပြည်တိုက်ပွဲစဉ်တွင် ကျွန်တော်တို့ အမှတ်(၄) ဂေါ်ရခါးတပ်ဖွဲ့မှ အမှတ်(၁) တပ်ရင်းကို ဒုဗိုလ်မှူးကြီးအဖြစ် ဦးစီး၍ တိုက်ခိုက်ခဲ့သူဖြစ်သည်။

သူသည် တိုက်ပွဲတွင် ရဲရင့်သလို သူ့တပ်ရင်းကို ခေါင်းဆောင်ရာ၌လည်း ပြတ်သားသည်။ ခေါင်းဆောင်ပီသသည်။ မြန်မာပြည်မှ အိန္ဒိယသို့အရောက် ပြန်ဆုတ်ရာ၌ လုံ့စွပ်တိုက်ပွဲ ဒါဇင်ဝက်ခန့်ကို သူကိုယ်တိုင်တက်၍တိုက်ရင်း သူ့တပ်ရင်းကို အဖိတ်အစဉ်နည်းအောင် ကာကွယ်နိုင်ခဲ့သည်နှင့်အမျှ ရန်သူကို အထိနာစေခဲ့သူ ဖြစ်သည်။

သူသည် ပြဿနာတစ်ခုကို စဉ်းစားဆုံးဖြတ်ရာ၌ လျှပ်စစ်ကဲ့သို့မြန်၍ ရန်သူကို ချေမှုန်းရာ၌ မိုးကြိုးကဲ့သို့ထက်သော ကျားကဲ့သို့ ရက်စက်သူတည်း။

ထို့ကြောင့် သူသည် တိုက်ပွဲအတွင်းတွင် ရှိနေစဉ်မှာပင် ထူးချွန်သော စစ်မှုထမ်းကောင်းဘွဲ့ (ဒီ–အက်စ်–အို)ကို ရရှိခဲ့ပြီး အိန္ဒိယသို့ ပြန်အရောက်တွင် တပ်မဟာတစ်ခုကို ကြီးမှူးရသည့် တပ်မှူးဖြစ်လာကာ အာသံမျက်နှာကို တာဝန်ယူခဲ့ရသူဖြစ်သည်။

သူသည် အရပ်ရှည်သည့် အိုင်ယာလန်ပြည်သားတစ်ဦး ဖြစ်သည်။ သူ့အသက်မှာ ယခုအချိန်၌ ၄၀ ကျော်ရုံမျှသာ ရှိသေးသည်။

ကျွန်တော့်မှာ သူနှင့် ရုပ်ချင်းတော်တော်ဆင်သည်ဟု ပြောကြသည်။ ကျွန်တော် အမှတ် ၄ ဂေါ်ရခါးတပ်ဖွဲ့သို့ရောက်ခါစက ဂေါ်ရခါးရဲဘော်များက ကျွန်တော့်အား သူနှင့်ရုပ်ချင်းဆင်သဖြင့် ဂျိုဂျူနီယာဟု ခေါ်ခဲ့ကြသည်။

ကျွန်တော်သိရှိခဲ့သော ဂျိုသည် ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးတပ်နှင့် ဆက်သွယ်နေပေပြီ။

ဂျို၏ တပ်မဟာအပြင် အမှတ် (၇၇) တပ်မဟာအကြောင်းကိုလည်း ကျွန်တော် တစ်စွန်းတစ်စ ကြားလာရသည်။

(၇၇)တပ်မကို အသိရခက်သော လူထူးလူဆန်းဟု နာမည်ကြီးနေသော ဝင်းဂိတ်ဆိုသူက အုပ်ချုပ်နေသည်။

ဝင်းဂိတ်၏ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးတပ်သည် မြန်မာပြည်ရှိ ဂျပန်စစ်ကြောင်းများနောက်တွင် လှုပ်ရှားနေသည်။

ကျွန်တော်သည် လှုပ်ရှားနေချင်သူဖြစ်ရာ...

အိန္ဒိယပြည် စစ်အုပ်ချုပ် စစ်အတွင်းဝန်က ပေးပို့လိုက်သော အမိန့်စာကို ပြန်ကြည့်လိုက်၏။

ဂါတီရာရှိ တပ်မဟာဌာနချုပ်သို့...

အမြန်ဆုံးသတင်းပို့။

ဂါတီရာသည် နာဘူဒါမြစ် မြောက်ဘက်တွင်ရှိသော သစ်တောများအနီးမှ

ရထားဆိုက်ရာ ရွာငယ်မျှသာဖြစ်သည်ကို အိန္ဒိယပြည် မီးရထားလမ်းညွှန် စာအုပ်က ဖော်ပြထားသည်။

ဂါတီရာသို့ တိုက်ရိုက်သွားမည်ဆိုလျှင် ခြောက်နာရီအတွင်း ရောက်သွားနိုင်မည်ဖြစ်၏။

သို့သော် ကျွန်တော့်မှာ ချီတက်သွားနှင့်ပြီဖြစ်သော တပ်မှူး မိုက်ကယ်ရောဘတ်၏ အမှတ်(၁၁၄) တပ်မဟာကို ပထမဦးဆုံး အမီလိုက်ရဦးမည်။ ထို့နောက် ကျွန်တော့်အလုပ်ကို နောက်ဆက်ခံမည့်အရာရှိအား ထုံးစံအတိုင်း လွှဲပြောင်းပေးရဦးမည်။

အနည်းဆုံး တစ်ပတ်ခန့်ကြာမှ 'ဂါတီရာ' သို့ သတင်းပို့နိုင်မည်ဖြစ်၏။

စစ်ထွက်ရာသို့ ကျွန်တော်လိုက်လာရခြင်းမရှိဘဲ အိန္ဒိယတွင်ပင် ကျန်ရစ်ခဲ့ခြင်းကို ချစ်သောဘာဘရာက ဝမ်းသာနေမည်ဖြစ်သည်။

သို့သော်...ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေး တပ်ဖွဲ့သို့ ကျွန်တော် ပြောင်းရွှေ့လာရကြောင်းကို သိလျှင်...

ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး...

နာမည်က သင်းလှသည်။

နာမည်သင်းသလို သေမင်းနှင့်နီးသော စစ်ဆင်ရေးပါတကား...။

◆

## အခန်း ( ၅ )

ကျွန်တော်စီးလာသော မီးရထားသည် 'ဂါတီရာ'သို့ သွားမည့်လမ်းခွဲသို့ နောက်ကျမှရောက်လာသဖြင့် ကျွန်တော်သည် 'ပလက်ဖောင်း'ပေါ်တွင် တဝဲလည်လည် ဖြစ်နေလေသည်။

နောက်ဆုံးတွင် လမ်းခွဲဘူတာမှ ရုံပိုင်အား ကြိုရာရထားသဖြင့် 'ဂါတီရာ' သို့ လိုက်ပါရစေဟု အတန်တန် တောင်းပန်တော့မှ ကုန်ရထားတစ်စင်း၏ ခြေနင်းပေါ်တွင် ခြေချရန် တစ်နေရာစာ ရရှိပါတော့သည်။

ရထားခြေနင်းတွင် တွဲလောင်းခိုရင်းဖြင့်ပင် ကျွန်တော်သည် 'ဂါတီရာ' သို့ ရောက်ရှိလာခဲ့ရပါတော့၏။

ဇွန်လဖြစ်သည့်အလျောက် 'ဂါတီရာ' ပတ်ဝန်းကျင်ရှိ လယ်ကွင်းများ၊ အင်းအိုင်များတွင် ရေများပြည့်လျှံလျက်ရှိကာ သံတံတားများအောက်တွင်လည်း ရေလုံးကြီးများ တဝေါဝေါစီးဆင်းနေသည်ကို တွေ့ရ၏။

ရထားမှလွှတ်လိုက်သော မီးခိုးတန်းများသည် စိမ်းလန်းလျက်ရှိသော ကောက်ပင်ပျိုးများပေါ်မှ ဖြတ်သန်းကာ ပြန့်ကျဲလျက်ရှိသော ရွာများဆီသို့ တလွင့်လွင့် လွင့်ပါးသွားသည်။

''ဒါဟာ 'ဂိတီရာ'ပဲ'' စက်ခေါင်းမောင်းသူက မကျေမချမ်းသည့် အသံကြီးဖြင့် ပြောလိုက်၏။

ရထားခြေနင်းပေါ်မှ ပလက်ဖောင်းပေါ်သို့ ဆင်းလိုက်သောအခါ တပ်မှူး 'ဂျို'ကို အခန့်သင့်ပင်တွေ့သည်။

'ဂျို'သည် ကျွန်တော့်ကိုကြည့်ရင်း...

''ဟ...မင်းဘယ်ပျောက်နေတာတုံး''ဟု ဝမ်းသာအားရ မေးလိုက်၏။

ကျွန်တော်က ဖြစ်သမျှဇာတ်စုံကို ပုံ၍ခင်းပြနေစဉ် 'ဂျို'က ကြားဖြတ်ပြီး...

''နောက်ဆုံးပေါ်တဲ့ အမေရိကန်မော်တော်ကား။ ဂျစ်ကား၊ မောင်ရင်မြင်ဖူးရဲ့လား။ ကိုယ်တို့အတွက် နှစ်စီးရထားတယ်''

သူသည် ပြောပြောဆိုဆိုနှင့် ကျွန်တော့်ကို ဂျစ်ကားရှိရာသို့ ခေါ်သွားသောအခါ ဂေါ်ရခါးရဲဘော်တစ်ယောက် 'တဲ'တစ်ခုအတွင်းမှ ထွက်လာပြီး ဂျစ်ကားနောက်ဘက်ရှိ ထိုင်ခုံသို့ တက်၍ ထိုင်လိုက်သည်ကို မြင်လိုက်ရသည်။

ဂျစ်ကားတွင် တံခါးမရှိသဖြင့် အတက်အဆင်း လွယ်ကူလှလေသည်။

'ဂျို'က ကားလက်ကိုင်ဘီးရှိရာ ထိုင်ခုံတွင် ဝင်၍ နေရာယူလိုက်သောအခါ ကျွန်တော်က သူ့ဘေးမှ အသာကလေး ဝင်ထိုင်လိုက်သည်။

၁၉၄၂ ခု မြန်မာပြည်တိုက်ပွဲစဉ်၏ ဒဏ်ရာဒဏ်ချက်ကြောင့် 'ဂျို'တွင် ရှေ့သွားများ ဟာလာဟင်းလင်းဖြစ်နေသည်ကို တွေ့ရ၏။ ခွေးစွယ်တစ်ခုသာ ဝဲဘက်သွားဖုံးတွင် ထိုးလိုးထောင်လောင်ဖြစ်နေသည်။

''ဒီကားက ဖိုဝီးဒရိုက်ဖ် တောလမ်းတောင်လမ်းမှာတော့ သွားလို့လာလို့ အကောင်းဆုံးပဲ''

ဂျိုက စက်သံထက်မြင့်သောအသံဖြင့် အော်၍ ပြောနေသည်။

ဂျစ်ကားသည် လှည်းလမ်းကြောင်းလောက်ပင် မကျယ်သော တောလမ်း ခရီးတွင် တစ်ကြိမ်လျှင် တစ်ပေလောက်စီမြင့်အောင် ခုန်တက်သွားရင်း တဝူးဝူးအော်၍ ပြေးနေ၏။

'ဂျို'သည် ကားလက်ကိုင်ဘီးကို နိုင်နိုင်ထိန်းသိမ်းသည်။ သူ၏ ရှည်လျားသော မေးရိုးကြီးများက ကားလက်ကိုင်ဘီးအပေါ်မှ ကျော်လွှားကာ ရှေ့မှ မှန်နှင့် ထိလုမတတ် ဖြစ်နေ၏။

သူသည် အနားကျယ်သော ဂေါ်ရခါးဦးထုပ်တစ်လုံးကို ဆောင်းထားကာ ပါဝါများသော မျက်မှန်တစ်လက်ကို မျက်နှာတွင် တပ်ထား၏။

ကျွန်တော်တို့သည် ချိုင့်ထူသော တောလမ်းအတိုင်း တက်၍လာသောအခါ ဝဲဘက်တွင် မိုးကာတဲအချို့ကို တွေ့ရသည်။

ဆယ်မိုင်လောက် ဆက်၍ မောင်းနေစဉ်အတွင်း ကျွန်တော်တို့စီးလာသော ဂျစ်ကားသည် နှစ်ကြိမ်တိုင်တိုင် ဗွက်ထဲတွင် နစ်နေခဲ့သည်။ သို့သော် စက်အားကောင်းသဖြင့် နှစ်ကြိမ်တိုင်တိုင်ပင် ရုန်းထွက်၍လာနိုင်ခဲ့ကြ၏။

တတိယအချိန်တွင်မူ ကျွန်တော်တို့စီးလာသော ဂျစ်ကားလောက်နီးနီး ကြီးသည့် ကျောက်တုံးကြီးတစ်တုံး လမ်းတွင်ပိတ်နေသည်ကို တွေ့ရ၏။

ကျွန်တော်တို့သည် မိနစ်နှစ်ဆယ်တိုင်တိုင် ကားကို နောက်မှနေ၍ တွန်း ပေးရသောအခါ ကျောက်ခင်းသောလမ်းပေါ်သို့ ရောက်ရှိလာကြတော့၏။

'ဂျို'သည် ကားမောင်းနေရာမှ စီးကရက်ဘူးကို ကျွန်တော့်အား လှမ်းပေးလိုက်ရင်း'

ကိုယ်တို့က ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး တပ်ပဲ၊ တပ်ရင်းနှစ်ရင်း ရှိတယ်။ ကိုယ်တို့ တပ်မဟာဖွဲ့စည်းပုံကတော့ ဝင်းဂိတ်ရဲ့ အမှတ် (၇၇) တပ်မဟာဖွဲ့စည်းတဲ့ပုံစံအတိုင်းပဲ တပ်ရင်းတစ်ရင်းကို စစ်ကြောင်းနှစ်ကြောင်း စီ ခွဲထားတယ်။ ကိုယ်တော့ လေ့ကျင့်ခန်း ခပ်ဆန်ဆန်ကလေးတွေကို စမ်းပြီး လုပ်ကြည့်နေတာပဲ၊ ဝင်းဂိတ်ကိုယ်တိုင်လည်း မကြာခင် မြန်မာပြည်က ထွက်လာတော့မှာမို့ သူ့ဆီက လက်တွေ့သင်ခန်းစာကလေး ဘာလေးရဖို့ သေချာတယ်။ ဝင်းဂိတ်ဆိုတဲ့လူက တစ်မျိုးပဲ''

ကျွန်တော်သည် 'ဂျို'၏ စကားအဆုံးကို နားထောင်ရင်း တစ်လမ်းလုံး၊ လိုက်ပါလာခဲ့သည်။ 'ဂျို' ဦးစီးရသော အမှတ်(၁၁၁) တပ်မဟာဌာနချုပ်သို့ ရောက်သည့်တိုင်အောင် စကားက အဆက်မပြတ်သေး။

မန္တလေးနှင့် မြန်မာပြည်တိုက်ပွဲများတွင် ဗြိတိသျှတပ်များသည် အထိအနာကြီးနာခဲ့ရပြီးနောက် ဝင်းဂိတ် အမည်တွင်သော အမြောက်တပ် ဗိုလ်တစ်ဦးသည် တောတွင်းတိုက်ပွဲများ၌ အင်္ဂလိပ်တပ်များသည် ရန်သူဂျပန် များနည်းတူ ခွမ်းခွမ်းတမံ တိုက်ခိုက်နိုင်ကြောင်းကို လက်တွေ့ပြသရန် သန္နိဋ္ဌာန် ချထားခဲ့၏။

ဝင်းဂိတ်ကား အမြောက်တပ်တွင် ပြိုင်ဘက်ကင်းလောက်အောင် တော် သော အရာရှိဖြစ်သည်။ သူသည် ကျွန်တော်တို့၏ တပ်သားများကိုသော် လည်းကောင်း၊ ဆန့်ကျင်ဘက်ဖြစ်သော ရန်သူ ဂျပန်တပ်သားများကိုသော် လည်းကောင်း ကျွန်တော်တို့၏ ဗြိတိသျှတပ်မတော်သည် 'တော'ကို အိမ်လုပ်၍ တိုက်စစ်ဆင်ကြောင်း လက်တွေ့ပြသရန် နည်းလမ်းများရှာခဲ့၏။

သူထွင်လိုက်သောနည်းမှာ အီဂျစ်ရှိ သဲကန္တာရများတွင် ကျွန်တော်တို့၏ ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးနည်းကို တိုးတက်ချဲ့ထွင်လိုက်ခြင်းပင် ဖြစ်သည်။

အီဂျစ်ရှိ သဲကန္တာရတွင် လက်နက်ကိုင် ပြောက်ကျားတပ်သားများက

ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး သေနင်္ဂဗျူဟာကို အသုံးပြုခဲ့ကြသည်။

ဝင်းဂိတ်ကမူ ပြောက်ကျားများကို အသုံးမပြုဘဲ တိုက်ရည်ခိုက်ရည် ပြည့်ဝသော အမြဲတမ်းစစ်သည်တော်များကို ဤသေနင်္ဂဗျူဟာတွင် အသုံးပြုခဲ့သည်။ ရန်သူတို့၏ အစောင့်အရှောက်နည်းပါးသော ဒိုက္ခာစခန်းများ၊ တံတားများ၊ ဆက်သွယ်ရေးလမ်းကြောင်းများကို ဖောက်ခွဲ တိုက်ခိုက်နိုင်ခဲ့သည်။ ဤအချိန်က အိန္ဒိယပြည် စစ်ဌာနချုပ်၏ တပ်မှူးမှာ 'ဒီးမာရှယ်ဝေဗယ်' ဖြစ်သည်။ ပါလက်စတိုင်းနှင့် အဘီဆီနီယားပြည် တိုက်ပွဲများတွင် ဝင်းဂိတ်သည် ဤကဲ့သို့သော ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးနည်းများကို သုံး၍ အောင်မြင်စွာ စစ်ဆင်နိုင်ခဲ့ကြောင်းကို ဗိုလ်မှူးကြီးဝေဗယ်က သိထားနှင့်ပြီး ဖြစ်သည်။

ထို့ကြောင့် ဝင်းဂိတ်က မြန်မာပြည်စစ်ဆင်ရေးတွင် ခရီးဝေးဖောက်ထွင်း တိုက်ခိုက်ရေးနည်းကိုသုံးရန် တင်ပြလာသောအခါ ဗိုလ်ချုပ်ကြီးဝေဗယ်က အစမ်းသဘောဖြင့် လက်ခံခဲ့၏။

၁၉၄၃ ခု ဖေဖော်ဝါရီလတွင် စစ်ကြောင်းတစ်ကြောင်းလျှင် စစ်သည် တော် '၄၀၀' ခန့်စီပါဝင်သော ဝင်းဂိတ်၏ အထူးတပ်များသည် အာသံ စစ်မျက်နှာရှိ ကျွန်တော်တို့၏တပ်များကို ကျော်လွန်ကာ မြန်မာပြည်အတွင်းရှိ ဂျပန်တို့၏ ခံစစ်ကြောင်းနောက်သို့ မိုင်ပေါင်း ၂၀၀ အထိ ဖောက်ထွင်း တိုက်ခိုက်နိုင်ခဲ့သည်။

ဝင်းဂိတ်၏ 'ခြင်းဒစ်'တပ်ဖွဲ့များသည် မိမိတို့၏ သီးခြားစစ်ကြောင်း အလိုက် လွတ်လပ်စွာလှုပ်ရှားရင်း ရထားလမ်းများ၊ တံတားများကို ချိုးဖောက် ဖျက်ဆီးနိုင်ခဲ့သည်။ ရန်သူတို့၏ ဒိုက္ခာပို့ဆောင်ရေးယာဉ်များကို ချုံခိုတိုက်ခိုက် နိုင်ခဲ့သည်။

ရန်သူတို့၏ အစောင့်အနေနည်းပါးသော စခန်းများကို ဝင်ရောက်စီးနင်း နိုင်ခဲ့သည်။

'ခြင်းဒစ်'စစ်ကြောင်းများသည် အိန္ဒိယရှိ ဌာနချုပ်နှင့် ရေဒီယိုအဆက် အသွယ်ပြုလုပ်ကာ ဒိုက္ခာနှင့် ခဲယမ်းများကို လေကြောင်းမှ ရရှိခဲ့ကြ၏။

သို့သော် ကြာရှည်ကြာများကား လှုပ်ရှားနိုင်ခြင်းမရှိခဲ့။ ရန်သူဂျပန်တို့ သည် 'ခြင်းဒစ်'စစ်ကြောင်းများနောက်သို့ အမဲလိုက်သလိုလိုက်၍ လာချေတော့ သည်။

'ခြင်းဒစ်' တပ်ဖွဲ့အများစုသည် ရွှေလီမြစ်ဆုံ၌ ရန်သူတို့၏ ဝိုင်းဝန်းဝိတ်

ဆို့ခြင်းကိုခံရကာ အိန္ဒိယသို့ အစုကလေးများဖွဲ့၍ ပြန်လည်ဆုတ်ကြရတော့၏။ အပြန်ခရီးတွင် ဝင်းဂိတ်၏ အမှတ်(၇၇) တပ်မဟာသည် စစ်သည်တော် တစ်ယောက်မှ စစ်ကြောင်းတစ်ကြောင်းအထိ ပါဝင်သော အစုများဖွဲ့ကာ နောက်မှ မျက်ခြည်မပြတ် လိုက်၍လာသော ရန်သူကို ခုခံကာကွယ်ရင်း ကစဉ့်ကရဲ ဆုတ်ခဲ့ရသည်။ မြန်မာပြည်ထဲသို့ ထိုးဖောက်ဝင်ရောက်ခဲ့သော စစ်သည်တော်များအနက် သုံးပုံတစ်ပုံမှာ ရန်သူတို့၏ ချေမှုန်းသုတ်သင်ခြင်းကို ခံခဲ့ရသည်။

အိန္ဒိယသို့ ဝင်းဂိတ်ဆိုက်ရောက်မလာမီ ဝင်းဂိတ်၏ 'ခြင်းဒစ်'တပ်များ အရှုံးနှင့် ရင်မဆိုင်မီပင် ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေး သေနင်္ဂဗျူဟာမှာ ဗြိတိသျှစစ်သည်တော်များအတွက်လည်းကောင်း၊ ဗြိတိသျှအင်ပါယာအတွင်းရှိ တိုင်းသူပြည်သားများအတွက်လည်းကောင်း၊ စိတ်ဓာတ်မြှင့်တင်ရေး 'အား' ဆေးကြီးတစ်ခွက်ဖြစ်ကြောင်းကို ဗိုလ်ချုပ်ကြီး'ဝေဗယ်'က သဘောပေါက် လက်ခံထားခဲ့၏။

ထို့ကြောင့် ဒုတိယ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးတပ်ဖွဲ့ကို ဖွဲ့စည်းရန် အမိန့်ပေးခဲ့သည်။ သို့ဖြင့် 'ဂျို' ဦးစီးသော အမှတ်(၁၁၁) အိန္ဒိယ တပ်မဟာသည် ဒုတိယ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးတပ်ဖွဲ့ ဖြစ်လာခဲ့ တော့၏။

'ဂျို'သည် ကျွန်တော့်အား သူ၏ တပ်မဟာတွင် ဦးစီး ၂ အဖြစ် တာဝန်ထမ်းဆောင်ရန် အမှတ်(၁၁၄) တပ်မဟာမှ ခေါ်ငင်ခေါ်ယူခဲ့ခြင်း ဖြစ်လေသည်။ ဒုတိယခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးတပ်ဖွဲ့၏ နောက် ကြောင်းရာဇဝင်ကို သိလာရသော ကျွန်တော်သည် တပ်ဖွဲ့၏ လှုပ်ရှားမှုတွင် ပို၍စိတ်ဝင်စားလာသည်။

ကျွန်တော်တို့တပ်ဖွဲ့၏ အဓိကတာဝန်မှာ မည်သို့ဟု အတိအကျ မသိရ သေးသော်လည်း ကျွန်တော်တို့တပ်ဖွဲ့သည် နိုဝင်ဘာလတွင် အသင့်ဖြစ်နေ မည်ဟု 'ဂျို'က ပြောပြသည်။ ကျွန်တော်တို့သည် ဝင်းဂိတ်၏ ခြင်းဒစ်တပ်ဖွဲ့ ထဲသို့ပင် မြန်မာပြည်အတွင်းရှိ တစ်နေရာရာ တိုက်ပွဲဆင်ပေးရတော့မည် မှာ သေချာလှသည်။

ကျွန်တော်တို့၏ ဒုတိယတပ်ဖွဲ့က မီးကုန်ယမ်းကုန် အစွမ်းပြနေစဉ် ဝင်းဂိတ်၏ ပထမတပ်ဖွဲ့က အနားယူရင်း အားအင်ပြည့်ဖြိုးလာအောင် စည်းရုံးလေ့ကျင့်နေမည်ဖြစ်၏။ ကျွန်တော်တို့၏ ဒုတိယတပ်ဖွဲ့ စစ်ပန်းလာ

သည်နှင့်တစ်ပြိုင်နက် ဝင်းဂိတ်၏ ပထမတပ်ဖွဲ့သည် ကျွန်တော်တို့ရှိရာသို့ ရောက်ရှိလာရမည်ဖြစ်သည်။

ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး တပ်ဖွဲ့တစ်ခုသည် ရန်သူ့စစ်ကြောင်း နောက်၌ အများဆုံး ၃ လလောက်သာ ဆက်တိုက်လှုပ်ရှားနေနိုင်မည်ဖြစ်၏။ ထိုအချိန်ထက်ပို၍ကား သည်းခံနိုင်စွမ်းရှိမည်မဟုတ်။

အချိန်ပြဿနာနှင့် ပတ်သက်၍ ဝင်းဂိတ်နှင့် ကျွန်တော်တို့ သဘောကွဲခဲ့ကြသည်။ သူသည် စစ်သည်တော်များ၏ သည်းခံနိုင်စွမ်း ပို၍ထွက်ခဲ့သူဖြစ်၏။ ဝင်းဂိတ်သည် သေနင်္ဂဗျူဟာနှင့် နည်းပရိယာယ်တို့တွင် ထွင်ဉာဏ်ရှိသူတစ်ယောက် ဖြစ်သော်လည်း သူသည် များစွာသောအမှားများကို ပြုလုပ်ခဲ့သူ ဖြစ်လေသည်။ သူ့အမှားများကို ကျွန်တော်တို့က သင်ခန်းစာ ယူရပေမည်။

ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးသည် စိတ်ဓာတ်မြှင့်တင်ရေး 'အား' ဆေးကြီးတစ်ခွက်ဖြစ်သည် ဆိုသည်မှာ မှန်ပါ၏။ သို့သော် ဖောက်ထွင်းတိုက်ခိုက်လေသော စစ်သည်တော်များအနက် ၃၅ ရာခိုင်နှုန်း ရန်သူ့လက်ချက်ဖြင့် ကျဆုံးရလေသောအခါ ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးသည် အားဆေးကြီး ဖြစ်လာနိုင်ရန် ခဲယဉ်း၍လာတော့၏။

ကျွန်တော်တို့သည် ခြင်းဒစ်တပ်ဖွဲ့၏ အတွေ့အကြုံပေါ်တွင် တည်၍ အသေအပျောက် နည်းနိုင်သမျှနည်းကာ အောင်ပွဲ ရနိုင်သမျှရအောင် ကြိုးစားရပေတော့မည်။

ဂျိုသည် သူ့အင်္ကျီလက်မောင်းပေါ်တွင် မာန်ဖီနေသော ကျားသစ်တစ်ကောင်၏ခေါင်းပုံပါသည့် အမှတ်တံဆိပ်ကို အခြားလက်တစ်ဖက်ဖြင့် ပုတ်ပြရင်း ...

''ဝင်းဂိတ်ကတော့ သူ့တပ်ဖွဲ့အတွက် ခြင်္သေ့ကို တံဆိပ်လုပ်တယ်။ ကိုယ်တို့ကတော့ ကျားသစ်ပဲ။ မာန်ဖီနေတဲ့ကျားသစ်၊ ခြင်္သေ့မလုပ်နိုင်တဲ့ အလုပ်ကို ကိုယ်တို့ကျားသစ်က လုပ်ပြမယ်''ဟု အားတက်သရော ပြောလိုက်၏။

ဝီစကီပုလင်းသည် မိုးကာတဲအတွင်းရှိ ဂျိုနှင့် ကျွန်တော်တို့အကြားတွင် ခေါက်တုံ့ခေါက်ပြန် လမ်းသလား၍နေလေသည်။

ကျွန်တော်တို့သည် ခရီးဝေးဖောက်ထွင်း၍ ချီတက်တိုက်ခိုက်ရမည်ဖြစ်သောကြောင့် မြေပြင်ပစ် အမြောက်ကြီးများ၊ လေယာဉ်ပစ်အမြောက်ကြီးများကို

သယ်ယူ၍သွားနိုင်မည် မဟုတ်သည်မှာ သေချာလှသည်။

ဘမြောက်တပ်အစား လေကြောင်းမှ နီးကပ်စွာ ကူညီတိုက်ခိုက်ပေးခြင်းကို အမြောက်တပ်ဟူ၍ပင် သဘောထားရပေတော့မည်။ ရိက္ခာနှင့် ခဲယမ်းများကိုလည်း လေကြောင်းဖြင့်ပင် ရရှိနိုင်သည်။

သို့သော် ထိခိုက်ဒဏ်ရာ ရသူများအား အိန္ဒိယသို့ ပြန်လည်ပို့ပေးနိုင်ရေးမှာ ပြဿနာဖြစ်လာတော့၏။

"ကိုယ်တို့နဲ့ မိတ်ဆွေဖြစ်တဲ့ရွာတွေမှာ ဒဏ်ရာရတဲ့ ရဲဘော်တွေကို ထားခဲ့ရမှာပဲ။ တစ်ခါတစ်ခါတော့လည်း ဒါကိုတာလေယာဉ်တွေ ဆင်းနိုင်အောင် လေယာဉ်ပြေးလမ်းကြောင်းတွေ* ဖောက်ပေးရမှာပဲ"

ဂျိုက ပြဿနာ၏အဖြေကို ရှာပေးသည်။

ကောင်းလှပါ၏။ သို့သော် မမှန်။ ဂျိုပြောသည့်နည်းဖြင့် ဒဏ်ရာရရှိသူများကို အနည်းအကျဉ်းလောက်သာ အိန္ဒိယသို့ ပြန်လည်ပို့ပေးမည်ဖြစ်သည်။ မိတ်ဆွေဖြစ်သောရွာများတွင် ထားပစ်ခဲ့ရသော လူနာရဲဘော်များလည်း အနေးနှင့်အမြန်ဆိုသလို ဂျပန်တို့၏ လက်တွင်းသို့ ရောက်ရမည်မှာ သေချာလှသည်။ မိမိတပ်ဖွဲ့မှ ရဲဘော်များအား ဒဏ်ရာအနာတရ ရလေတိုင်း ဤကဲ့သို့ စွန့်ပစ်မထားခဲ့ရသော တပ်ဖွဲ့သည် အဘယ်မှာလျှင် စိတ်ဓာတ်ကြံ့ခိုင်နိုင်ပါတော့မည်နည်း။

ထို့အပြင် တပ်ဖွဲ့ချင်းဆက်သွယ်ရန်အတွက်သော်လည်းကောင်း၊ အိန္ဒိယရှိ ဌာနချုပ်နှင့် ဆက်သွယ်ရန်အတွက်သော်လည်းကောင်း ကြိုးမဲ့ကြေးနန်းများ၊ ရေဒီယိုများ၊ ယင်းတို့နှင့် သက်ဆိုင်ရာ အပိုပစ္စည်းများလည်း မလွဲမသွေလိုလာပေမည်။ ဤစက်ကိရိယာများကို သယ်ယူရန်အတွက် ဝန်တင်လားများလည်း အလုံအလောက် ရှိရပေဦးမည်။

ဤဝန်တင်လားများကို ထိန်းကျောင်းရန်အတွက် လားသမားများကိုလည်း လိုလာပြန်သည်။ အားကုန်သွားသော ဘက်ထရီအိုးများကိုလည်း ထပ်မံ၍ အားဖြည့်ရန်က ပြဿနာတစ်ခု။

မြန်မာပြည်တွင်းသို့ ဖောက်ဝင်ရောက်ရမည်ဖြစ်၍ မြန်မာစကားပြောတတ်သော ရဲဘော်များ လိုလာသည်။ အိန္ဒိယပြည်တွင် မြန်မာစကားပြန်များ အသင့်အတင့်ရှိနေသော်လည်း တိုက်ပွဲသို့ လိုက်ရဲသည့် စကားပြန်မှာ ရှားလှသည်။

တပ်ဖွဲ့တစ်ခုလုံးအတွက် နေ့စဉ်လိုအပ်သော ရိက္ခာတန်ချိန်မှာ များပြား

လှရာ ထိုရိုက္ခာများ မှန်မှန်ရောက်နေစေရန်အတွက် ကြိုးမဲ့ကြေးနန်းမှစ၍ အတိုဆုံးနှင့် အမြန်ဆုံး သတင်းပို့နိုင်သော ဆိုက်ဖာများ ရှိရန်လိုသည်။ ထိုဆိုက်ဖာများကိုလည်း နေ့စဉ်နှင့်အမျှ အသစ်အသစ်တီထွင်နေရမည်ဖြစ်ရာ ဆိုက်ဖာအတွက်ပင်လျှင် တစ်နေ့လျှင် ၁၂ နာရီကျ အချိန်ပေးရမည့်ကိစ္စနှင့် ကြုံနေသည်။

တပ်ဖွဲ့နှင့်အတူလိုက်ပါမည့် စစ်သည်တော်များမှာ သတ္တိခဲသံခဲတင်ရုံသာ ဖြစ်ရုံမက တိုက်ရည်ခိုက်ရည်ဝပြီးသူများ ဖြစ်သောကြောင့် မည်မျှပင် အား ကောင်းသော ရန်သူနှင့် ရင်ဆိုင်ရသော်လည်း နောက်တွန့်မည့်သူများ မဟုတ်။

သို့တိုင်အောင် ကျွန်တော်တို့၏ အောင်မြင်မှုသည် ကျားသစ်ကဲ့သို့ ကျင်လည်စွာ လှုပ်ရှားနိုင်မှုနှင့် ရန်သူအား အဝိုက်တွင် အရိုက်ကိုထိုးနိုင်မှု ပေါ်တွင် တည်နေလေသည်။

ဂျိုနှင့် ကျွန်တော်တို့သည် စစ်အကြောင်းမှနေ၍ မိန်းမအကြောင်းသို့ စကားပြောင်းသွားကြသည်။

ကျွန်တော်သည် 'ဘာဘရာ'အကြောင်းကို ပြောပြရလေသည်။

'ဒါဖြင့် ခွင့်လိုတဲ့အချိန်မှာပြောပေါ့။ လိုချင်တိုင်းပြောဖို့တော့မဟုတ်ဘူး။ ကဲ...အိပ်ရာဝင်ကြစို့''

'ဂျို'က ရယ်ရယ်မောမောနှင့် အတည်ပြောလိုက်သည်။

တပ်မဟာ ဦးစီးအဖွဲ့တွင် ထောက်လှမ်းရေးဦးစီးအရာရှိမှလွဲ၍ အဖွဲ့သားတိုင်း စုံစုံလင်လင်ရှိကြသည်ကို တွေ့ရ၏။ ကျွန်တော့်မှာ 'မိုက်ကယ် ရောဘတ်'၏ တပ်မဟာသို့ ရောက်စကကဲ့သို့ပင် ရဲဘော်များ, အရာရှိများနှင့် မျက်နှာစိမ်းနေလေသည်။

၂ ရက်ကြာပြီးနောက် ရွှံ့နှင့် ချွေးများ ပေကျံနေသော စစ်ဝတ်စုံကို ဝတ်ထားသည့် 'ဘားမားရိုင်ဖယ်'မှ ဗိုလ်ကြီးတစ်ယောက်သည် ရုံးခန်းလုပ်ထားသော ကျွန်တော့်မိုးကာတဲအတွင်းသို့ မောဟိုက်ပန်းလျှစွာ ဝင်လာပြီး ကျွန်တော့်ကို အလေးပြုလိုက်သည်။

ပြီးမှ...

''ကျွန်တော့်နာမည် ဟယ်ဒလီပါ။ မန်နေဂျာ ဘယ်များသွားနေသလဲ'' ဟု သူ့ကိုယ်ကိုသူ မိတ်ဆက်ရင်း ကျွန်တော့်ကို ရင်းနှီးစွာမေးလိုက်သည်။

ကျွန်တော့်မှာ မန်နေဂျာဟူသော စကားကြောင့် ကြောင်တောင်တောင် ဖြစ်နေမိစဉ်၊ ဟယ်ဒလီက 'မန်နေဂျာဆိုတာ ကျွန်တော်တို့ရဲ့ တပ်မှူးကို

ပြောတာပါ' ဟု ရှင်းပြလိုက်သည်။

''တပ်မှူး မရှိဘူး''

ကျွန်တော့်က အေးစက်စက်နှင့် အဖြေပေးလိုက်၏။

''ကျုပ်က ဘရိဂိတ်မေဂျာပဲ။ မောင်ရင်က ဘာများအလိုရှိလို့တုံး''

ကျွန်တော်၏ ညှိသည့်တော်ကြီးသည် ကျွန်တော်က အေးစက်စက်လေသံ, အေးစက်စက် အမူအရာဖြင့် မေးလိုက်သည့်အတွက် ကျွန်တော့်ကို အေးစက်နေသော ကျောက်ရုပ်ကြီးလို သဘောထားလိုက်ဟန်တူသည်။

သူသည် စကားတစ်ခွန်းမျှ ပြန်မပြောဘဲ သူ့ပခုံးတွင် လွယ်ထားသော လုံ့စွပ်အသင့်တပ်ထားသည့် ရိုင်ဖယ်ကို ပထမဖြုတ်လိုက်သည်။ ထို့နောက် ပေါင် ၅၀ ခန့်လေးမည်ဟု ထင်ရသော ကျောပိုးအိတ်ကို ကျောပေါ်မှချလိုက်သည်။ ထို့နောက် လက်ပစ်ဗုံးနှင့် ကျည်ဆန်များ ထည့်ထားသဖြင့် အောက်သို့ တွဲ၍ကျနေသော အိတ်တစ်လုံးကို ကိုယ်မှခွာချလိုက်ပြန်သည်။ ထို့နောက် ခါးတွင်ချိတ်ထားသော မောင်းချဓားကြီးနှစ်စင်း၊ ပခုံးတွင် လွယ်ထားသော မြန်မာဓားရှည်တစ်စင်း, ဂေါ်ရခါးဓားကောက် တစ်လက်, ခြောက်လုံးပြူး တစ်လက်, ခြောက်လုံးပြူးယမ်းတောင့်ထည့်သည့်အိတ်, မှန်ပြောင်း, သံလိုက်အိမ်မြှောင်, မြေပုံထည့်သည့်အိမ်, မိုးကာထည့်သည့်အိတ်နှင့် ကြီးမားသော အိတ်ကြီးတစ်လုံးကို တစ်ခုစီ စိမ်ပြေနပြေ သူ့ကိုယ်မှ ခွာချနေသည်။

သူ့ကာကီအင်္ကျီမှာလည်း ချွေးထဲတွင် နစ်နေလေသည်။

ပြီးမှ...''ကျွန်တော်ဟာ ဟောဒီက လူစုအတွက် ထောက်လှမ်းရေး အရာရှိပါ။ မန်နေဂျာက ကျွန်တော့်ကို ခြောက်ဆယ့်သုံးတပ်မဟာက ခေါင်း ခေါက်ပြီး ခေါ်ယူလိုက်လို့ အခုလိုလာရောက် သတင်းပို့တာပါ''ဟု တစ်လုံးချင်း ပြောလိုက်၏။

အီတန်နှင့် ကင်းတက္ကသိုလ်ကျောင်းထွက် တစ်ယောက်ဖြစ်သော ဂျွန် ဟာယ်ဒလီမှာ စစ်မဖြစ်မီက၊ ဘုံဘေဘားမားကုမ္ပဏီတွင် အစုဝင်တစ်ဦး ဖြစ်ခဲ့သည်ဟု သိရှိရသည်။

သူနှင့် 'ဂျို'တို့နှစ်ယောက်တွေ့ပုံမှာလည်း ဆန်းဆန်းကလေးပင် ဖြစ်သည်။

၄၁-၄၂ ခုနှစ် မြန်မာပြည်မှ ဆုတ်ခွာရာတွင် 'ဂျို'၏ တပ်ရင်းမှာ နောက်ရံတပ်အဖြစ် လိုက်ပါလာခဲ့ရပြီး နောက်မှလိုက်လာသည့် ဂျပန်တပ်များကို လမ်းတစ်လျှောက်လုံးလိုလို ခုခံတိုက်ခိုက်လာခဲ့ရ၏။

လမ်းခရီးတစ်နေရာသို့ အရောက်တွင် အထီးတည်းကျန်နေသော အင်္ဂလိပ်အမျိုးသားတစ်ယောက်သည် လမ်းဘေးတွင် နေရာယူထားပြီး၊ နောက်ဘက်သို့ မျက်နှာမူကာ နောက်မှလိုက်လာသော ရန်သူများကို တဒိုင်းဒိုင်း ပစ်ခတ်နေသည်ကို တွေ့ရ၏။

မိမိ၏ နောက်ရံတပ်ကို ထိန်းရင်းသိမ်းရင်း၊ ကွပ်ကဲရင်း ထိုအင်္ဂလိပ်အမျိုးသားရှိနေသော နေရာသို့ ရောက်လာသော 'ဂျို'သည် ရုတ်တရက် ရပ်လိုက်ပြီး…

''ဟ…မောင်ရင်က ဒီမှာ တစ်ယောက်တည်း ဘာလုပ်နေတာလဲ''

လမ်းဘေးမှ အင်္ဂလိပ်အမျိုးသားသည် ခေါင်းထောင်၍ပင်မကြည့်ဘဲ…

''ဗိုလ်ကြီးဟယ်ဒလီပါ၊ ကျွန်တော့်ကို ဒီကနေပြီး ခုခံရမယ်ဆိုလို့ ခုခံနေတာပါ။ ကျွန်တော့်တပ်ရင်းက လူတွေကတော့ သေနတ်သံတစ်ချက်ကြားတာနဲ့ ရှေ့ကို သုတ်ခြေတင်ကုန်ကြပြီ''ဟု သတင်းပို့လိုက်သည်။

ဤတွင် စိတ်မရှည်နိုင်တော့သော 'ဂျို'က ဟယ်ဒလီအား ယူထားသည့် နေရာကို စွန့်ခွာရန် အမိန့်ပေးတော့၏။

သို့တိုင်အောင် ဟယ်ဒလီက နေရာမှမထသေးဘဲ ငြင်းဆန်နေသည်။ 'ဂျို'က မိမိမှာ အမှန်ပင် နောက်ရံတပ်ကို တာဝန်ယူရသော ဗိုလ်မှူးကြီးဖြစ်ကြောင်း ပြောပြတော့မှ ဟယ်ဒလီက နေရာမှ ထလိုက်သည်။

သူ့ကျောပေါ်မှ ကျောပိုးအိတ်မှာ ပေါင် ၁၀၀ ထက် လေးလျှင်သာ လေးမည်။ လျော့မည်ကား မဟုတ်၊ သူသည် ဤအိတ်ကြီးကို ထမ်းလျက်နှင့် တစ်နာရီလျှင် ၆ မိုင် မှန်မှန်ကြီးလျှောက်နိုင်သည်။

ဟယ်ဒလီ၏ ဖွဲ့ သတ္တိနှင့် စွမ်းရည်တို့ကြောင့် ကျွန်တော်တို့တပ်ဖွဲ့သည် ရန်သူ၏ခြေလှမ်းကို ကြို၍မြင်နိုင်သော အခွင့်အရေး ရရှိခဲ့သည်။

ကျွန်တော်တို့ ဦးစီးအဖွဲ့တွင် ဟယ်ဒလီကဲ့သို့ မှတ်တမ်းတင်ထိုက်သူ အတော်များများရှိသည်။ တစ်ဦးမှာ ဦးစီး ၃ ဖြစ်၏။ နောင်သောအခါ သူ့နေရာသို့ ဗိုလ်မှူးချုပ်တစ်ဦး ရောက်လာသည်။ နှစ်ဦးစလုံးပင် ရှေ့တန်းစစ်မျက်နှာ၌ ပါဝင်တိုက်ခိုက်ခြင်းမရှိသော်လည်း နောက်ဘက်ရှိ လေတပ်အခြေစိုက်စခန်းတွင်နေကာ ကျွန်တော်တို့လိုသမျှကို မြန်မြန်နှင့် ပြည့်ပြည့်ဝဝ ရရှိအောင် အထူးကြိုးစားဆောင်ရွက်ပေးသူများ ဖြစ်သည်။

အချက်ပြ ဆက်သွယ်ရေးအရာရှိဖြစ်သူ 'ဘရစ်'မှာလည်း မှတ်တမ်းတင်ထိုက်သူတစ်ဦးပင်။

'ဆိုက်ဖာ'အရာရှိ ရုတ်စ်ကိုမ်းဆိုလျှင်လည်း တက္ကသိုလ်မှထွက်၍ ဘုန်းကြီး လုပ်ရန် စိတ်ကူးနေရာမှ စစ်ထဲသို့ရောက်လာသူဖြစ်၏။ သူသည် ရှုပ်ထွေး လှသော 'ဆိုက်ဖာ'စာအုပ်များကြားတွင် နစ်မြုပ်နေရသော်လည်း ဟာသရှိ သူ ဖြစ်သည်။

ဂေါ်ရခါးနှင့်တူအောင် ခေါင်းတုံးကို ပြောင်အောင်ရိတ်ထားသော်လည်း ဘဲဥပုံ ကျောက်လက်စွပ်ကြီး တဝင်းဝင်းနှင့်ရှိနေတတ်သော အော်ဒလီအရာရှိ မှာလည်း ထူးခြားသဖြင့် မှတ်သားစရာ တစ်မျိုးဖြစ်သည်။

ထောက်လှန်းရေးအရာရှိဖြစ်သူ ဟယ်ဒလီကို ကူညီရန် ဘားမားရိုက်ဖယ် မှ ကရင်အမျိုးသား စစ်ဗိုလ်တစ်ယောက်လည်း ကရင်စစ်သားများသာပါသော တပ်စုတစ်စုနှင့် ရောက်လာသည်။ ထောက်လှန်းရေးတပ်တွင် ကိုယ်ခန္ဓာ ထွားကျိုင်းသော အင်္ဂလိပ်ကပြားတစ်ယောက်၊ ပုပုညက်ညက် ဂျပန်စကားပြန် တစ်ယောက်၊ ဗိုလ်မှူးကြီးအဆင့်ရှိသော ရုရှားစကားပြန်တစ်ယောက်တို့မှာ ထင်ရှားသူများဖြစ်၏။

ရုရှားစကားပြန် ဗိုလ်မှူးကြီးမှာ 'ဂျို'အား အကူအညီပေးရန် ဖြစ်သည်။

အခြားထင်ရှား၍ မှတ်သားစရာကောင်းသူတစ်ယောက်မှာ နဖူးထွားကျိုင်း သော ဗိုလ်အဆင့်ရှိ ဘီးလ်ဘရာဟာစ်ပင်တည်း။

သူသည် စစ်ကြီးပြီးသည့်နောက် ကျွန်တော်ရေးသားသည့် 'ဘရမ်ဝမ်နီ လမ်းဆုံ'ဝတ္ထုကို ရုပ်ရှင်အဖြစ် ရိုက်ကူးရာတွင် ဇာတ်လိုက်အဖြစ် ပါဝင်ခဲ့ လေသည်။

ကျွန်တော်တို့သည် သုံးရက်ဆက်၍ တိုက်ပွဲလေ့ကျင့်ခန်းများ ဆင်းပြီး တိုင်း ကျွန်တော်တို့အတွက် ပြုပြင်စရာ အချက်အလက်များကို ဝိုင်း၍ဆွေးနွေး ဝေဖန် အကြံပေးလေ့ရှိကြသည်။

ဆွေးနွေးပွဲမှာ ရုံးအလုပ်များပြီးစီးသည့် ညနေအချိန်တွင် ပြုလုပ်မြဲ ဖြစ်သည်။

မိုးက တစိမ့်စိမ့်ရွာနေသဖြင့် မည်သူမျှ မိုးကာတဲအပြင်သို့ မထွက် နိုင်ကြ။

ဤဆွေးနွေးပွဲနှင့် တိုက်ပွဲလေ့ကျင့်ခန်းများမှနေ၍ ကျွန်တော်တို့သည် တပ်မှူးဖြစ်သူ 'ဂျို'၏ စစ်ဆင်ရေး အစီအစဉ်ကို ရုပ်လုံးဖော်နေကြသည်။

ဤအတွင်း ချစ်သော ဘာဘရာထံမှ စာတစ်စောင် ရောက်လာသည်။

ပတ္တမြားရွှေကြုတ်တွင် နတ်ငုံတော်အရင့်အမာရှိနေပြီဟူသောစာတည်း။

ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးတွင် ကျွန်တော်တို့ ဖြေရှင်းရန် အခက်အခဲတွေ့နေသော ပြဿနာတစ်ခုမှာ ရိက္ခာပြဿနာဖြစ်သည်။

လက်နက်ခဲယမ်းနှင့် စစ်သားအသုံးအဆောင်များကို သယ်ပိုး၍ လမ်းမရှိ စခန်းမရှိသော တောတောင်များကို ဖြတ်သန်းချီတက် တိုက်ခိုက်ရမည့် စစ်သည်တော်တစ်ဦးသည် မည်သည့်နည်းနှင့်မျှ ၅ ရက်စာထက်ပိုသော ရိက္ခာကို သယ်မသွားနိုင်သည်မှာ ကျွန်တော်တို့၏ တိုက်ပွဲလေ့ကျင့်ရေး သင်ခန်းစာများအရ သေချာလှသည်။

ထို့ပြင် ထို ၅ ရက်စာရိက္ခာမှာလည်း မချက်မပြုတ်ဘဲ အလွယ်တကူ ထုတ်နုတ်၍စားနိုင်မည့်ရိက္ခာမျိုး ဖြစ်ရဦးမည်။ ထို့ပြင်မက စစ်သည်တော် တစ်ယောက်အတွက် တစ်နပ်စာစီပါသော ရိက္ခာဘူးမျိုးလည်း ဖြစ်ရဦးမည်။

ဤမျှသာလော မဟုတ်သေး။

ထိုတစ်နပ်စာ ရိက္ခာတိုင်းသည် လူတစ်ယောက်အတွက် လိုအပ်သော ‘ကယ်လိုရီ’လည်း အပြည့်အဝပါရှိရဦးမည် ဖြစ်သည်။

အိန္ဒိယရှိ ရိက္ခာထောက်ပံ့ရေးဌာနက ပေးနိုင်သော ရိက္ခာမှာ စပျစ်သီး ခြောက်၊ နို့မှုန့်၊ လက်ဖက်ခြောက်၊ သကြား၊ ဘီစကွတ်နှင့် အမဲသားဘူးများ ဖြစ်သည်။

ဤရိက္ခာများ ထည့်ထားသည့်ဘူးမှာ မိုးမလုံလေမလုံသဖြင့် စိုထိုင်းထိုင်း ဖြစ်နေတတ်သည်။

ဘီစကွတ်နှင့် နို့မှုန့်မှာ ကျွန်တော်တို့ထံသို့ မရောက်မီကပင် မှိုတက်နေ ပြီး စပျစ်သီးခြောက်မှာလည်း အငွေ့ပျံကာ နံစော်စော်ဖြစ်နေ၏။ အမဲသားဘူး မှာ ဂေါ်ရခါးရဲဘော်များအတွက် များစွာပဏာမစားလှ။

ထို့ကြောင့် ကျွန်တော်တို့ လက်ရှိစားသောက်နေရသော ရိက္ခာမှာ လူတစ်ယောက်အတွက် နေ့စဉ်လိုအပ်သော ကယ်လိုရီထက် ၁၅၀၀ ဝီ လိုနေလေသည်။

ကျွန်တော်တို့က အဆင့်အတန်းမီသော ရိက္ခာများရရှိနိုင်အောင် လုံးပန်း နေစဉ် မြန်မာပြည်တွင်းသို့ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး စစ်ဆင်မှုဖြင့် ပထမဦးဆုံးအကြိမ် ဝင်ရောက်ခဲ့သော ဝင်းဂိတ်သည် သူ၏တပ်ဖွဲ့ဝင်အချို့ဖြင့် အိန္ဒိယသို့ ပြန်လည်ရောက်ရှိလာခဲ့လေသည်။ သူသည် အင်္ဂလန်ပြည် နန်းရင်း ဝန်ကြီး ဝင်စတန်ချာချီ၏ ဆင့်ခေါ်ချက်အရ လန်ဒန်နေပြည်တော်သို့ သွား ရောက်ကာ သူ၏ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး စစ်ဆင်မှု အတွေ့အကြုံ

နှင့် ထင်မြင်ချက်များကို အသေးစိတ် အစီရင်ခံရသည်။

ထိုအချိန်တွင် မဟာမိတ်နိုင်ငံများ၏ စစ်ကွန်ဖရင့်ကြီးတစ်ရပ်သည်လည်း အမေရိကန်ပြည် ကွိဘက်တွင် ကျင်းပမည့်ဆဲဆဲဖြစ်လေရာ နန်းရင်းဝန်ကြီး ချာချီသည် ဝင်းဂိတ်အား ထိုကွန်ဖရင့်သို့ ခေါ်ယူ၍သွားကာ ဝင်းဂိတ်စစ်ဆင်ရေး အစီအစဉ်သစ်တစ်ရပ်ကို တင်ပြခွင့်ပေးခဲ့လေသည်။

ထိုအချိန်ကား ၁၉၄၃ ခု ဩဂုတ်လအတွင်းတည်း။

ကွိဘက်ကွန်ဖရင့်မှ အိန္ဒိယပြည်သို့ ပြန်လည်ရောက်ရှိလာသော ဝင်းဂိတ်မှာ သူရဲကောင်းကြီး ဖြစ်နေလေသည်။ ဝင်းဂိတ်သည် ခရီးဝေးဖောက်ထွင်းရေးဖြင့် မြန်မာပြည်ထဲသို့ ဝင်ရောက်ခဲ့ခြင်း မရှိစေခဲ့ကာမူ မဟာမိတ်စစ်အာဏာပိုင်များ ပါဝင်ကျင်းပခဲ့သော ကွိဘက်ကွန်ဖရင့်သို့ တက်ရောက်ခွင့်ရရှိခဲ့ခြင်းသည်ပင်လျှင် ဝင်းဂိတ်အဖို့ နာမည်ကြီးစရာ ဖြစ်နေတော့၏။ စစ်သည်တော်များ စုမိလေသည့်နေရာတိုင်းတွင် ဝင်းဂိတ်နာမည်ကို ထုတ်ဖော်ပြောဆိုရခြင်းကပင် ဂုဏ်ယူစရာတစ်ခု ဖြစ်နေလေသည်။

ကွိဘက်ကွန်ဖရင့်မှ ဝင်းဂိတ် ပြန်ရောက်လာသည်နှင့်တစ်ပြိုင်နက် ကျွန်တော့်တို့၏ မျှော်မှန်းချက်တောင်ကြီးသည်လည်း အလိုလိုပြိုကျခဲ့ပေသည်။ ပြိုနေသော တောင်အကြားမှ ကျွန်တော်တို့ ထွက်လာနိုင်သည့်အချိန်တွင်ကား ကျွန်တော်တို့၏ 'ကျားသစ်'တပ်ဖွဲ့သည် 'ခြင်္သေ့'ကြီး၏ သားရေအောက်သို့ ကျရောက်နေသည်ကို တွေ့ရတော့၏။

ကျွန်တော်တို့သည် ဒုတိယခရီးဝေးဖောက်ထွင်းရေးတပ်ဖွဲ့ အနေဖြင့် သီးခြားရပ်တည်ခြင်း မရှိတော့ဘဲ ဗိုလ်ချုပ်ဝင်းဂိတ်၏ အထူးတပ်မှ တပ်မဟာ တစ်ခုသာလျှင် ဖြစ်လာတော့သည်။

ဝင်းဂိတ်သည် ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး အစီအစဉ်ကို 'ခံတပ်ဖြင့် စစ်ဆင်ရေး'အဆင့်အထိ တိုးချဲ့လုပ်ပြီးနောက် ဗြိတိသျှခြေလျင်တပ်မ တစ်ခုလုံးကိုလည်း ခြင်းဒစ်တပ်ဖွဲ့အောက်သို့ သွတ်သွင်းလိုက်ကာ အနောက်အာဖရိက တပ်မဟာမှာလည်း ကျွန်တော်တို့ကဲ့သို့ပင် ခြင်းဒစ်များ ဖြစ်လာရတော့၏။

ဝင်းဂိတ်ကိုယ်တိုင်မှာမူ ဗိုလ်မှူးချုပ်မှ ဗိုလ်ချုပ်ဖြစ်လာတော့သည်။

ကျွန်တော်တို့၏စစ်ဆင်ရေးအတွက် ဗိုလ်ချုပ်ဝင်းဂိတ်သည် အမေရိကန်စစ်တပ်သုံး ကိရိယာအားလုံးလိုလိုကို ရရှိအောင် တောင်းဆိုနိုင်ခဲ့သည်။ အမေရိကန်စစ်ပစ္စည်းများသည် ကျွန်တော်တို့လုံးပန်းနေသော အဆင့်အတန်းမီ

သည့် ရိက္ခာရရှိရေးကိုလည်း ဗိုလ်ချုပ်ဝင်းဂိတ်က မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက်အတွင်း နတ်ဖန်ဆင်း၍ပေးလိုက်သလို အမေရိကန် ကေ–ရာရှင်များ ကို တောင်လိုပုံ၍ ရောက်လာစေတော့၏။

ဝမ်းသာစရာပင်တည်း။

ဝမ်းသာစရာကောင်းသလို ဝမ်းနည်းစရာလည်း မရှောင်မလွှဲသာ။

ကျွန်တော်တို့၏ 'ကျားသစ်' ပျောက်၍ 'ခြသေ့'နောက်သို့ လိုက်ရခြင်းမှာ ဝမ်းနည်းစရာကောင်းသလို 'ကျားသစ်'ကို အင်သစ်၊ အားသစ်၊ စိတ်သစ်ဖြင့် မွေးလာခဲ့ရသော တပ်မှူး'ဂျို'အတွက် စိတ်မကောင်းစရာ ဖြစ်တော့၏။

'ဂျို'က စိတ်မချမ်းသာသလို ကျွန်တော်လည်း စိတ်မချမ်းသာ။ 'ကျားသစ်'တပ်ဖွဲ့တွင် ပါဝင်သော တိုက်ရည်ခိုက်ရည်ရှိသည့် စစ်သားကြီးတိုင်းလည်း စိတ်မချမ်းသာ။

ဝင်းဂိတ်၏ စစ်ဆင်ရေးအစီအစဉ်မှာ ကျွန်တော်တို့ မျှော်မှန်းထားသလို မဟုတ်ဘဲ အဆမတန် ကြီးမားခမ်းနားနေသည့်အတွက်လည်း 'လေးနှင့်မြှား၊ ဝန်နှင့်အား' မမျှဘဲ တစ်ဖက်စောင်းနင်းကြီးဖြစ်ကာ ဆင်ခေါင်း ဆိတ်မရိုးနိုင် သလို ဖြစ်နေမည်ကို စိုးရိမ်မိသည်။

အတိုချုပ်၍ဆိုရသော် ဝင်းဂိတ်၏ စစ်ဆင်ရေးအပေါ်တွင် ကျွန်ုပ်တို့က သံသယရှိနေသည်။

အမှတ်(၁၁၁) တပ်မဟာ၏ တပ်မှူးနှင့် ဦးစီးအရာရှိအနေနှင့်မူ ကောင်းသော သယ်ယူပို့ဆောင်ရေး၊ ကောင်းသောရိက္ခာ၊ ကောင်းသော စစ်လက်နက်ပစ္စည်းများ ရရှိရမည်ဖြစ်သည့်အတွက် ကျေနပ်သည်ထက် ပိုနေသည်။ ဝင်းဂိတ်၏ စစ်ဌာနချုပ်က လေတပ်တစ်ခုလုံးကို ကြိုးကိုင်ထားမည်ဟု သိရသောကြောင့်လည်း ကျွန်တော်တို့ထက် တတ်နိုင်ပါပေသည်ဟု မှတ်ချက်ချမိသည်။

ဝင်းဂိတ်၏ ခြင်းအစ်တပ်ဖွဲ့သစ်တွင် ခြေလျင်တပ်ရင်း ၄ ခု မဟုတ်တော့ဘဲ တပ်ရင်းပေါင်း ၂၄ ရင်း ပါဝင်လာသည်။ တပ်ရင်း ၂၄ ရင်း ဆိုသည်မှာ တပ်မ ၂ ခုခွဲ အင်အားပေတည်း။

သို့သော် ဤတပ်မ ၂ ခုခွဲ၏ အင်အားသည် စံချိန်မီသော တပ်မတစ်ခု၏ စွမ်းအားကို မမီ။

စံချိန်မီသော တပ်မဟာတစ်ခုမှ ခြေလျင်တပ်သားများကို မြေပြင်ပစ်

အပြောက်များ၊ လေယာဉ်ပစ်အပြောက်များ၊ တင့်ကားများက အကူအညီ ပေးလျက်ရှိသည်။

လူအင်အားအနေဖြင့် တပ်မ ၂ ခုခွဲစာ အင်အားရှိသော ခြင်းဒစ် တပ်ဖွဲ့အား ရိက္ခာနှင့်ခဲယမ်း လုံလောက်စွာထောက်ပံ့ရန်အတွက် လေကြောင်း တစ်ခုတည်းသာ အားကိုးစရာရှိရာ လေယာဉ်အစင်းပေါင်း များစွာလိုနေပေ သည်။

အကယ်၍သာ တပ်မတော်တစ်ခုကို အုပ်ချုပ်နေသော တပ်မှူးတစ်ဦး သည် ခြင်းဒစ်တပ်ဖွဲ့သစ်အား ရိက္ခာနှင့်ခဲယမ်းထောက်ပံ့နိုင်ရန် လိုသမျှသော လေယာဉ်စင်းရေကို ရရှိခဲ့သည်ရှိသော် ထိုတပ်မှူးသည် ခြင်းဒစ်တပ်ဖွဲ့သစ် ထက်ပင် ပိုမိုထိရောက်စွာ တိုက်ခိုက်နိုင်မည်ဖြစ်၏။

အကယ်၍သာ အိန္ဒိယရှိ စစ်တပ်များ၏ စစ်သေနာပတိချုပ်ဖြစ်သော ဗိုလ်ချုပ်ကြီးဝေဗယ်လ်က ကျွန်တော်တို့၏ တပ်မှူး 'ဂျို'အား ကွီဘက်မှ ဝင်းဂိတ် ပြန်မလာမီ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးအပေါ်တွင် မည်သို့ ထင်မြင်သည်ကို မေးခဲ့သည်ရှိသော် အထက်ပါစာပိုဒ်သည် 'ဂျို'၏အဖြေပင် ဖြစ်ပေမည်။

ဝေဗယ်လ်၏နေရာကို ဆက်ခံရသော ဗိုလ်ချုပ်ကြီးအော်ချင်လက်သည် လည်း ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးနှင့် ပတ်သက်၍ သူ၏တင်ပြချက်ကို ပေးရန် တောင်းဆိုလာသောအခါ တပ်မှူး'ဂျို'ကဲ့သို့ပင် အဖြေပေးခဲ့သည်။

သို့သော် သူ့အဖြေမှာ ကွီဘက်ကွန်ဖရင့်သို့ သံကြိုးရိုက်၍ပေးပို့ရသော အဖြေသာဖြစ်ရာ ကွန်ဖရင့်သို့တက်ရောက်၍ ပေးရသောအဖြေလို အာဏာ မရှုရှိ၊ ထို့ပြင် အော်ချင်လက်၏အဖြေ ကွန်ဖရင့်သို့ ရောက်လာသောအချိန် မှာ ဝင်းဂိတ်၏ စစ်ဆင်ရေးအစီအစဉ်သစ်ကို လက်ခံအတည်ပြုပြီးသောအချိန် ဖြစ်နေလေသည်။

သို့ဖြင့် 'ကျားသစ်'တပ်ဖွဲ့၏ တပ်မှူးဖြစ်သူ 'ဂျို'သည် ဗိုလ်ချုပ်ဝင်းဂိတ်၏ သာမာန်တပ်မဟာမှူးတစ်ယောက်သာ ဖြစ်လာရတော့သည်။ သူ့တာဝန်မှာ ဝင်းဂိတ်ကပေးသော အမိန့်ကို သူစွမ်းဆောင်နိုင်သလောက် ထမ်းဆောင်နိုင် ရန်ပင် ဖြစ်တော့၏။ စစ်သားတစ်ယောက်အတွက် ဤကဲ့သို့သော အဖြစ်မျိုးနှင့် ရင်ဆိုင်တိုးရပုံမှာ အဆန်းမဟုတ်။ မည်သည့်အခါမှလည်း ဆန်းမည်မဟုတ်။

"ကဲ...ကိုယ်တို့က ဝင်းဂိတ်ရဲ့ ကိုယ်ပိုင်တပ်မတော်မှာ တပ်မဟာတစ်ခု အနေနဲ့ ပါရမီအတူတူတော့ ပျော်ပျော်ပဲနေတော့ ကိုယ့်လူရေ၊ ဒါပေမယ့်

ကိုယ့်လူအချင်းချင်းတော့ စည်းစည်းလုံးလုံး ရှိနေပါစေ။ ဘာဖြစ်လို့လဲဆိုတော့ ကိုယ်တို့ ခြင်းခစ်တွေဟာ သူများထက်ထူးပြီး နယူးမှာချီပေါက်လာမယ့်လက္ခဏာတွေ မြင်ရလို့ပဲ''

တပ်မှူး'ဂျိ'ပြောသည့်အတိုင်းလည်း သွေးထွက်အောင်မှန်လှသည်။

ကျွန်တော်တို့ ခြင်းခစ်များသည် လူတကာလက်ညှိုးထိုးစရာ၊ တပ်မတော်သားချင်း အငြင်းပွားစရာ ဖြစ်လာတော့၏။

သတင်းစာများက အသားပေး၍ ခြင်းခစ်တပ်ဖွဲ့အကြောင်းကို ဖော်ပြနေသောကြောင့်လည်း ကျွန်တော်တို့မှာ တစ်ခါတစ်ခါတွင် ရွှေမင်းသားလေးဖြစ်လိုက်၊ တစ်ခါတစ်ခါတွင် ကျွန်ဖြစ်လိုက်နှင့် လျှာကလေးတစ်ခုပေါ်တွင်ပင် မင်းသားထင်ယောင်၊ ကျွန်ထင်ယောင် ဖြစ်နေရလေသည်။

ဝင်းဂိတ်သည် စစ်ဆင်ရေးအစီအစဉ်ကို ဆက်လုပ်နေသည်။ ကျွန်တော်တို့လည်း ငါးမန်းဆီနှင့် မက်ဖာကရင်ကို ဆက်၍စားနေရသည်။ ငါးကြီးဆီမှာ ကျွန်တော်တို့ သောက်သုံးနေကျ အားဆေးဖြစ်သော်လည်း ခြင်းခစ်တပ်ဖွဲ့တွင် လူအင်အားက အဆမတန် များပြား၍လာသောအခါ ကျွန်တော်တို့သည် ပို၍ ဈေးပေါသော ငါးမန်းဆီကိုသာ ရလာတော့၏။

ငါးမန်းဆီမှာ ငါးကြီးဆီလိုပင် ကောင်းသည်ဟု ဆိုပါ၏။ သို့သော် အနံ့က ဆိုးလှသည်။ ကျွန်တော်တို့မျက်နှာများမှာ ကျွန်တော်တို့စွန့်လိုက်သော ကျင်ငယ်ရည်ကဲ့သို့ပင် ဝါထိန်၍လာလေသည်။ မက်ဖာကရင်ကို စားလျှင် ပန်းသေသည်ဟူသော ကောလာဟလသတင်းကလည်း ပျံ့နှံ့လာသည်။ ထိုမျှမက ခေါင်းတွင်ရှိသမျှဆံပင်များ အုံလိုက်ကျွတ်ကျသည်ဟူ၍ တီးတိုးစကား ဖြစ်ပေါ်လာပြန်သည်။

မက်ဖာကရင်သည် ငှက်ဖျားကို နှိမ်နင်းသော ဆေးပြားကလေးများဖြစ်သည်ကား အမှန်ပင်ဖြစ်တော့၏။ ငှက်ဖျား ဖျားလာသော စစ်သားတစ်ယောက်မှာ ဂျပန်က လာတိုက်ရန် မလိုဘဲနှင့် အလိုလို ကိစ္စတုံးမည်မှာ သေချာလှသည်။ မက်ဖာကရင်ဆေးပြားကို မိမိတို့ အထက်အရာရှိရှေ့တွင် ကိုယ်တိုင်ကိုယ်ကျ သောက်မပြဘဲနှင့် မည်သည့်စစ်သားမျှ ရိက္ခာမရ၊ ကန့်သတ်ထားသော အရေအတွက်ထက် ဖျားသူနာသူ ပို၍များလာပါမူ သက်ဆိုင်ရာ တပ်မှူးသည် ရာထူးမှ ထုတ်ပယ်ခြင်းခံရမည်ဟူသော အမိန့်ကိုပင် ထုတ်ထားရသည်။ ဤနည်းဖြင့် ဖျားသူနာသူဦးရေမှာ လျော့နည်းလာခဲ့၏။

ကျွန်တော်တို့သည် ၂၄ နာရီကြာသော တိုက်ပွဲလေ့ကျင့်ခန်းကို ပြုလုပ်

ကြရာ၌ မတ်စောက်၍ တောထူသော တောင်ပေါ်တွင် ၁၂ နာရီလုံးလုံး ဆင်းလိုက်တက်လိုက်လုပ်ကာ လေ့ကျင့်ကြရသည်။ အမေရိကန်လေတပ်မှ ဆက်သွယ်ရေးအရာရှိဖြစ်သူ ဘီလ်လူကပ်စ်က တောအုပ်များအကြားမှနေ၍...

''ဒီအတိုင်း တက်လိုက် ဆင်းလိုက် လုပ်နေရတာ အဲဗရက်တောင်ထိပ်ကို တက်ပြီး ပြန်ဆင်းလာရတဲ့ခရီးလောက် ရှိနေပြီ''ဟု စိတ်ဆိုးဆိုးနှင့် အော်၍ ပြောလိုက်၏။

ကျွန်တော်တို့သည် တောင်များကိုသာ တက်ရဆင်းရသည်မဟုတ်သေး။ မြစ်များနှင့် ရေအိုင်ကြီးများအတွင်းသို့လည်း ဆင်းရတက်ရ ဖြတ်ရကူးရသည်။ လူသူအရောက်အပေါက် ကင်းမဲ့နေသော ဘုရားအို ကျောင်းပျက်များအတွင်း တွင်လည်း ဖြစ်သလိုအိပ်ကြရသည်။ တိရိစ္ဆာန်ဆရာဝန်များက မြင်းနှင့် လားများမှ အသံလာသော 'အကြော'ကို ဖြတ်ပစ်ကြသည်။ ရန်သူနှင့် ရင်ဆိုင်ရမည့်အချိန်တွင် မည်သည့်အသံမှမလိုအပ်တဲ့နှင့် ထွက်မလာနိုင်အောင် တည်း။

ကျွန်တော်တို့သည် အမြဲလိုလို တိုက်ပွဲလေ့ကျင့်ခန်း ဆင်းနေရတော့၏။ အများကြီးချီတက် နည်းနည်းနား ထပ်၍အများကြီးချီတက်...

တပ်မဟာဌာနချုပ်တွင် ရုံးအလုပ်ကိုလုပ်ရသည့်ရက်များမှာ နည်းလှသည်။ တိုက်ပွဲလေ့ကျင့်ခန်းအတွက် အစီအစဉ်ရေးဆွဲပြီးသည်နှင့်တစ်ပြိုင်နက် တောများ၊ တောင်များ၊ စိမ့်များ၊ စမ်းများ၊ ရွံ့များ၊ ဖွက်များကို အခေါက် ခေါက် အခါခါ ဖြတ်သန်း၍ တိုက်ပွဲလေ့ကျင့်ခန်းဆင်းရပြန်တော့၏။

ကျွန်တော်တို့ ဤကဲ့သို့ လေ့ကျင့်ခန်းယူနေသည်မှာ မြန်မာပြည်အတွင်း သို့ ဝင်ရောက်တိုက်ခိုက်ရန်ဖြစ်သည်။ ထို့ပြင် တက်နေအလံစိုက်ထူထားရာ ဖြစ်သော ဂျပန်နိုင်ငံသို့ ဝင်ရောက်တိုက်ခိုက်ရန်ဖြစ်သည်။

ကျွန်တော်တို့ ဖြတ်သန်းလေ့ကျင့်ရသော နယ်မြေဒေသရှိ ကျေးရွာ လူထုမှာ သေနတ်ကြီးတကားကားဖြင့် မြင်နေရသော ကျွန်တော်တို့တစ်တွေကို အံ့ဩစွာကြည့်နေတတ်ကြသည်။ အိန္ဒိယပြည်၏ မြို့ကြီးပြကြီးများတွင် အိန္ဒိယ ကွန်ဂရက်၏ အိန္ဒိယပြည်ကို 'လက်လွှတ်လော့' ဟူသော ကြွေးကြော်သံမှာ ဆူညံလှုပ်ရှားလျက်ရှိသော်လည်း ကျွန်တော်တို့ လာရောက်လေ့ကျင့်နေသည့် တောရွာဇနပုဒ်များတွင်မူ ကွန်ဂရက်၏ကြွေးကြော်သံမှာ ဆိတ်သုဉ်းနေပေသည့် တောင်ပေါ်နေလူမျိုးအချို့မှာ ဗြိတိသျှစစ်တပ်များ အိန္ဒိယသို့ရောက်နေသည် ကိုပင် အံ့ဩစရာသတင်း ဖြစ်နေတော့၏။

ဂျန်စီမှ ဂျန်ဘူလ်ပိုအထိ အိန္ဒိယပြည်ကို ဖြတ်သန်း၍ မိုင်ပေါင်း ၁၀၀၀ ခန့် တိုက်ပွဲလေ့ကျင့်ခန်းယူခဲ့ရာတွင် ကျွန်တော်သည် ရွာပေါင်းအတော်များများ၌ အိန္ဒိယပြည်၏ နိုင်ငံရေးအခြေအနေနှင့် အိန္ဒိယပြည်က ရင်ဆိုင်နေရသော ရန်သူတို့၏ အခြေအနေကို စုံစမ်းစနည်းနာခဲ့သည်။ ကျေးရွာလူထုအများအပြားမှာ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်နေသည်ဟူသော သတင်းကို ကြားသိနေကြသော်လည်း လူတစ်ရာလျှင် နှစ်ယောက်သာ အိန္ဒိယကွန်ဂရက်ရှိနေမှုန်းကို သိသည်။ သုံးယောက်လောက်သာ ဂန္ဒီကြီးနာမည်ကို ကြားဖူးသည်။ ကလိုက်ဖ်၏ နာမည်ကိုသော်လည်းကောင်း၊ ဝါဒါနိုဟိတ်စတင်း၏ နာမည်ကို သော်လည်းကောင်း၊ အိန္ဒိယပြည် ဘုရင်ခံချုပ်၏ နာမည်ကိုသော်လည်းကောင်း တစ်ဦးတစ်ယောက်မျှ မသိ။

တစ်ခါတွင်မူ စစ်သားဆို၍ တစ်ခါမျှ မမြင်ဖူးသော ဇနပုဒ်တစ်ခုသို့ ရောက်ခဲ့သည်။ တစ်ကြိမ်တွင်မူ အလွန်ခေါင်လှသော ရွာကလေးတစ်ရွာ၌ မယားသုံးယောက်ယူထားသော အဘိုးကြီးတစ်ဦး၏တဲတွင် ပဲဟင်းနှင့်ထမင်း မြိန်မြိန်စားခဲ့ရသည်ကို မှတ်မိနေသေးသည်။ အဘိုးကြီးမှာ ငယ်စဉ်က နာမည်ကြီးသော လူဆိုးဗိုလ်ကြီး ဖြစ်ခဲ့လေသည်။ ထိုရွာမှ အမျိုးသမီးတစ်ယောက်သည် သေနတ်ကိုထမ်း၍ လမ်းလျှောက်လာသော ရုပ်ဖြောင့်ဖြောင့် စစ်သားတစ်ယောက်ကို ကြာမှုပါပါနှင့် ကြည့်နေသည်ကို သတိပြုမိခဲ့၏။ လူဆိုးဗိုလ်ကြီး နေထိုင်သော ရွာဖြစ်၍ အမျိုးသမီးများကပင် စစ်သားကို ကြောက်စိတ်မရှိလေရော့သလားဟု တွေးမိသည်။

ဘုံဘေသို့ရောက်နေသော 'ဘာဘရာ'သည် အမျိုးသမီးအရံတပ်ဖွဲ့တွင် တပ်ကြပ်အဖြစ် အမှုထမ်းရင်း ဘုရင့်လေတပ်မတော်မှ စားသောက်ဆိုင်တစ်ခုကို ကွပ်ကဲအုပ်ချုပ်နေကြောင်း သိရ၏။

ကျွန်တော်တို့၏ အမှတ်(၁၁၁) တပ်မဟာတွင် ဝင်းဂိတ်အား အထင်ကြီးသူများ ပို၍ များပြားလာသည်။ သူသည် ကိုယ်ပိုင်ခြေလျင်တပ်မတော်တစ်ခုကိုသာမက ကိုယ်ပိုင်လေတပ်မတော်တစ်ခုကိုလည်း 'ကွိဘက်' ကွန်ဖရင့်ကို ရအောင်တောင်းဆိုနိုင်ခဲ့သည် မဟုတ်ပါလား။ ယခုအချိန်တိုင်အောင် ကျွန်တော်တို့သည် ကျွန်တော်တို့၏ ဘုရင့်လေတပ်မတော်နှင့် အပေးအယူလုပ်ရာတွင် များစွာအခက်အခဲတွေ့ရလျက်ပင် ရှိသေးသည်။ ကျွန်တော်တို့က မည်သည့်အရာကို ဆောင်ရွက်ပေးပါဟု ပြောလေတိုင်း ဘုရင့်လေတပ်မတော်က ထိုအရာမှာ ခက်ခဲလွန်းသည်ဟူ၍လည်းကောင်း၊ လုံးဝမဖြစ်နိုင်

ဟူ၍လည်းကောင်း။ လေတပ်၏ လုပ်ငန်းစဉ်နှင့် ဆန့်ကျင်သည်ဟူ၍လည်း ကောင်း ငြင်းပယ်၍ချတတ်သည်။ သူတို့က မည်သို့မည်သို့သောကိစ္စများကို ဆောင်ရွက်ပေးပါမည်ဟု ပြောလာသောအခါ၌လည်း ထိုအရာများမှာ ကျွန်တော်တို့ဆန္ဒနှင့် အံမဝင် ခွင်မကျ။ ယခုမူ ကျွန်တော်တို့ ခြင်းဒစ်တပ်ဖွဲ့သည် အမေရိကန်တို့ထံမှ အမှတ်(၁) လေတပ်ကို ရရှိတော့မည်ဖြစ်၏။

ဤလေတပ်ကို အုပ်ချုပ်သူကား ဖိလစ်ကော့ကရိန်းပင်တည်း။

သူသည် အသက်အရွယ် မကြီးလှသေးသော်လည်း စွမ်းရည်သတ္တိမှာ ကြီးမားသူဖြစ်၏။ အရပ်ပုပု ဂင်တိုတိုနှင့် ဦးထုပ်ကို နောက်ဘက်ကျကျ ဆောင်းတတ်သော သူ့အမူအရာမှာ လေတပ်ဗိုလ်ချုပ်တစ်ယောက်၏အသွင် ကို မဆောင်။

တစ်နေ့တွင် သူသည် ကျွန်တော်တို့ အရာရှိများအား စုဝေးစေပြီး သူနှင့် သူ၏ လေတပ်ရဲဘော်များက ကျွန်တော်တို့ မြေပြင်တပ်များ အလိုရှိ သည့်အတိုင်း မည်သည့်ကိစ္စကိုမဆို ပြုလုပ်ပေးမည်ဟု မိန့်ခွန်းပေးသည်။ ကျွန်တော်တို့အချင်းချင်း မယုံသည့်မျက်နှာပေးနှင့် ကြည့်မိကြသည်။ သူ ပြောပြသည့်အချက်များမှာ ကျွန်တော်တို့ ဘုရင့်လေတပ်မတော်က လုပ်ရန် ခဲယဉ်းသည်ဟု ဆိုသောအချက်များထက် ဆယ်ဆတက်၍ ခက်ခဲနေသည်။ မြေပြင်မှနေ၍ အမိန့်ပေးညွှန်ကြားသမျှကို သူ၏ လေသူရဲများက လိုက်၍ လုပ်ပေးမည်ဟု ကတိပေးသည်။

ကျွန်တော်တို့သည် ကော့ကရိန်းအား လေလုံးထွားသော လူငယ်တစ် ယောက်ဟု ထင်မှတ်ခဲ့ကြ၏။ သို့သော် ကျွန်တော်တို့အထင်မှာ ပါစင်အောင် လွဲခဲ့ရချေ၏။

ခြေလျင်တပ်နှင့် သူ၏လေယာဉ်တပ်များ ပူးပေါင်း၍ တိုက်ပွဲလေ့ကျင့်ခန်း ပြုလုပ်သည့်အကြိမ် တစ်ကြိမ်က လားတပ်မှ ဗိုလ်ကြီးတစ်ဦးမှာ လားအကန်ခံ ရပြီး သေလုမျောပါးဖြစ်နေခဲ့၏။ ကော့ကရိန်းသည် ကျွန်တော်တို့အား အပေါ့စား လေယာဉ်ပျံတစ်စင်း ဆင်းသက်နိုင်မည့် လေယာဉ်ပြေးလမ်းကြောင်းကို ပြုလုပ် စေပြီးနောက် အပေါ့စားလေတပ်မှ လေယာဉ်တစ်စင်းကို ချက်ချင်း ဆင့်ခေါ် လိုက်၏။ အပေါ့စားလေယာဉ် ဆင်းသက်နိုင်သည့် လေယာဉ်ပြေး လမ်းကြောင်းမှာ အနည်းဆုံး ပေ ၆၀၀ ရှည်ရမည်ဖြစ်သည်။ သို့သော် ထိုအချိန်က ကျွန်တော်တို့ ရောက်ရှိနေသော နေရာမှာ တောထူသောဒေသ ဖြစ်ရကား လေယာဉ်ပြေးလမ်းကြောင်းကို ပေ ၄၀၀ အထိသာ အစွမ်းကုန်

ပြုလုပ်၍ ရသည်။

ဤမျှကျဉ်းမြောင်းသော လေယာဉ်ပြေးလမ်းကြောင်းပေါ်တွင် ကော့ကရိန်း၏ လေတပ်မှ အပေါ့စားလေယာဉ်မောင်းသူ လေသူရဲသည် အံ့ဩဖွယ်ကောင်းလောက်အောင် အထိအခိုက်မရှိဘဲ ဆင်းသက်လာခဲ့ပြီးနောက် မရှုမလှဖြစ်နေသော လူနာကို ဘေးမသီရန်မခဘဲ ပြန်၍ခေါ်ယူသွားနိုင်သည်။ ဤသတင်းသည် တပ်ရင်းပေါင်း ၂၄ ရင်းပါရှိသော ခြင်းဒစ်တပ်ဖွဲ့အတွင်းတွင် တောမီးပမာ ပျံ့နှံ့သွားတော့၏။

ခြင်းဒစ်အဖွဲ့ဝင်တိုင်း၏ စိတ်ဓာတ်မှာ မိုးသို့တိုင်အောင် မြင့်တက်သွားတော့၏။ တောထဲတွင် ဒဏ်ရာရ၍ ချုံပုတ်တစ်ခုအောက်တွင် စွန့်ပစ်ထားခံခြင်းခံရမည့် အန္တရာယ်မျိုးနှင့် မည်သည့်နည်းနှင့်မျှ မတိုးနိုင်တော့ပြီ။

တစ်ချိန်က လေလုံးထွားသူဟု ထင်မှတ်ခြင်းခံခဲ့ရသော ကော့အရိန်းမှာ တပ်သားတိုင်း တပ်မှူးတိုင်း၏ ကြည်ညိုချစ်ခင်စရာ သူရဲကောင်းကြီး ဖြစ်လာလေသည်။

တိုက်ပွဲလေ့ကျင့်ခန်းများ ဆုံခန်းတိုင်သည့်အချိန်တွင် အူရောင်ငန်းများရောဂါမှ နာလန်ထကာစသော ရှိသေးသော ဗိုလ်ချုပ်ဝင်းဂိတ်သည် တပ်မှူး 'ဂျီ'အား ပြီးဆုံးခဲ့သော တိုက်ပွဲလေ့ကျင့်ခန်းများအပေါ်တွင် မှီ၍ မည်သို့အကျိုးသက်ရောက်မှု ရှိ မရှိကို လေ့လာပြီးနောက် ကောက်ချက်ချရန် တာဝန်ပေးခဲ့သည်။

ဂျီက ပေးအပ်လာသော တာဝန်ကို စရုံသာ စရသေးသည်။ ဝင်းဂိတ်သည် စိတ်ပြောင်းသွားပြီး ထိုတာဝန်ကို သူကိုယ်တိုင်ပင် ဆောင်ရွက်တော့မည်ဟုဆိုကာ ကျွန်တော်တို့အား ကျောကိုပုတ်၍ နှစ်သိမ့်မှုပေးခဲ့သည်။

အကျိုးအကြောင်း အဆိုးအကောင်းကို ရှာဖွေလိုသူများအဖို့ စိတ်ပျက်စရာ ဖြစ်သော်လည်း နှစ်သိမ့်မှုမျိုးကို လိုလားသူများအတွက်မူ အနှစ်သိမ့်ခံခဲ့ရပြီ မဟုတ်ပါလား။

ဝင်းဂိတ်ကိုကြည့်ရသည်မှာ ကျန်းမာပုံမရ၊ ကိုယ်မကျန်းမာသလို စိတ်ကလည်း ကျန်းမာမည် မဟုတ်ဟု တွေးမိသည်။ တစ်ယူသန် ဖွတ်သမားတစ်ယောက်ဟုလည်း မှတ်ချက်ချမိသည်။ မည်သို့ပင်ဖြစ်စေ ဥပဓိရုပ်ကောင်းသလောက် အမူအရာပါ ခံ့ညားသော ဝင်းဂိတ်သည် လေးစားကြည်ညိုဖွယ်ရာပင် ဖြစ်နေလေသည်။

ကျွန်တော်တို့တပ်မဟာသို့ သူကြည့်ရှုစစ်ဆေးရန် ရောက်လာသောနေ့ကို

မှတ်မိနေသေးသည်။

သူသည် ကျွန်တော်တို့ တပ်မဟာမှ စကော့အမျိုးသားများ ပါဝင်သော အမှတ်(၁)တပ်ရင်း တန်းစီကာ သတိအနေအထားဖြင့် ရပ်နေသည်ကို စူးစိုက်၍ကြည့်နေသည်။ သူနှင့် အနီးဆုံးရဲဘော်တစ်ယောက်မှာ ပေ ၂၀ ခန့်အကွာတွင်ရှိနေ၏။ သူသည် ထိုရဲဘော်အား အတန်ကြာအောင် စူးစိုက်ကြည့်နေပြီးနောက်...

''မင်းတော့ တိုက်ပွဲမှာ သေရမှာပဲ''ဟု ပြောလိုက်သည်။

သူ့အသံမှာ ကံတရားကို ကြို၍မြင်နေသော သူတော်စင်၏အသံလို အေးဆေးငြိမ်သက်သည်။ သို့သော် ဩဇာနှင့်ကား ပြည့်စုံပါပေ၏။

သေမည်ဟု အပြောခံလိုက်ရသော ရဲဘော်သည် ယခုပင်လျှင် သူ့ရှေ့မှောက်၌ သေမင်းကိုယ်တိုင် လာ၍ရပ်လာသည်ကို မြင်လိုက်ရသလို တစ်ကိုယ်လုံး တုန်တုန်ယင်ယင် ဖြစ်သွားသည်။

ဝင်းဂိတ်သည် ထိုရဲဘော်ထံမှ သူ၏ စူးရှထက်မြက်သော မျက်လုံးအစုံကို လွှဲဖယ်လိုက်ပြီးနောက် အခြားရဲဘော်တစ်ယောက်ကို စိတ်ပညာဖြင့် ညို့၍ ပြုထားသလို ကြည့်လိုက်ပြန်သည်။

''များစွာကုန်သော သင်တို့သည် သေခြင်းနှင့် မုချတွေ့ရလတ္တံ့။ ကပ်ဆိုးကြီး ဘေးဆိုးကြီးများနှင့် ကြုံရလတ္တံ့။ သင်တို့ တွေးပင်မတွေးမိဖူးသော အစာငတ်မွတ်ခြင်းဒုက္ခ၊ ပင်ပန်းဆင်းရဲခြင်း ဒုက္ခတို့ အနာရောဂါထူပြောသော ဒုက္ခတို့ဖြင့် ရင်ဆိုင်ရမည်မှာ မုချတည်း''

ဝင်းဂိတ်၏အသံမှာ ဘုရားသခင်၏ ဝိညာဉ်အလင်းရောင်ကို ရရှိသော တမန်တော်၏အသံနှင့် တူနေလေသည်။

ဤကဲ့သို့သော စကားမျိုးကား စစ်မြေပြင်သို့ ထွက်ရအံ့ဆဲဆဲ ဖြစ်နေသော စစ်သည်တော်များအား ပြောနေကျစကားမျိုး မဟုတ်သလို ပြောသင့်သော စကားမျိုးလည်း မဟုတ်။

ဤစကားကြောင့်ပင် စကော့အမျိုးသားများ အများအပြား ပါဝင်သော အမှတ်(၁)တပ်ရင်းမှ တပ်မှူးနှင့်တကွ ရဲဘော်အားလုံးမှာ သူတို့တပ်ရင်းအပေါ်တွင် ဝင်းဂိတ်က စိတ်ကောင်းစေတနာကောင်းထားခြင်းမရှိဟု ယူဆခဲ့ကြလေသည်။

စကော့အမျိုးသားများ သို့မဟုတ် ကင်မရွန်းနယ်သားများ ပါဝင်သော အမှတ်(၁)တပ်ရင်းသည် ၁၉၄၃ ခုနှစ်က ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေး

တပ်အဖြစ် မြန်မာပြည်အတွင်းသို့ ဝင်ရောက်တိုက်ခိုက်ခဲ့ရာ၌ ဂျပန်တို့အား တစ်ယောက်လျှင် တစ်ယောက်ချင်း ရဲရဲရင့်ရင့်စွာတိုက်ခိုက်ခဲ့သူများဖြစ်သည်။ ကြုံတွေ့ခဲ့ရသော အစာရေစာငတ်ပြတ်ခြင်း၊ အမဲလိုက်သလို ရန်သူ၏ အလိုက်ခံရခြင်းတို့ကို ကြံ့ကြံ့ခံနိုင်ခဲ့သူများဖြစ်၏။ ဤကဲ့သို့သောသူများအား သေဘေးနှင့်ခြိမ်းခြောက်၍ သတ္တိတက်လာအောင် လုပ်သည်ဟု ဆိုရန်လည်း မသင့်။

စစ်သားသည် အသက်ကို စတေးရမည်ဟူသော ဝင်းဂိတ်၏ ကြွေးကြော်ချက်မှာ အမှတ်(၁)တပ်ရင်းတွင် ပြောဆိုခဲ့သောစကားကြောင့် အဓိပ္ပာယ် အနှစ်သာရ ကင်းမဲ့ခဲ့သလို ဖြစ်ခဲ့ရလေသည်။

ဗိုလ်ချုပ်ဝင်းဂိတ် ကျွန်တော်တို့တပ်မဟာသို့ လာရောက်စစ်ဆေးသည့်ညတွင် အမှတ်(၁)တပ်ရင်းမှ ရဲဘော်များသည် အလွန်အကျွံ မူးကြတော့၏။

"များစွာကုန်သော သင်တို့သည် သေခြင်းနှင့် မုချတွေ့ရလတ္တံ့"

"မင်းတော့ တိုက်ပွဲမှာ သေရမှာပဲ..."

ဗိုလ်ချုပ်ဝင်းဂိတ်ပြောခဲ့သော စကားများကို အော်ကြီးဟစ်ကျယ်နှင့်တစ်ယောက်ကိုတစ်ယောက် ပြောနေကြသောအသံမှာ ကြွေကွဲဖွယ်ရာလည်းကောင်းသည်၊ စဉ်းစားစရာလည်းကောင်းသည်၊ သင်ခန်းစာယူရန်လည်း ကောင်းသည်။

စကားတစ်လုံး၏ အဓိပ္ပာယ်သည် ကျယ်ဝန်းနက်နဲလှပါ၏တကား။

မည်သို့ပင်ဖြစ်စေ အမှတ်(၁၁၁) တပ်မဟာကား တိုက်ပွဲအတွက် အသင့်ဖြစ်နေသည်။

၁၉၄၄ ခု ဇန်နဝါရီလတွင် ကျွန်တော်တို့၏တပ်မဟာသည် အာသံပြည်သို့ ရွှေ့ပြောင်းလာခဲ့ကြရသည်။

ဘာဘရာ၏ကလေး၊ ကျွန်တော်တို့၏ကလေး မွေးဖွားမည့်လမှာ ဖေဖော်ဝါရီလဟု ခန့်မှန်းရသည်။

တပ်ရင်း(၄)ရင်းနှင့် တပ်မဟာဌာနချုပ်ပါ ပါဝင်သော ကျွန်တော်တို့တပ်မဟာသည် အာသံသို့ရောက်ပြီးနောက် တပ်ရင်းတစ်ရင်းလျှင် စစ်ကြောင်း ၂ ကြောင်းစီခွဲ၍ အင်ဖာသို့ ဆက်လက်ချီတက်ရပေဦးမည်။

◆

## အခန်း ( ၆ )

၁၉၄၄ ခု ဇန်နဝါရီလကုန်ခါနီးတွင် အာသံသို့ ရောက်လာခဲ့ပြီးနောက် ကျွန်တော်တို့တပ်မဟာသည် ချက်ချင်းပင် အင်ဖာသို့ ချီတက်ခဲ့ရ၏။

မီးရထားခရီးမှာ ခြေလျင်ခရီးသို့ ပြောင်းလိုက်ရသော တောတွင်း လက်တွေ့ ချီတက်မှုတစ်ရပ်တည်း။

ဤအရပ်ဒေသတွင် မြစ်များသည် မြောက်ဘက်မှ တောင်ဘက်သို့ စီဆင်းနေပြီး ကျွန်တော်တို့၏ ခရီးစဉ်မှာ အရှေ့ဘက်သို့သာ ဦးတည်လျက်ရှိရာ ကျွန်တော်တို့သည် နေ့စဉ်နေ့တိုင်း ဝါးတောကြီးများဖြင့် ဖုံးလွှမ်းလျက်ရှိသော မတ်စောက်သည့်တောင်များကို တက်ချည်ဆင်းချည် ပြုလုပ်နေရတော့၏။

ည စခန်းရပ်နားသည့်အချိန်သို့ ရောက်လာချိန်တိုင်း ကျွန်တော်တို့သည် မီးဖိုကြီးများဖိုကာ နွေးနွေးထွေးထွေး အိပ်စက်ကြသည်။ ကျွန်တော်သည် မီးဖိုမှ အလင်းရောင်ဖြင့် ကျွန်တော့်ဘေးလွယ်အိတ်ထဲတွင် ပါလာသော ကဗျာဆရာအကျော်အမော် 'မီလ်တန်'၏ ကျော်ကြားလှသော 'နိဗ္ဗာန်ဘုံ ပျောက်ဆုံးခြင်း' ကဗျာရှည်ကြီးကို အသံနေအသံထားဖြင့် အော်၍ဖတ်သည်။ ထို့နောက် ကျွန်တော်တို့သည် ကဗျာရှည်ကြီးတွင် ပါဝင်သော ကမ္ဘာတည် ဆောက်ပုံကို တစ်ယောက်တစ်ပေါက် ငြင်းခုံကြတော့၏။

၇ ရက်မျှ စိတ်အေးလက်အေးနှင့် ချီတက်လာသောအခါ ကျွန်တော်တို့သည် အင်ဖာလွင်ပြင်သို့ ရောက်လာခဲ့တော့၏။ ကျွန်တော့်ဖခင်မှာ လွန်ခဲ့သော ၁၉၀၄ ခုနှစ်က ဤအင်ဖာလွင်ပြင်တွင် နယ်ခြားစောင့် စစ်ဗိုလ်ကလေး အဖြစ်နှင့် အမှုထမ်းခဲ့ဖူးသည်ကို အမှတ်ရမိနေသည်။ ထိုအချိန်က မဏိပူရ

ပြည်တွင် နာမည်ကျော်ကြားလှသော 'အနော်ဒတ္တ' ရေအိုင်ကြီး၌ ရေဝပ်းဘဲများကို ပစ်ခတ်ရသည်မှာ ပျော်စရာအကောင်းဆုံးဖြစ်လေသည်။

သို့သော် ကျွန်တော်တို့ရောက်ရှိလာသော ၁၉၄၄ ခုနှစ်တွင်ကား၊ အနော်ဒတ္တ'ရေအိုင်ကြီးသည် စစ်ရေးမက်ရေးကြောင့် ငှက်ပစ်ထွက်ရန် မသင့်လျော်တော့သည့်နေရာ ဖြစ်နေလေသည်။ 'အနော်ဒတ္တ'အိုင်ကြီး၏ ဟိုမှာဘက်အလွန်တွင် စိမ်းသော၊ စိုသော၊ ပြာသော၊ မှိုင်းသော တောင်တန်းကြီးများရှိနေကြ၏။

ဤတောင်တန်းများ၏ ဟိုမှာဘက်ဆီတွင် ကျွန်တော်တို့ ခရီးဝေးချီတက်တိုက်ခိုက်ရမည့် ပစ်မှတ်ကြီးက ထီးထီးကြီးရပ်တည်လျက်ရှိသည်။

ထိုပစ်မှတ်ကား မြန်မာပြည်တည်း။။

ဖေဖော်ဝါရီလ တစ်လလုံးလုံး ကျွန်တော်တို့ တပ်မဟာသည် အင်ဖာတစ်ဝိုက်တွင် စခန်းချရင်း ဂျပန်တို့၏ ခံစစ်ကြောင်းများကို မည်သည့်နေရာတွင် ဖောက်ထွင်း၍ ဝင်ရောက်ရမည်ကို ထောက်လှမ်းစုံစမ်းလေ့လာလျက်ရှိသည်။

ကျွန်တော်တို့သည် ထောက်လှန်းရေးတပ်ဖွဲ့မှ ပေးပို့သည့်သတင်းများကို မြေပုံစာရွက်များဖြင့် တိုက်ဆိုင်လေ့လာရင်း အုတ်တစ်ချပ်လပ်မည့်နေရာကို အမြဲ အကဲခတ်ရှာဖွေနေကြ၏။ ဂျပန်တို့၏ခံစစ်ကြောင်းမှာ ထိုးဖောက်ဝင်ရောက်၍ မရနိုင်လောက်အောင် ထူထပ်သိပ်သည်းလှသည်။ သံကွန်ရက်ခုနစ်ထပ် ကာ၍ထားသကဲ့သို့ ရှိချေ၏။

ခြင်းဒစ်တပ်ဖွဲ့မှ တပ်မှူးဖာဂတ်ဆင်ဦးစီးသော အမှတ်(၁၆)တပ်မဟာမှာ လီဒိုမြောက်ဘက်မှနေ၍ တောင်ဘက်သို့စတင်ကာ ခြေလျင်ချီတက်နေပြီဖြစ်၏။

အမှတ်(၁၆)တပ်မဟာ ချီတက်သောလမ်းမှာ 'ငရဲလမ်း'ဟု ဆိုနိုင်လောက်အောင် ဆိုးရွားလှရာ ရန်သူက မည်သည့်နည်းနှင့်မျှ ခြင်းဒစ်တပ်ဖွဲ့များ ချီလာနိုင်မည့်လမ်းဟု မထင်မှတ်နိုင်မည့် ကန္တာရ ဖြစ်ချေသည်။

ဖာဂတ်ဆင်၏ အမှတ်(၁၆)တပ်မဟာက 'ငရဲလမ်း'မှ ချီတက်နေသည့်အချိန်တွင် ဗိုလ်ချုပ်ဝင်းဂိတ်သည် တစ်ဖက်မှ အပင်ပန်းအဆင်းရဲအမျိုးမျိုးခံ၍ ချီတက်နေသော အမှတ်(၁၆)တပ်မဟာကို လက်ညှိုးထိုးပြရင်း ကျန်တပ်မဟာများအား လေကြောင်းဖြင့် ချီတက်စေရမည်ဟု အာမခံချက်ပေးလာလေသည်။

ဆန့်ကျင်ဘက် ၂ ခုကို ညီညွတ်အောင် စီစဥ်လိုက်ခြင်းတည်း။။

ရှေ့ပြေးချီတပ်များသည် 'ဂလိုက်ဒါ'ခေါ် စက်မဲ့လေယာဥ်များဖြင့်

သတ်မှတ်ရွေးချယ်ထားသော နေရာများသို့ဆင်းကာ စက်နှင့် လေယာဉ်များ သင်းတက်ပုံသန်းနိုင်လောက်သည့် လေယာဉ်ပြေးလမ်းကြောင်းများကို ဖောက်လုပ်ရမည်ဖြစ်သည်။

လေကြောင်းဖြင့် ချီတက်ရမည့် အင်အားတွင် စစ်သည်တော်ပေါင်း ၁၀၀၀၀ ခန့် ပါဝင်၍ ဝန်တင်တိရစ္ဆာန်ပေါင်း ၁၆၀၀ ပါဝင်လေသည်။ 'မိုက်' ဦးစီးသော အမှတ်(၇၇) တပ်မဟာသည် သတ်မှတ်ထားသောနေရာသို့ ဆင်းသက်ပြီးနောက် ကျွန်တော်တို့၏ အမှတ်(၁၁၁) တပ်မဟာက ဆက်၍ ဆင်းသက်ရမည်ဖြစ်၏။ ထို့နောက် 'ရစ်ကက်'ဦးစီးသော အမှတ်(၈၁) အနောက်အာဖရိက တပ်မဟာမှ တပ်ဖွဲ့အချို့...။

ကျွန်တော်တို့သည် လေကြောင်းဖြင့် မြန်မာပြည်တွင်းသို့ ထိုးဖောက်ဝင်ရောက်ရပေတော့မည်။

မြန်မာပြည်တွင်းသို့အရောက် ခြေလျင်ထိုးဖောက်ဝင်ရောက်ရမည်ဟု နားလည်ထားခဲ့သော ကျွန်တော်သည် လေကြောင်းဖြင့် ချီတက်ရမည်ဟု သိရှိလာရသောအခါ ဌာနချုပ်ရုံးခန်းသို့ပြေး၍ စစ်ဦးစီးတက္ကသိုလ်တွင် ကျွန်တော် သင်ကြားခဲ့ရသော 'ဖိုင်'များကို အပြေးအလွှား ပြန်၍လှန်ရတော့၏။

ကျွန်တော်တို့ ဦးစီးအဖွဲ့သည် နေ့မအား ညမအား သူရဲမင်းရဲစီးနေသူများလို အလုပ်လုပ်ကြရသည်။

လေယာဉ်မည်မျှလိုသည်၊ ထိုလေယာဉ်များတွင် စက်မဲ့လေယာဉ် မည်မျှလိုမည်၊ ထိုလေယာဉ်နှင့် စက်မဲ့လေယာဉ်များတွင် လူ လားနှင့် ဝန်စည်စလှယ် မည်မျှတင်နိုင်မည်ကို မေးမြန်းရ၊ လေ့လာရ၊ ချင့်ချိန်ရတော့သည်။

ခြေလျင်ချီတက်ရန် အစစအရာရာတွင် လေ့ကျင့်ထားသော တပ်တစ်တပ်အား လေကြောင်းဖြင့် ချီတက်ရမည်ဟု ရုတ်တရက် အမိန့်ပေးလာသောအခါ အစီအစဉ်အားလုံးသည် ဗရုတ်ဗရက်ဖြစ်လာရတော့သည်။

သတ်မှတ်ထားသောနေရာသို့ ပထမဆုံးဆင်းရမည့်သူများမှာ တိုက်ခိုက်ရေးတပ်မှ စစ်သည်တော်များသာဖြစ်သည်။ သို့သော် တိုက်ခိုက်ရေးစစ်သည်တော်များချည်း ဆက်တိုက်ဆင်းသက်၍မဖြစ်သေး။ တိုက်ခိုက်ရေးတပ်ဖွဲ့သည် ၂ ဖွဲ့ထက် ပို၍လာသောအခါ ထိုအဖွဲ့များအား အုပ်ချုပ်ညွှန်ကြားမည့်၊ ဆက်သွယ်ပေးမည့် ဦးစီးအဖွဲ့ လိုလာသည်။ ဦးစီးအဖွဲ့မရှိဘဲ သို့မဟုတ် စစ်ဗျူဟာအဖွဲ့ မရှိဘဲ မည်သည့်တိုက်ခိုက်ရေးတပ်မှ ၂ တပ်ထက်ကျော်၍ မိမိတို့တပ်ကို မိမိတို့ မထိန်းနိုင်။

ထို့ကြောင့် တိုက်ခိုက်ရေးတပ်များနှင့်အတူ အုပ်ချုပ်ရေးတပ်များသည်လည်း အတူတကွလိုက်ပါရန်မှ ဖြစ်တော့မည်။ ရိက္ခာ၊ ခဲယမ်း။ ဆက်သွယ်ရေး၊ အုပ်ချုပ်ရေး စသော ဌာနများကို ကြီးကြပ်အုပ်ချုပ်မည့် အဖွဲ့များလည်း လိုက်ပါမှ ဖြစ်တော့မည်။ တပ်မှူးများသည် စစ်ရေး၊ ဦးစီးဆရာဝန်အချက်ပြ ဆက် သွယ်ရေးစသော ဌာနဆိုင်ရာကျွမ်းကျင်သူများနှင့် ဆက်တိုက်စည်းဝေး၍ မည်သည့်အချိန်တွင် မည်ကဲ့သို့ပြုလုပ်သင့်သည်ကို စည်းဝေးဆုံးဖြတ်ကြရ တော့၏။

ကျွန်တော်တို့အတွက် အထူးသက်သာသော အချက်တစ်ချက်မှာ လေးလံသော ဝန်စည်ပစ္စည်းမှန်သမျှနှင့် လေးလံသောလက်နက်ပစ္စည်းမှန်သမျှကို ကျွန်တော်တို့ဦးစီးအဖွဲ့က ချိန်တွယ်နေရန်မလိုဘဲ လေတပ်ဌာနမှ အားလုံးကို ချိန်တွယ်၍ စာရင်းယူရန် တာဝန်ခံထားခြင်းပင်ဖြစ်၏။

လေးလံသော လက်နက်ပစ္စည်းများမှလွဲ၍ ကျွန်တော်သည် ကြိုးမဲ့ကြေးနန်းဆက်သွယ်ရေးကိရိယာများ အပိုခဲယမ်းပစ္စည်းများကို ကျွန်တော်တို့ ကျောပေါ်တွင် သယ်ယူသွားရမည်ဖြစ်၏။

ကျွန်တော်တို့သည် ၇ ပတ်လုံး တိုက်ပွဲလေ့ကျင့်ခန်းကို ဆင်နွှဲခဲ့ရာ၌ လေးလံသောပစ္စည်းများ။ လေးလံသောလက်နက်များ၊ လေးလံသော ဆက်သွယ်ရေးကိရိယာများကို ကျွန်တော်တို့ကျောပေါ်တွင် တင်၍ တောင်ဆင်း တောင်တက် ရွံ့ဗွက်ချောင်းမြောင်းတို့ပေါ်များသောနေရာ၌ အပန်းတကြီး လေ့ကျင့် ထားခဲ့ပြီး ဖြစ်သည်။

စက်သေနတ်ကြီး တပ်ဖွဲ့တစ်ဖွဲ့သည် ၅ ရက်စာရိက္ခာကို ကျောပေါ်တွင် တင်လျက် ၁၅ ရက်ခရီးကို မရပ်မနား ချီတက်ခဲ့ရသော လေ့ကျင့်ခန်းများကို လည်း ကျွန်တော်တို့ လေ့ကျင့်ဖူးခဲ့ပြီဖြစ်၏။ အချို့တပ်သားများသည် ပေါင် '၁၃၀' လေးသော အိတ်ကိုလည်းကောင်း၊ အချို့တပ်သားများသည် '၈၆' ပေါင် လေးသော အိတ်ကိုလည်းကောင်း သယ်ယူနိုင်ကြောင်းကို တွေ့ရှိခဲ့ရပြီဖြစ်၏။ တပ်မှူး 'ဂျီ' နှင့် စစ်ဆင်ရေးအရာရှိများကမူ လူတစ်ယောက်၏ ကျောပေါ်တွင် ၄၂ ပေါင်မျှ အချိန်စီးသော ပစ္စည်းကိရိယာများကို သယ်ဆောင်ရခြင်းသည် သာလျှင် တိုက်ပွဲအတွက် အကောင်းဆုံးသောအလေးချိန်ဖြစ်သည်ဟု အဆို ပြုကြသည်။

သို့သော် ကျွန်တော်တို့သည် ခြေလျင်ချီတက်ရန် စီစဉ်ထားရာမှ လေ ကြောင်းဖြင့် ချီတက်ကြရမည် ရှိသောအခါ၊ အလုံးစုံသောတွက်ကိန်းတို့သည်

ပြောင်းဆန်၍လာတော့၏။

'ဒါကိုတာ'လေယာဉ်ပျံတစ်စင်း၌ လားကောင်ရေ မည်မျှထည့်သွင်းနိုင်သည်ကို ကျွန်တော်တို့မသိ။ သိသည့်တိုင်အောင် ထိုလားများအား လေယာဉ်ထဲတွင် မည်ကဲ့သို့အုပ်ထိန်းထားရမည်ကို မသိ။ လေယာဉ်ပျံသန်းနေစဉ်တင်ဆောင်လာခဲ့သော ဝန်တင်လားများက လေယာဉ်ဝမ်းဗိုက်ကို ခြေဖြင့်ကန်၍ ဒုက္ခပေးခဲ့သည်ရှိသော် မည်သို့လုပ်ရမည်ကို ကျွန်တော်တို့မသိ။ ဒုက္ခပေးသောလားကို ပစ်သတ်ရမည်ဟုဆိုသော်လည်း ကျွန်တော်တို့ပစ်လိုက်သောကျည်ဆန်ထိပ်ဖူးသည် မည်သည့်နေရာမှဝင်၍ မည်သည့်နေရာမှထွက်မည်ကို ကျွန်တော်တို့ မသိ။

အတိုချုံး၍ဆိုရလျှင် လေကြောင်း, သယ်ယူပို့ဆောင်ရေး၌ ကျွန်တော်တို့သည် ကလေးသူငယ်များကဲ့သို့ မသိသားဆိုးရွားလျက် ရှိနေချေသည်။

ကျွန်တော်တို့သည် မြန်မာပြည်အလယ်ပိုင်းရှိ သတ်မှတ်ရွေးချယ်ထားသော နေရာတွင် ဂလိုက်ဒါများဖြင့် ဆင်းသက်ရမည်ဖြစ်၏။ ထိုနေရာများသည် တစ်ခုလျှင် ကိုက် ၁၀၀ ခန့်ကျယ်၍ ကိုက် ၄၀၀ ခန့် ရှည်ရမည်ဖြစ်၏။ ထိုလေယာဉ်ပြေးလမ်းကြောင်းများသည်လည်း တိုးတက်ချဲ့ထွင်နိုင်သော အခြေအနေရှိရုံမျှမက ရန်သူဂျပန်များ ရုတ်တရက် ရောက်မလာနိုင်သောနေရာများဖြစ်ရပေလိမ့်ဦးမည်။

ထိုလေယာဉ်ပြေးလမ်းကြောင်းများသည် စီ ၄၇ ဒါကိုတာလေယာဉ်များဆင်းသက်နိုင်လောက်သည်အထိ ချဲ့ထွင်၍လည်း ရနိုင်မည်ဖြစ်၏။

၁၉၄၃ ခုနှစ် ခြင်းဒစ်စစ်ဆင်ရေးတွင် ပါဝင်ခဲ့သော ရဲဘော်ဟောင်းအချို့၏ လေကြောင်းကင်းထောက်ချက်အရ ကျွန်တော်တို့သည် 'ဘရော့ဒဝေး'နှင့် 'ပီကယ်တလီ' ဟုလျှို့ဝှက်အမည်ပေးထားသော ကွင်းပြင်များသို့ ဆင်းသက်ရမည်ဖြစ်၏။

တပ်မှူးကြီးနှင့် ကျွန်တော်တို့သည် တစ်မိုင်လျှင် လက်မဝက်နှင့်ညီမျှသောမြေပုံကို လေ့လာရင်း ကျွန်တော်တို့ဆင်းသက်လာရမည့်နေရာကို ရှာဖွေစူးစမ်း၍ကြည့်ကြ၏။ ရွှေလီမြစ်၏ ထင်ရှားသော မြစ်ကွေ့သည် ကျွန်တော်တို့အတွက်ဆင်းသက်ရန်အကောင်းဆုံးနေရာ ဖြစ်နေလေသည်။

သို့သော် ခက်နေသည်ကား ရွှေလီမြစ်ကွေ့နေရာသည် ဧရာဝတီမြစ်ကမ်း၏ အရှေ့ဘက်တွင် ရှိနေခြင်းပင်တည်း။

ကျွန်တော်နှင့် အမှတ်(၉) ဝေါ်ရခါးတပ်မှ ဗိုလ်ကြီးဂျန်ဘိုမောရစ်တို့

သည် အင်ဖာသို့ သွားရောက်ပြီးနောက် 'တူလီဟာ' လေယာဉ်ကွင်းမှနေ၍ ဘီ ၂၅ လေယာဉ်ဖြင့် ကျွန်တော်တို့ ဆင်းသက်ရမည့်နေရာကို သွားရောက် ကင်းထောက်ကြသည်။

လေယာဉ်သည် အနောဒတ္တရေအိုင်ပေါ်မှ ကျော်လွှားကာ အရှေ့ဘက်သို့ ဦးတည်နေ၏။ ပေ ၈၀၀၀ ကျော်မြင့်သောတောင်တန်းများသည် မြန်မာနှင့် အိန္ဒိယပြည်အကြားတွင် ကျွန်တော်တို့အား သရော်သောအပြုံးဖြင့် တိမ်မြေများ ဖုံးကာ လှိုင်းလုံးများပမာ နှုတ်ဆက်နေကြသည်။

ပင်လယ်နှင့်တူသော တောင်လှိုင်းလုံးများ...

ထိုတောင်လှိုင်းလုံးများပေါ်မှ ကျော်လွန်၍လာသောအခါ သဘာဝလှိုင်းလုံး ကလေးများဖြင့် ပြည့်နေသော ချင်းတွင်းကို တွေ့ရ၏။ မြေပြင်သည် ပြန့်ပြူး၍လာလေသည်။

ချင်းတွင်းသည် စိမ်းလဲ့ညိုမှောင်သော တောင်တန်းများအကြားမှ ငွေရောင်ဖဲပြာကလေးတစ်ခုပမာ မြောက်မှတောင်သို့ စီးဆင်းနေလေသည်။

လေယာဉ်သည် ချင်းတွင်းကို ကျော်၍လာခဲ့၏။ မြန်မာပြည်၏ မိုးခေါင်ရေးရှားရပ်ဝန်းသည် ကျိုးတိုးကျဲတဲဖြစ်နေသော သစ်ပင်ပုကလေးများဖြင့် ကျွန်တော်တို့ကို ဆီးကြိုနေလေသည်။ ဤဒေသတွင် တောင်နှင့်မြောက်သို့ သွယ်တန်းနေသော မီးရထားလမ်းကို တွေ့ရ၏။ ရထားလမ်းသည် မြန်မာပြည်၏ တစ်ခုတည်းသော ရေသောက်မြစ်ဖြစ်သည့် ဧရာဝတီအတိုင်းလည်း မလိုက်၊ ဧရာဝတီသို့ စီးဝင်သော ချင်းတွင်းအတိုင်းလည်းမလိုက်၊ ဧရာဝတီနှင့် မျဉ်းပြိုင်ပြေးနေသော သံလွင်အတိုင်းလည်း မလိုက်ဘဲ တောင်မှမြောက်သို့ ပြေးနေသည်။ ကျွန်တော်တို့က မီးရထားမြစ်ဝှမ်းဟု ခေါ်ကြသည်။

ကျွန်တော်တို့သည် ပေ ၅၀၀၀ အမြင့်မှ ပျံသန်းရင်း ဧရာဝတီမြစ်၏ အရှေ့ဘက်ကမ်းသို့ ရောက်လာကြသည်။ အနီးပတ်ဝန်းကျင်တွင် လူသွားလမ်းနှင့် မော်တော်ကားလမ်းများ မရှိသော လွင်တစ်ခုကို တွေ့ရသည်။ စက်မဲ့လေယာဉ်များ ဆင်းသက်ရန် ကောင်းသောနေရာတည်း။

ကျွန်တော်တို့သည် ထိုလွင်ပေါ်တွင် ၄ မိနစ်ကြာ ပျံသန်းရင်း ရေရရှိနိုင်မည့်နေရာကို ရှာကြည့်သည်။ တစ်ခုမျှမတွေ့။

ရန်သူက သင်္ကာမကင်းဖြစ်မည်စိုး၍ ကျွန်တော်တို့သည် ထိုနေရာတွင် ကြာကြာမပျံရဲဘဲ ကောလင်းမြို့ဆီသို့ ဦးတည့်၍လာခဲ့ကြပြီးနောက် ကောလင်း ဘူတာကို ဗုံးနှစ်လုံး၊ သုံးလုံး ကြဲချကာ စက်အမြောက်များဖြင့် ပစ်ခတ်ခဲ့ကြ၏။

ရန်သူက ကျွန်တော်တို့၏ ကင်းထောက်ပျံသန်းမှုအပေါ်တွင် ယုံမှားသံသယကင်းစေရန်တည်း။ ကျွန်တော်တို့ ဤနယ်မြေဒေသသို့ လေယာဉ်ဖြင့် လာရောက်ခြင်းမှာ ကောလင်းဘူတာအား လာရောက်တိုက်ခိုက်ခြင်းပင် ဖြစ်သည်ဟု ရန်သူက အထင်မှားစေရန်တည်း။

ဗိုလ်ချုပ်ဝင်းဂိတ်ထံမှ စစ်ဆင်ရေး အစီအစဉ်များ ရောက်လာသည့်အချိန်တွင် ကျွန်တော်တို့ ဦးစီးအဖွဲ့သည် ၂၄ နာရီလုံးလုံး ကျွန်တော်တို့တပ်မဟာ၏ လေကြောင်းချီတက်ရေး အစီအစဉ်ကို ရေးဆွဲရတော့၏။

ဗိုလ်မှူးချုပ်မိုက် ဦးစီးသော အမှတ်(၇၇) တပ်မဟာ မြန်မာပြည်အတွင်းသို့ လေကြောင်းဖြင့် ဝင်ရောက်လာမည့်အချိန်တွင် သတ်မှတ်ထားသော ပီကာဒလီလွင်ပြင်၌ သစ်တုံးကြီးများ ရောက်ရှိနေသည့်သတင်း။ ဓာတ်ပုံကို ကင်းထောက်လေယာဉ်များက ယူဆောင်လာသောအခါ အထက်ပိုင်း စစ်အာဏာပိုင်လောကတွင် အရှုပ်အရှင်းများ။ မယုံသင်္ကာမှုများ ပေါ်ပေါက်လာလေသည်။

ဂျပန်များသည် ဝင်းဂိတ်၏ ခရီးဝေး ဖောက်ထွင်းတိုက်ခိုက်ရေးတပ်များ မြန်မာပြည်တွင်းသို့ ဆင်းသက်လာမည်ကို ကြိုတင်၍သတင်းရထားလေသည်လား သို့မဟုတ် မဟာမိတ်တပ်ဖွဲ့ထံမှ တစ်စုံတစ်ယောက်သောသူက ကြိုတင်၍ သတင်းပေးခဲ့လေသည်လား မည်သူမျှမပြောနိုင်။ ဗိုလ်ချုပ်ဝင်းဂိတ်က 'တရုတ်တွေ သစ္စာဖောက်ပြီ'ဟု အော်ဟစ်ပြောဆိုနေလေသည်။

ဤအချိန်တွင် အမှတ်(၁၄) တပ်မတော်၏ တပ်မှူးဖြစ်သူ ဗိုလ်ချုပ်ကြီး စလင်းနှင့် ဗိုလ်ချုပ်ကြီးဝေဗယ်လ်တို့သည် ခြင်းဒစ်တပ်များအား အားပေးနှုတ်ဆက်ရန်အတွက် လေယာဉ်ကွင်းပေါ်သို့ ရောက်ရှိနေကြ၏။ ဝင်းဂိတ်သည် ဗိုလ်ချုပ်ကြီးစလင်းရှိရာသို့ ပြေးသွားရင်း "ဗိုလ်ချုပ်ကြီးက တာဝန်ယူရင် ကျွန်တော့်တပ်တွေကို လွှတ်မယ်၊ တာဝန်မယူရင် မလွှတ်ဘူး" ဟု ပြောနေသည်။

ဗိုလ်ချုပ်ကြီးစလင်းသည် အတန်ကြာမျှ တွေဝေစဉ်းစားနေပြီးနောက် "ဆက်လုပ်"ဟု အမိန့်ပေးလိုက်၏။ ပီကာဒလီတွင် ဆင်းသက်ရန် သတ်မှတ်ထားသော လေယာဉ်များသည် ဘရော့ဒ်ဝေးနှင့် ချောင်ရင်ဂီတွင် ဆင်းသက်ရပေတော့မည်။

ဆင်းသက်ရမည့်နေရာတွင် လျော့နည်းသွားသည်နှင့်အမျှ အစီအစဉ်လည်း ပြောင်းလဲလာရတော့၏။ ယခင်က ပီကာဒလီတွင် ဆင်းသက်ရန်

အတွက် နယ်မြေအနေအထားအရ ပေးထားသော ညွှန်ကြားချက်များကို ပယ်ဖျက်လိုက်ရပြီး ညွှန်ကြားချက်အသစ်များ ပေးနေရသည်။ လေယာဉ်များတွင် တင်ထားသော ဝန်စည်စလယ်များကို အစီအစဉ်သစ်လုပ်၍ ပြန်လည် ပြုနေရသည်။ စစ်ထွက်ရန်အချိန်ကလည်း နာရီပိုင်းလောက်သာ လိုတော့သည်။ မှောင်နှင့်မည်းမည်းထဲတွင် စစ်ပစ္စည်းများ၊ လားများနှင့် စစ်သည်တော်များသည် ဗလုံးဗထွေး ဖြစ်နေကြရတော့၏။

ရှေ့ပြေးတပ်အဖြစ် ချီတက်ရမည့် 'မိုက်'နှင့် သူ၏ ရဲဘော်များသည် ရုတ်တရက် ပေါ်ပေါက်လာသော အရှုပ်အထွေးများကြောင့် စိတ်လေးပုံမရ၊ ပကာတိ ရဲရင့်သောအသွင်ဖြင့် ရှိနေကြသည်။

မကြာမီပင် ကောင်းကင်သို့ ထိုးတက်လာသော ဒါကိုတာလေယာဉ်ပျံကြီးတစ်စင်းကို မြင်ရသည်။ သူ့နောက်မှ စက်မဲ့လေယာဉ် ၂ စင်း။ ဝန်ထုပ်ဝန်ပိုးအပြည့်တင်ထားသော စက်မဲ့လေယာဉ် ၂ စင်းကို နောက်တွင်တွဲကာ ပေ ၈၀၀၀ ကျော်မြင့်သော တောင်များကို ဖြတ်ကျော်ရမည့်အရေးမှာ မလွယ်ကူလှ။

ကျွန်တော်တို့သည် လေယာဉ်ပျံမှ ပေးပို့မည့် ရေဒီယိုသတင်းများကိုသာ နားတစွင့်စွင့်နှင့် ရှိနေကြရလေသည်။ မကြာမီပင် အမှတ်(၄) တပ်မကြီးမှ ကျွန်တော်တို့ထံသို့ သတင်းရောက်လာသည်။ ကျွန်တော်တို့ အမှတ်(၁၁၁) တပ်မဟာသည် ဧရာဝတီအရှေ့ဘက်မြစ်ကမ်းရှိ ချောင်ရင်ဂီတွင် ဆင်းသက်ရမည်ဟု အမိန့်ရောက်လာသည်။

မိုက် ဦးစီးသော အမှတ်(၇၇)တပ်မဟာကို တင်ဆောင်သွားသည့် စက်မဲ့လေယာဉ် ၆၁ စင်းအနက် ၃၅ စင်းသာ ဘရော့ဒ်ဝေးသို့ ရောက်သည်။ လေယာဉ်နှင့် စက်မဲ့လေယာဉ်များ တွဲထားသည့်ကြိုး ပြတ်ထွက်ကုန်သည်။ ကြိုးမပြတ်သောလေယာဉ်များမှာလည်း နောက်မှ လေးလံသော ဝန်ထုပ်ဝန်ပိုးကြောင့် အင်ဂျင်စက်များ အဆမတန်ပူလာကာ ဓာတ်ဆီများ ခန်းခြောက်လာသည်။ စက်မဲ့လေယာဉ်များသည် အရုပ်ကြိုးပြတ်သကဲ့သို့ တဖျပ်ဖျပ် အောက်သို့ကျလာကာ သစ်ပင်များ တောင်စောင်းများတို့ဖြင့် ဝင်ရောက်တိုက်ခိုက်မိကြတော့သည်။

မြန်မာပြည်အလယ်ပိုင်းတွင် အနှံ့အပြား ကျရောက် ပျက်စီးလာသော စက်မဲ့လေယာဉ်များကို ကြည့်၍ ဂျပန်တို့သည် မည်သို့လုပ်ရမည် မသိအောင် ဖြစ်နေလေသည်။

ဘရော့ဒ်ဝေးတွင် ဆင်းသက်နိုင်သော စက်မဲ့လေယာဉ်အချို့မှာလည်း မြေပြင်တွင် ရှိနေသော ချိုင့်များ ကျင်းများကြောင့် ကိုယ်ရှိန်မသတ်နိုင်ဘဲဖြစ်ကာ မိမိတို့အချင်းချင်းသော်လည်းကောင်း၊ သစ်ပင်များနှင့်သော်လည်းကောင်း ဝင်ရောက်တိုက်ခိုက်မိကြသည်။

စစ်သား ၂၃ ယောက်မှာ ဤသို့တိုက်ခိုက်သောဒဏ်ကြောင့် ပွဲချင်းပြီး သေဆုံးပြီး အများအပြားမှာ ထိခိုက်ဒဏ်ရာရခဲ့ကြသည်။

မြေပြင်ပေါ်တွင်ကား ရန်သူတစ်ယောက်မျှမရှိ၊ ခရီးဝေးဖောက်ထွင်း တိုက်ခိုက်ရေး အစီအစဉ်ကို တစ်စုံတစ်ယောက်က သစ္စာဖောက်ခဲ့သည် ဆိုခြင်းမှာလည်း မဟုတ်။ မြန်မာအမျိုးသား သစ်ခုတ်သမားများက သူတို့၏ သစ်လုပ်ငန်းအရ သစ်တုံးများအား ပစ်ကယ်ဒလီတွင် နေလှန်းထားခြင်းသာ ဖြစ်သည်။

အမှတ်(၇၇) တပ်မဟာက ရှေ့ပြေးချီတပ်အဖြစ် ချီတက်သွားပြီးနောက် သုံးရက်မြောက်ညဖြစ်သော ၁၉၄၄ ခု မတ်လ ၈ ရက်နေ့ညနေတွင် ကျွန်တော်သည် စစ်ယူနီဖောင်း အပြည့်အစုံဖြင့် စစ်ထွက်ရန် အသင့်ဖြစ်နေပေသည်။

ကျွန်တော့်ခြေထောက်တွင် စွပ်ထားသော သိုးမွေးခြေအိတ်တို့မှာ 'ဘာဘရာ'က ကျွန်တော့်အတွက် သက်သက်ထိုး၍ပေးလိုက်သော ခြေအိတ်တည်း။ ကျွန်တော်သည် 'ကာဘိုင်'ကို ပခုံးတွင် လွယ်ထားပြီး သံလိုက်အိမ်မြှောင်နှင့် မှန်ပြောင်းကို လည်ပင်းတွင် ချိတ်ထားသည်။ ကျွန်တော့်ခေါင်းပေါ်ရှိ ဂေါ်ရခါးဦးထုပ်တွင် ကျွန်တော့်မိခင်တပ်ရင်းဖြစ်သော အမှတ်(၄) ဂေါ်ရခါး တပ်၏ တံဆိပ်ကို ချိတ်ထားသည်။ ကျွန်တော်၏ ဝဲဘက်တင်ပါးပေါ်တွင် ဘေးလွယ်အိတ်သည် တငြိမ့်ငြိမ့်လှုပ်ရှားနေ၏။ ထိုလွယ်အိတ်ထဲတွင် မြေပုံများ၊ စကားဝှက်စာအုပ်များ၊ ခဲတံများ၊ သတင်းပို့သည့်စာရွက်များ၊ ကာဘွန်စာရွက်များနှင့် ရေးပေါ်သူနာပြုပစ္စည်းများ ပါရှိသည်။ ကျွန်တော့်ယာဘက် တင်ပါးပေါ်တွင် ဓားအိမ်ဖြင့်ထည့်ထားသော ဂေါ်ရခါး ဓားကောက်တစ်ခု။ ကျွန်တော့်ကျောပေါ်တွင် ၅ ရက်စာ ရိက္ခာပါသော 'ကေ'ရာရှင်ဘူးများ၊ အပေါ်စား သိုးမွေးစောင်တစ်ခြမ်း ဂရောင်ရှိတစ်ခု၊ သိုးမွေးခြေအိတ်တို့ အပိုနှစ်စုံ၊ သွားတိုက်ဆေး သွားပွတ်တံ၊ မက်ဖာကရင်ဆေးပြားများ၊ မုတ်ဆိတ်ရိတ်ဓား၊ ဆပ်ပြာ၊ အစိမ်းရောင်လက်ကိုင်ပဝါတစ်ထည်၊ နီဗွာန်ဘုံပျောက်ဆုံးခြင်း ကဗျာစာအုပ်တစ်အုပ်၊ လက်သည်းညှပ်သည့် ကတ်ကြေးလေး တစ်လက်နှင့်

အမေရိကန် သားရေဂျာကင်တစ်ခုထည့်ထားသော ကျောပိုးအိတ် တစ်လုံး...။

ကျွန်တော်သည် ပြိုင်ပွဲဝင်ရမည့်မြင်းလို မြူးကြွလျက်ရှိသည်။ လပေါင်းများစွာကြာအောင် လေ့ကျင့်ခဲ့ရသော တိုက်ပွဲများ၊ သင်ခန်းစာများသည် ဤအချိန်မှစ၍ ပြီးဆုံးခြင်းသို့ ရောက်ပေတော့မည်။

ဗိုလ်ချုပ်ဝင်းဂိတ်၏ မဟာစီမံကိန်းကြီးသည် မှားချင်လျှင်လည်း မှားမည်၊ မှန်ချင်လျှင်လည်း မှန်မည်။ ကျွန်တော့်အတွက်ကား စစ်မြေပြင်သို့ ထွက်ရတော့မည်ဖြစ်၍ သူ့ကိုပင် ကျေးဇူးတင်နေမိသည်။

ကျွန်တော်တို့သည် အင်ဖာလွင်ပြင်ရှိ တူလီဟာလေယာဉ်ကွင်းသို့ မှောင်ရီပျိုးစအချိန်တွင် ထရပ်ကားများဖြင့် ချီတက်လာခဲ့ကြသည်။

ကျွန်တော့်စိတ်အာရုံမှ ဗိုလ်ချုပ်ကြီးစလင်း၊ စတီးဝဲလ်၊ ဂစ်ဖတ်နှင့် သေနာပတိချုပ် မောင့်သက်တန်တို့၏မျက်နှာများသည် ပျောက်ကွယ်သွားပြီး နောက် ခံစစ်ကြောင်းကို ကာကွယ်နေသော ဂေါ်ရခါးရဲဘော်များ၏ မျက်နှာကိုသာ မြင်နေသည်။

ဟုတ်လည်း ဟုတ်ပါ၏။ ဂေါ်ရခါးရဲဘော်များသည် ကျောပိုးအိတ်ကိုယ်စီ သေနတ်ကိုယ်စီဖြင့် မိမိတို့စီးနင်းလိုက်ပါရမည့် စက်မဲ့လေယာဉ်များအနီးတွင် တန်းစီ၍စောင့်နေကြပေပြီ။

ဘရစ်၊ မက်ဖာဆင်၊ ဘိန်းစ်၊ ရုတ်စ်၊ ဂျိမ်းစ်၊ ဂျင်းနင်းစမစ်၊ ကရင် စစ်ဗိုလ်စောလာဒါတို့သည် မိမိတို့သက်ဆိုင်ရာတပ်များကို လေယာဉ်ပေါ်သို့ မတက်မီ နောက်ဆုံးစစ်ဆေးနေကြ၏။ ဂေါ်ရခါးဦးထုပ်ကြီးကို ရှေ့သို့ စပ်စိုက် ငိုက်ဆောင်းထားသော တပ်မှူးဂျိုသည် မျက်မှန်ကြီးတဝင်းဝင်းဖြင့် စစ်ထွက်တော့မည့် ရဲဘော်များကို အားပေးစကားပြောနေသည်။

ကျွန်တော့်အနီးတွင် အမေရိကန်လေတပ်မှ ဆက်သွယ်ရေးအရာရှိ ဟယ်ဒလီနှင့် ဆရာဝန်ဝိုက်တို့ ရပ်နေကြသည်။

စစ်ထွက်ခါနီးဆဲဆဲတွင် ကျွန်တော်တို့သည် 'ဘာဘရာ'ကို သတိရနေသည်။ သူ့ထံမှ စာမရောက်သည်မှာ ၂ လလောက် ကြာပြီ။ စစ်ထွက်ရမည်ဖြစ်သော ကျွန်တော်ကလည်း မည်သည့်နေရာသို့ ချီတက်ရမည်ကို အကြောင်းမကြားနိုင်။

အင်ဖာရှိ ခြင်းဒစ်တပ်ဖွဲ့ဌာနချုပ်တွင် တာဝန်ယူ၍ ကျန်နေရစ်ရမည်ဖြစ်သော အရာရှိတစ်ဦးအား ကျွန်တော့်လက်ကိုဆွဲ၍ နှုတ်ဆက်နေသည် ထင်ရ၏။

''ကျေးဇူးတင်ပါတယ်''

ထိုအာရာရှိသည် ကျွန်တော်က ကျေးဇူးတင်ပါသည်ဟု ပြောနေသည့်တိုင်အောင် ကျွန်တော့်လက်ကို ဆွဲမြဲဆုပ်ကိုင်ထားရင်း ပါးစပ်မှလည်း တစ်စုံတစ်ခုကို ပြောနေသည်။

ကျွန်တော့် စိတ်အစဉ်သည် ဘာဘရာဆီသို့ ဖျံ့ဝဲရောက်ရှိနေသဖြင့် သူပြောနေသည်ကို တော်တော်နှင့်မကြား။

"ဗိုလ်မှူး၊ ဗိုလ်မှူးအတွက် ကြေးနန်းစာပါ"

သူက ကျယ်ကျယ်ကလေးပြောလိုက်မှပင် ကျွန်တော် သတိပြုမိလိုက်သည်။ သူသည် ကျွန်တော့်အား စာအိတ်တစ်အိတ်ကို လှမ်းပေးနေခြင်းသာ ဖြစ်၏။

ကျွန်တော်သည် ဟယ်ဒလီနှင့် ဒေါက်တာဝိုက်တို့အနီးမှ ဘေးအနည်းငယ်ဖယ်၍ ထွက်လိုက်ကာ ကြေးနန်းစာအိတ်ကို ဖွင့်ကြည့်လိုက်သည်။

ဤကြေးနန်းသည် ကျွန်တော့်ထံသို့ ရောက်ရန်အတွက် လမ်းတွင် ရက်ပေါင်း ၂၁ ရက်မျှ ကြာနေခဲ့ပေပြီ။ ကျွန်တော်သည် ကြေးနန်းစာကို အလျင်စလို ဖတ်ကြည့်လိုက်၏။

ဘာဘရာတွင် သမီးမိန်းကလေးတစ်ယောက် ဖွားမြင်ကာ မိခင်ရော ကလေးပါ ကျန်းမာလျက်ရှိကြောင်း သိရှိသည်။

"အချစ်များစွာနှင့် ဘာဘရာ"

အောက်ဆုံးမှ စာကြောင်းကလေးက ကျွန်တော့်ရင်ကို နွေးခနဲဖြစ်သွားစေသည်။

ကျွန်တော်သည် ဒေါက်တာဝိုက်တို့အနီးသို့ ပြန်၍လျှောက်လာပြီး ကျွန်တော့်တွင် သမီးမိန်းကလေးတစ်ယောက်ရကြောင်း ပြောလိုက်၏။ သူသည် ဘေးလွယ်အိတ်ထဲမှ ဘရန်ဒီပုလင်းကလေးကို ဆွဲထုတ်လိုက်ပြီး ကျွန်တော့်သမီးကလေး ကျန်းမာပါစေကြောင်း ဆုမွန်တောင်းရင်း ဘရန်ဒီ တစ်မော့စီ သောက်လိုက်ကြသည်။

"လေယာဉ်အမှတ် ဘီ ၁၉၊ တက်"

စီတန်းထားသော လေယာဉ်တန်းကြီးဆီမှ တပ်ကြပ်ကြီးတစ်ဦး၏အသံ ပေါ်ထွက်လာသည်။ ကျွန်တော်တို့တက်ရမည့် လေယာဉ်နံပါတ်တည်း။

ကျွန်တော်သည် လေယာဉ်ရှိရာသို့ လျှောက်၍လာခဲ့သည်။

စစ်ထွက်ရပေတော့မည်။

◆

# အခန်း ( ၇ )

အမြီးချင်းဆိုင်၍ ရပ်ထားသော လေယာဉ်များသည် တစ်ကြိမ်လျှင် ၂ စင်းစီ တူလီယာလေယာဉ်ကွင်းမှ ထွက်ခွာပျံသန်းနေကြသည်။

ကျွန်တော်စီးရမည့် လေယာဉ်ပေါ်သို့ တက်လိုက်သောအခါ လေယာဉ်ဦးပိုင်းဘက်တွင် တစ်ကောင်နှင့်တစ်ကောင် ကျပ်ညပ်နေသော လားသုံးကောင်ကို တွေ့ရသည်။ လားထိန်းသမားနှစ်ယောက်နှင့် သယ်ယူပို့ဆောင်ရေးတပ်မှ တပ်ကြပ်ကြီးတစ်ယောက်သည် လားများရှေ့ရှိ နေရာကျဉ်းကျဉ်းကလေးတွင် စု၍ရပ်နေကြသည်။ လားသုံးကောင်ကို ဝါးများဖြင့် လှောင်အိမ်ပြုလုပ်ကာ ချည်နှောင်ထားသည်။ လားများ၏ ဦးခေါင်းကိုလည်း ဝါးလုံးနှင့်ကပ်၍ ချည်ထားသည်။ လားတစ်ကောင်စီ၊ တစ်ကောင်စီကိုလည်း အောက်ဘက်မှ နေ၍ ဝါးလုံးများဖြင့် ကပ်၍ချည်ထားပြန်ရာ လားသုံးကောင်သည် မလှုပ်နိုင် မရှားနိုင် ဖြစ်နေသည်။

ကျွန်တော်သည် ကျွန်တော့်ရဲဘော်များကို ရေတွက်လိုက်ပြီးနောက် စီ ၄၇ ဒါကိုတာလေယာဉ်မှ တံခါးကို ပိတ်လိုက်၏။ ဤအထိကား ကျွန်တော်တို့ လေ့ကျင့်ထားခဲ့သော လက်တွေ့အလုပ်များဖြစ်သည်။ ယခုမှ လေ့ကျင့်ထားခြင်းမရှိသော လေ့ကျင့်ရေးလည်း မဖြစ်စကောင်းသောအလုပ်ကို စတင်ရပေတော့မည်။

လူ၊ လားနှင့် လက်နက်ပစ္စည်းများပါသော လေယာဉ်ကို ဝေဟင်တွင် ကောင်းမွန်စွာ ပျံတက်သွားအောင် လုပ်ရန်အလုပ်တည်း။

လေယာဉ်သူရဲသည် ဦးပိုင်းတံခါးပေါက်ကလေးကို ဖွင့်ပြီးနောက် နောက်ဘက်ရှိ လူနှင့် လားများကို အကဲခတ်၍ကြည့်လိုက်၏။ ထို့နောက် တံခါးကို ပြန်ပိတ်လိုက်ပြီး စက်ကို စ၍နှိုးလိုက်၏။

အရှိန်ပြင်းလှသည်နှင့်အမျှ လေယာဉ်တစ်ခုလုံး သိမ့်သိမ့်ခါ၍ လှုပ်ရှားလာသည်။ စောစောက ငြိမ်သက်နေသော လားများသည် တွန်းထိုး ကန်ကျောက်ရန် ကြိုးစားလာကြတော့၏။ ရှည်လျားသော နားရွက်ကြီးများကို နောက်ဘက်သို့ပေကာ ပါးစပ်ကြီးများကို ဖြဲထားလိုက်ပုံမှာ မည်မျှကြောက်လန့်နေသည်ကို ဖော်ပြနေသကဲ့သို့ရှိသည်။

လေယာဉ်သည် ငြိမ့်ခနဲ ရှေ့သို့ထိုးထွက်လိုက်သောအခါ ကျွန်တော့်တစ်ကိုယ်လုံးမှာလည်း ရှေ့ထိုးနောက်ငင်ဖြစ်သွားရပြီး လားများ၏ တွန်းဖယ်ကန်ကြောက်သံများ ပေါ်ထွက်လာသည်။ ဝါးပိုးဝါးတစ်လုံးမှာ လားသုံးကောင်၏ တွန်းအားကြောင့် သယ်ယူပို့ဆောင်ရေးတပ်မှ တပ်ကြပ်ကြီးသည် ကာဘိုင်ကို အသင့်အနေအထားဖြင့်ထားရင်း အခြေအနေကို စောင့်ကြည့်နေသည်။ လားများ ယခုထက် သောင်းကျန်းလာပါက လေယာဉ်ထဲရှိ လက်နက်များကို မထိခိုက်စေဘဲ လားများကို ပစ်သတ်ရန်တည်း။

လေယာဉ်သည် လေယာဉ်ပြေးလမ်းကြောင်းပေါ်တွင် အရှိန်နှင့်ပြေးသွားပြီးနောက် အပေါ်သို့ ဝေါခနဲပျံတက်လိုက်သည်။ လားများထားရှိရာနေရာမှ ရုန်းသံကန်သံများ ပေါ်ထွက်လာပြန်သည်။

လေထုထဲသို့ရောက်လာသော လေယာဉ်သည် တည်ငြိမ်စပြုလာ၏။ ထို့အတူ လားသုံးကောင်လည်း ငြိမ်လာသည်။

ကျွန်တော်သည် ဘေးလွယ်အိတ်ထဲမှ မြေပုံစာရွက်ကို ထုတ်ယူ၍ ပေါင်နှစ်လုံးပေါ်တွင် ဖြန့်ခင်းကာ အောက်တွင်မြင်နေရသော နယ်မြေ အနေအထားကို လက်ထဲရှိ မြေပုံနှင့် တိုက်ဆိုင်၍ကြည့်နေမိ၏။

ချင်းတွင်းမြစ်သည် တသွင်သွင်စီးဆင်းနေ၏။

ကျွန်တော်တို့သည် သောင်ထွတ်မှနေ၍ ချင်းတွင်းကို ကျော်ရမည်ဖြစ်ရာ စစ်တောင်းအနားတွင် မြင်းခွာသဏ္ဌာန်ရှိနေသော ချင်းတွင်း၏ ကမ်းပါးနှစ်ဖက်ကိုလည်းကောင်း၊ ချင်းတွင်းသို့ စီးဝင်နေသော လက်တက်ကလေးတစ်ခုကိုလည်းကောင်း လေယာဉ်၏ ယာဘက်မှန်ပေါက်မှ မြင်နေရပေ၏။

တစ်နာရီလောက်ကြာသောအခါ လေယာဉ်ဦးပိုင်းသည် အောက်သို့စိုက်၍လာခဲ့ရာ လားသုံးကောင်၏ အတွဲဘောများသည်လည်း ရှေ့မှ လားထိန်းနှစ်

ယောက်နှင့် တပ်ကြပ်ကြီးအပေါ်သို့ ဖိ၍ကျလာတော့သည်။ လေယာဉ်ဦးပိုင်းသည် ဤထက်ပို၍နိမ့်လာပါက လားသုံးကောင်သည် လေသူရဲ၏ အခန်းတွင်းသို့ပင် ရောက်ရှိသွားကာ လေယာဉ်ကို မည်သို့မောင်းရမည်ဟု လေသူရဲအား အကြံပေးနေတော့မည်လားဟု မှတ်နေရ၏။

ကျွန်တော်တို့သည် ဧရာဝတီသို့ နီးကပ်ခဲ့၏။ လမင်းက ထိန်ထိန်သာနေတော့သည်။ တစ်မိုင်ခန့်ကျယ်သော ဧရာဝတီမြစ်ကြီးကို ထီးချိုင့်မှနေ၍ ကျော်ဖြတ်ခဲ့ကြသည်။

ချောင်းရင်ဂီသို့ ရောက်ပေတော့မည်။

လွန်ခဲ့သော နှစ်ပတ်ခန့်က လေယာဉ်ပေါ်မှ ကင်းထောက်ရင်း မြင်တွေ့ခဲ့ရသော ချောင်းရင်ဂီမှာ ယခုလို ညအချိန်တွင် သူစိမ်းပြင်ပြင်လို ဖြစ်နေတော့၏။ တြိဂံသဏ္ဍာန် ထွန်းညှိထားသော အောက်မှမီးများသည် ကလကတ္တားရှိ ချောင်းရင်ဂီလမ်းမကြီးပေါ်မှ မီးများထက်ပင် ပို၍ တောက်ပသည်ဟု ထင်ရ၏။

ကျွန်တော်တို့လေယာဉ်သည် အောက်သို့ဆင်းရန်အတွက် စ၍ ဝဲနေပေပြီ။

အောက်ဘက်တွင် ပစ္စည်းများ ချနေသော လေယာဉ်များ။ လေယာဉ်လမ်းကြောင်းပေါ်တွင် အရှိန်ကိုလျှော့၍ပြေးရင်း ရပ်တန့်ရန် ကြိုးစားနေသော လေယာဉ်များကို မြင်ရ၏။ ဤအချိန်တွင်ပင် ပျံဝဲနေသော ကျွန်တော်တို့လေယာဉ်အောက်တည့်တည့်မှ အခြားသောလေယာဉ်တစ်စင်း ပွတ်ကာသီကာ ထိုး၍ အပေါ်သို့တက်သွားသည်ကို ရုတ်တရက်တွေ့လိုက်ရပြီး ကျွန်တော်တို့လေယာဉ်ခေါင်းတည့်တည့်တွင် အခြားလေယာဉ်တစ်စင်းက ပူးတုံ့ရွှာတုံ့နှင့်ရှိနေသည်ကို မြင်ရပြန်သည်။ မိမိတို့လေယာဉ်အချင်းချင်း ထိမိုက်မိပြီး ပျက်ကျသေဆုံးလေမည်လားဟု စိုးရိမ်မိတော့သည်။

ကျွန်တော်တို့လေယာဉ်မှ လေယာဉ်ဘီးများ အောက်သို့ကျလာပြီး စက်သံလည်း နှေးလာသည်။ လေယာဉ်သည် နိမ့်၍ နိမ့်၍ ဆင်းလာပေပြီ။ သစ်ပင်များ၊ မီးရောင်များလည်း ရိပ်ခနဲ ရိပ်ခနဲ ပြေးသွားကြပြီးနောက် အားလုံးပါ၍သွားသည်ဟု ထင်လိုက်ရ၏။

လေယာဉ်သည် ငြိမ့်ခနဲဖြစ်သွားပြီးနောက် ထိုး၍ရပ်သွားသည်။ ကျွန်တော်က လေယာဉ်တံခါးကို ဖွင့်လိုက်ပြီးနောက်...လေယာဉ်ပေါ်မှ ဆင်းလိုက်၏။

ကျွန်တော်သည် မြန်မာ့မြေပေါ်တွင် ခြေချမိပေပြီ၊ ရန်သူ့စစ်ကြောင်းနှင့် မိုင် ၁၅၀ သာကွာသော နေရာတည်း။

လမ်းပြတစ်ယောက်က လေယာဉ်စက်သံများနှင့်ဝေးရာ တောစပ်ကလေး တစ်ခုဆီသို့ ကျွန်တော့်ကို ခေါ်သွားသည်။ သစ်ပင်တစ်ပင်အောက်တွင် ထိုင်နေသော တပ်မှူး 'ဂျို'ကို တွေ့ရ၏။

လေယာဉ်အားလုံးပင် ချောင်ရင်ဂီသို့ ချောချောမောမော ဆင်းသက်နိုင် ခဲ့၏။ သုံးမိနစ်ကြာတိုင်း လေယာဉ်တစ်စင်းက ဆင်းသက်လာကာ တစ်စင်းက ပျံတက်လျက်ရှိသည်။ လေယာဉ်တစ်စင်းလျှင် ပစ္စည်းများ ချရန်အတွက် ၂၄ မိနစ်စီ ရပ်နားခွင့်ပေးသည်။ ကောင်းကင်တစ်ခွင်တစ်ပြင်လုံးမှာ ကျွန်တော် တို့၏ လေယာဉ်စက်သံများမှာ သောသောညံလျက်ရှိနေပေသည်။

ကျွန်တော်သည် တပ်မဟာဌာနချုပ်၏ ကာကွယ်ရေးစခန်းများကို လိုက်လံစစ်ဆေးပြီးနောက် အိန္ဒိယရှိ 'ခြင်းဒစ်'ဌာနချုပ်နှင့် ကျွန်တော့်ထက် ဦးစွာ မြန်မာ့မြေပေါ်သို့ ရောက်နေသော အမှတ်(၇၇)တပ်မဟာ ဌာနချုပ်မှ ရောက်ရှိလာသည့် သတင်းများကို ဖတ်ကြည့်သည်။ ထို့နောက် ကျွန်တော့်တွင် ပါလာသော ကေရာရှင်ကို ညစာအဖြစ် မြန်မာ့မြေပေါ်တွင် ပထမဆုံးစားသည်။ ပြီးလျှင် စောင်တစ်ထည်ကိုပတ်၍ ဂရောင်းရှိပေါ်တွင် လှဲချလိုက်၏။ ချက်ချင်း ပင် အိပ်ပျော်သွားလေ၏။

လေယာဉ်များသည် ကျွန်တော်တို့တပ်မဟာမှ ကျန်စစ်သည်တော်များ အား မတ်လ ၉ ရက်နေ့ညအထိ ဆက်၍ သယ်ယူပို့ဆောင်ပေးနေသည်။ ကျွန်တော်တို့သည် ရေရှာရန်အတွက် တိုက်ကင်းအချို့ကို စေလွှတ်လိုက်ပြီး နောက် ချောင်ရင်ဂီပတ်ဝန်းကျင်တွင် ခံစစ်အနေအထားအဖြစ် နေရာယူ ထားကြသည်။

ပူသောနေရောင်အောက်မှ မှန်ရောင်တောက်နေသော ကောင်းကင်ကို မော့ကြည့်ရင်း ရန်သူ့လေယာဉ်ပျံအသံကို နားစွင့်ကြသည်။ တစ်စင်းမှ ရောက်မလာ။

သုံးရက်မြောက်သည့် အရုဏ်တက်အချိန်တွင် တပ်မဟာဌာနချုပ်နှင့် အတူ အမှတ် ၃၀-၄၀-၄၉-၉၄ စစ်ကြောင်းများသည် ချောင်ရင်ဂီတွင် အပြည့်အစုံ ရောက်ရှိနေကြပြီဖြစ်၏။

တပ်မှူး 'ဂျို'သည် ဂျမ်ဘိုမော်ရစ် ဦးစီးသော စစ်ကြောင်းနှစ်ကြောင်းကို ယူနန်နယ်စပ်သို့ စေလွှတ်လိုက်ပြီး ဗိုလ်ချုပ်ကြီးစတီးဝဲလ်၏ ယူနန်တရုတ် တပ်များနှင့် အဆက်အသွယ်ယူစေသည်။ ကျန်စစ်ကြောင်းများက နောက် ဘက်တည့်တည့်သို့ ချီတက်ရန် သရော့ဒ်ဝေရှိ တပ်များနှင့် ဆုံမိရန် ကြိုးစား

ရသည်။ ဆုံရန်ချိန်းထားသည့်ရက်မှာ မတ်လ ၂၄ ရက်နေ့ဖြစ်၏။ ယနေ့ မတ်လ ၁၀ ရက် ရှိပေပြီ။ သည်ရက်များအကြားတွင် မိုင် ၁၃၀ ရှည်သော ခရီးကို ဖြတ်၍ ချီတက်ရမည့် မြစ်ကြီးရောက ကျွန်တော်တို့အား လမ်းမှ ကာဆီး၍ထားလေသည်တကား။

တောင်ပံတပ်များအဖြစ် စေလွှတ်ထားသော ကင်းထောက်အဖွဲ့များသည် တောလမ်းတောင်လမ်းများအတိုင်း ဧရာဝတီမြစ်ကမ်းပေါ်ရှိ အင်းရွာသို့ ချီတက်နှင့်ကြပြီဖြစ်၏။

စတင်ချီတက်ပြီးနောက် ၁ နာရီလောက်အကြာတွင် တဝီဝီမြည်လာသော လေယာဉ်အသံများကို ကြားကြရ၏။ ကျွန်တော်တို့ လေယာဉ်ပျံသံများနှင့် မတူ။

ကျွန်တော်တို့သည် နေ့လယ်ကြောင်တောင်တွင် သစ်ပင်ထူထပ်ခြင်းမရှိသော အင်တိုင်းတောသို့ ရောက်ရှိနေခိုက်ဖြစ်ရာ နေရိပ်လည်းမရ ရန်သူ့ လေယာဉ်ပျံအန္တရာယ်မှ အကာအကွယ်လည်း မရဘဲ ဖြစ်နေလေသည်။

သစ်ရွက်တွေ လေခဲ၍ မြေသို့ကျသော တပေါင်းလ ဖြစ်သည့်အတိုင်း ကျွန်းရွက်ခြောက်များပေါ်သို့ ကျွန်တော်တို့ တက်၍နင်းလိုက်သော အသံမှာ လေယာဉ်စက်သံထက်ပင် ကျယ်လောင်နေသည်။

တပ်မှူး 'ဂျီ'က လက်ပြ၍ အချက်ပေးလိုက်သောအခါ ကျွန်တော်တို့ အားလုံး ရောက်သည့်နေရာတွင် ရပ်၍ နေရာယူကြသည်။ လားများသည် မလှုပ်မယှက်ဘဲ ရပ်နေကြ၏။ နားစရာ၊ ခိုစရာ၊ ပုန်းစရာ ရှားပါးလှသော နေရာတွင်မှ ရန်သူ့လေယာဉ်များနှင့် ပက်ပင်းပါတိုးမိနေခြင်းမှာ ကျွန်တော်တို့ အတွက် စ, စ,ချင်း ဆောက်နှင့်ထွင်း ဆိုသကဲ့သို့ ဖြစ်နေရလေသည်။

ရန်သူလေယာဉ် ၉ စင်းသည် ပေ ၅၀၀၀ ခန့်အမြင့်မှနေ၍ ကျွန်တော်တို့ခေါင်းပေါ်မှ ကျော်ဖြတ်သွားသည်။ လေယာဉ်တစ်စင်းလျှင် စက်သေနတ် ၆ လက်ပါရာ ကျွန်တော်တို့သည် ၅၄ လက်သော စက်သေနတ်တို့မှ ပစ်ခတ်ခြင်းခံရပေတော့မည်။

ရန်သူလေယာဉ်များသည် ကြည့်နေရင်းကပင် တိမ်ကြားထဲသို့ ဝင်ရောက် ပျောက်ကွယ်သွားပြီးနောက် စက်သေနတ်များ အတွဲလိုက်ဆွဲသံကို ကြားရပြီး တဝုန်းဝုန်းနှင့် ကြဲချလိုက်သော ဗုံးသံများ ပေါ်ထွက်လာသည်။

ငါးမိနစ်မျှ ဆက်၍ပေါ်ထွက်လာသော အသံများ...

ဤအချိန်တွင် တပ်မှူး 'ဂျီ'နှင့် ကျွန်တော်တို့က ဟက်ဟက်ပက်ပက်

ရယ်မောလိုက်မိကြ၏။

ရန်သူလေယာဉ်များသည် ကျွန်တော်တို့နှင့် အတန်အလှမ်းကွာသော နေရာတွင်သာ ဗုံးကြဲတိုက်ခိုက်နေခြင်း ဖြစ်သည်။

မြေကြီးပေါ်တွင် ပြားပြားဝပ်၍ မှောက်နေကြသော ရဲမက်များသည် ခေါင်းထောင်လာကာ ရှက်ပြုံးကလေးများ ပြုံးနေကြ၏။ ချောင်ရင်ဂီတွင် သုံးမရ၍ ချန်ထားခဲ့သော တတ်ဆီပုံးအချို့နှင့် ပျက်စီးနေသော စက်မဲ့ လေယာဉ်အချို့ကို ရန်သူလေယာဉ် ၉ စင်းက ဗုံးကြဲတိုက်ခိုက်နေခြင်း သာတည်း။

ကျွန်တော်တို့သည် ဆက်၍ ချီတက်လာခဲ့ရပြန်လေသည်။ ရှေ့ဆုံးက အမှတ်(၃၀) စစ်ကြောင်းက ချီတက်သည်။ ကျွန်တော်တို့ တပ်မဟာဌာနချုပ် က သူတို့နောက်မှကပ်လျက် လိုက်ပါလာသည်။ အမှတ်(၄၀) စစ်ကြောင်းက နောက်ရံတပ်အဖြစ် တာဝန်ယူထားသည်။ ကျွန်တော်တို့သည် ရှေ့သို့ ခြေတစ် လှမ်း လှမ်းလိုက်တိုင်း ဂျပန်တိုက်ကင်းအဖွဲ့တစ်ဖွဲ့နှင့် ပက်ပင်းမှာတိုးနေလိမ့် မည်ဟု ထင်နေကြ၏။ ကျွန်းရွက်ခြောက်များပေါ်တွင် ကျွန်တော်တို့ ချီတက် နေသော ခြေသံကလည်း တရွှမ်းရွှမ်း ဆူညံလျက်ရှိသည်။ သို့သော် ရန်သူ တစ်ယောက်မျှမတွေ့၊ ငှက်တစ်ကောင်မျှ မမြင်ရ တောတွင်းတိရစ္ဆာန် တစ်ကောင်တလေမျှကိုလည်း မတွေ့ရ၊ ကြည့်လေရာရာတွင် နေရောင်အောက် ၌ ကျိုးတိုးကျဲတဲဖြစ်နေသော သစ်ပင်များကိုသာ တွေ့နေရသည်။ ကျွန်တော်တို့ တစ်ကိုယ်လုံးမှာလည်း ရေချိုးထားသလို ချွေးများဖြင့် နစ်နေသည်။

ကျွန်တော့်ခေါင်းထဲတွင် စူးရှသောအသံတစ်ခုကို ကြားလိုက်ရသည် ထင်သည်။ မောပန်းသောကြောင့် နားမှပင် လေထွက်နေသလားဟု စဉ်းစား ကြည့်သည်။ သို့သော် ကျွန်တော်က မမော၊ နားအူ၍ လေထွက်ခြင်းလည်း မဖြစ်နိုင်။

စဉ်းစားရင်း ဆက်လက်ချီတက်လာခဲ့သော ကျွန်တော်သည် ပို၍စူးရှ သောအသံကို ကြားလိုက်ရပြန်၏။ ကျွန်တော်သည် တပ်မှူးဂျိဘက်သို့စောင်း၍ အဓိပ္ပာယ်ပါသောအကြည့်ဖြင့် ကြည့်လိုက်သည်။ ဂျိသည် ကျွန်တော်ကြား လိုက်သော အသံကို သူလည်း ကြားလိုက်ပုံရသည်။ သူသည် ကျွန်တော့်ကို ပြန်၍ကြည့်ရင်း…“ဘာသံများကြားသလဲ”ဟု မေးလိုက်၏။

ကျွန်တော်က ခေါင်းညိတ်၍ပြလိုက်၏။ ရဲဘော်များသည် ဂျိနှင့် ကျွန် တော်တို့ အရိပ်အခြည်ကို စောင့်၍ကြည့်နေကြသည်။

စူးရှသောအသံက ထပ်၍ ပေါ်လာပြန်သည်။ ဂျိုက ရပ်တန့်ရန် လက်ပြ၍ အချက်ပေးလိုက်၏။

ပြောင်းဆန်အောင် ဆူညံနေသော ကျွန်တော်တို့၏ ခြေသံများ ရုတ်တရက် ရပ်သွားသည်။

ထိုအချိန်က ဂျက်လေယာဉ်ပျံ မပေါ်သေးသော်လည်း ကျွန်တော်တို့ ကြားလိုက်သောအသံမှာ ဂျက်လေယာဉ်အသံကဲ့သို့ ဖြစ်သည်ဟုပင် တင်စား၍ ဆိုပါရစေ။

ကျွန်တော်တို့သည် တောင်မြောက်လေးပါးသို့ လှည့်၍ အသံလာရာအရပ်ကို စူးစမ်းရှာဖွေကြ၏။ သို့သော် ရှာ၍မရ အသံသည် ရှိလေရာအရပ်တိုင်းမှ လာနေသည်ဟု ထင်ရ၏။ စစ်သည်တော်အားလုံးမှာ သေနတ်ခလုတ်ပေါ်တွင် လက်ညှိုးတင်ရင်း ပေါ်လာမည့်ရန်သူကို စောင့်နေကြ၏။ အင်တိုင်းတောမှာ သစ်ရွက်များကြွေကာ ကျဲလည်းကျဲနေသဖြင့် ကိုက်လေးငါးရာကို ရှင်းရှင်းကြီး မြင်နေရ၏။

အသံရှင်ကို မမြင်ရသည်မှာ ထူးဆန်းလှသည်။

ဘာမားရိုက်ဖယ်မှ ကရင်အမျိုးသားဗိုလ်ကြီးစောလာဒါသည် သူ၏တပ်စုဖြင့် ကျွန်တော်တို့အနားသို့ ရောက်လာသည်။ သူ့မျက်နှာမှာ ရယ်ကျဲကျဲဖြစ်နေ၏။ သူက စကားလေးတစ်လုံး ပြောလိုက်သောအခါ အမေရိကန်လေတပ်မှ စစ်သူရဲ အရာရှိ ဟယ်ဒလီသည် မပြုံးဘဲနှင့် ငါးလုံးကွဲ ရယ်ချလိုက်ပါတော့သည်။

ကျွန်တော်တို့ကြားနေရသော အသံများမှာ ပုစဉ်းရင်ကွဲများ၏ အော်သံများသာတည်း။

ကျွန်တော်တို့မှာ ပုစဉ်းရင်ကွဲ အော်သံကို တစ်ခါမျှ မကြားဖူးသဖြင့် ရှက်ရှက်နှင့်ပင် ဆက်၍ချီတက်ခဲ့ရသည်။

ပုစဉ်းရင်ကွဲအော်သံများသည် တဖြည်းဖြည်းနှင့် တိတ်၍သွားခဲ့၏။

ကျွန်တော်တို့သည် သရက်ချောင်းကမ်းပါးသို့ စောစောစီးစီးပင် ရောက်လာခဲ့ကြ၏။ သို့သော် ရေခန်းခြောက်လျက်ရှိသည်ကို တွေ့ရ၏။

ဂျိုသည် ချက်ချင်းပင် ရောဝတီမြစ်အား ဖြတ်ကျော်ရေး အစီအစဉ်ကို တပ်မှူးများနှင့် ဝိုင်း၍ဆွေးနွေးသည်။

ကျွန်တော်တို့ အင်ဖာတွင်ရှိစဉ်က ရောဝတီဖြတ်ကူးရေး အစီအစဉ်ကို မြေပုံများ၊ ဓာတ်ပုံများကိုကြည့်၍ ရေးဆွဲခဲ့ပြီးဖြစ်သည်။ ယခုမှ လက်တွေ့

တွေ့နေရသော နယ်မြေအနေအထားနှင့် ရန်သူအရိပ်အခြည်ကိုကြည့်ကာ ဖြတ်ကူးရေးအစီအစဉ်ကို ညှိနှိုင်းကြရ၏။

ဂျိုက ရောဝတီမြစ်ကမ်းပေါ်ရှိ အင်းရွာ၏ တောင်ဘက် ၂ မိုင်ကွာမှနေ၍ ဖြတ်ကူးရန် ရည်ရွယ်သည်။ ထို့ကြောင့် ကျွန်တော်တို့သည် အင်းရွာနှင့် အင်းရွာတောင်ဘက်ရှိ မအူကုန်းရွာများကို အခိုက်အတန့်အားဖြင့် အုပ်စီးထားနိုင်ဖို့ လိုလာသည်။

ထောက်လှမ်းရေးအဖွဲ့မှ အစီရင်ခံချက်အရ အင်းရွာတစ်ဖက်ရှိ ရောဝတီမြစ်ကမ်းပေါ်တွင် ၁၀–မိုင်ခန့် ရှည်လျားသော နေရာများ၌ ဂျပန် ကင်းစခန်းများ ရှိနေသည်ဟု သိရသည်။ ကျွန်တော်တို့သည် ရန်သူ့ကင်းစခန်းများ တစ်ခုနှင့်တစ်ခု အဆက်အသွယ်ပြတ်အောင် ဖြတ်တောက်လိုက်ပြီးနောက် အင်းရွာရှိ ဂျပန်တိုက်ကင်းအဖွဲ့နှင့်လည်း အဆက်အသွယ် မပြုလုပ်နိုင်အောင် ဖြတ်တောက်ထားရမည် ဖြစ်သည်။

ထောက်လှမ်းရေးအဖွဲ့က ဆွဲယူလာသော မြေပုံအရ ရန်သူတို့သည် စခန်းတစ်ခုနှင့်တစ်ခု တယ်လီဖုန်းကြိုးများဖြင့် အဆက်အသွယ်ပြုလုပ်ထားသည်ကို တွေ့ရ၏။

ကျွန်တော်တို့သည် ထိုတယ်လီဖုန်းအဆက်အသွယ်ကို ဖြတ်တောက်တိုက်ခိုက်နေစဉ် အင်းရွာနှင့် မအူကုန်းရှိ ရန်သူ့စခန်း ၂ ခုကိုလည်း လေကြောင်းမှ လာရောက်တိုက်ရမည်ဖြစ်သည်။ အင်းရွာနှင့် မျက်နှာချင်းဆိုင်ရှိ တစ်ဖက်ကမ်းမှ ရန်သူ့စခန်းများကိုလည်း ခေါင်းမဖော်နိုင်အောင် လေတပ်ဖြင့် နှိမ်ထားရမည်ဖြစ်၏။

ရန်သူများသည် မြစ်ကမ်းပါးတစ်လျှောက်ရှိ လှေငယ်တက်ဆင်းမှန်သမျှကို ကွယ်ဝှက်ထားပြီးဖြစ်ရာ ကျွန်တော်တို့သည် ဖော်တော်ဘုတ်များကို စက်မဲ့လေယာဉ်များနှင့် ချပေးရန် အိန္ဒိယရှိ ဌာနချုပ်သို့ သတင်းပို့ရတော့သည်။

ကျွန်တော်တို့သည် ကျွန်တော်တို့ ဖြတ်ကူးရမည့်နေရာနှင့် မလှမ်းမကမ်းတွင် စက်မဲ့လေယာဉ်များ ဆင်းသက်နိုင်မည့်နေရာကို ရှာဖွေပြုလုပ်ကြရ၏။

ကျွန်တော်တို့သည် ရောဝတီမြစ် ဖြတ်ကူးရေး အစီအစဉ်ကို အသေးစိတ်အချောကိုင်ကြရသည်။

မတ်လ ၁၁ ရက်နေ့ ည ၈ နာရီအချိန်တွင် ရောဝတီမြစ်ကို ဖြတ်ကူးရန် သတ်မှတ်လိုက်သည်။ စက်မဲ့လေယာဉ်များ ဆင်းသက်မည့်နေရာကိုမှ ရောဝတီမြစ်ကမ်းပါးသို့ရောက်မှ နယ်မြေအနေအထားကို လက်တွေ့လေ့လာပြီးနောက်

အပြီးသတ် အတည်ပြုလျက်ယူရမည် ဖြစ်သည်။

ကျွန်တော်တို့ ဖြတ်ကူးရမည့်နေရာတွင် ရန်သူ့ဘက်မှ တပ်မှူးဖြစ်သူ ဗိုလ်မှူး 'ဆူဂျီမိတို'သည် ကျွန်တော်တို့တက်အလာကို လက်တယားယားဖြင့် စောင့်နေပေတော့မည်။

အစီအစဉ်ကို အသေးစိတ် အချောကိုင်ပြီးနောက် ဂျိုက တစ်ရေးလောက် မှေးနေစဉ် ကျွန်တော်သည် အိန္ဒိယရှိ ခြင်းဒစ်တပ်ဖွဲ့ဌာနချုပ်သို့ သတင်းပို့ရန် စီစဉ်နေသည်။ အချက်ပြဆက်သွယ်ရေးတပ်မှ ဆက်သားအချို့ရောက်လာကာ ကျွန်တော်တို့မြောက်ဘက် ပိုင် ၁၀၀ ခန့်အကွာရှိ ဘရော့ဒ်ဝေးသို့ အခြား ခြင်းဒစ် တပ်ဖွဲ့များ ရောက်ရှိလာပြီဟု သတင်းပို့သည်။

ထမင်းစားချိန်သို့ ရောက်လာပြီဖြစ်၍ ပါလာသည့် ကေရာရှင်ဘူးများကို ထုတ်ကာ ဖြစ်သလိုစားကြ၏။ တပ်မှူးဂျိုက ယနေ့ မီးမဖိုရဟု အမိန့်ထုတ်ထားသောကြောင့် လက်ဖက်ရည်အိုးလည်း မတည်နိုင်။

နေဝင်လာသည်နှင့်တစ်ပြိုင်နက် ရဲဘော်တိုင်း လက်နက်ကိုယ်စီကိုင်ကာ မိမိတာဝန်ကျရာနေရာသို့ ရောက်နေကြပေပြီ၊ မော်တာအဖွဲ့သားများကလည်း မော်တာကို အသင့်ပြင်ထားကြ၏။ စစ်သေနတ်သမားများက ကျွန်တော်တို့ စခန်းချနေသောနေရာ မြောက်ဘက်ကို သတိထားနေကြသည်။ အရှေ့နှင့် အနောက်ဘက်မှ ရန်သူတက်လာနိုင်မည့် လမ်းများကိုလည်း ကင်းပုန်းဝပ်၍ နေရာယူထားသည်။

တာဝန်မကျသောရဲဘော်များက ကျောပိုးအိတ်ကို ခေါင်းတင်၍ အိပ်ပျော်နေပေသည်။ ကြိုးမဲ့ကြေးနန်းနှင့် ဆိုက်ဖာအဖွဲ့ဝင်များက နောက်ထပ် ၂ နာရီခန့်ကြာသည်အထိ အလုပ်များနေကြသည်၊ အချက်ပြ ဆက်သွယ်ရေး အရာရှိ ဘရစ်က ကျွန်တော်ရေးပေးထားသော သတင်းများကို ဌာနချုပ်သို့ ပို့နေပြီဟု ပြောလာသောအခါ ကျွန်တော်သည် ခေါင်းကို အေးအေးထား၍ အိပ်ရေးဝအောင် အိပ်လိုက်သည်။

နောက်တစ်နေ့နံနက် ၈ နာရီခန့်မှ ကျွန်တော်တို့ ဆက်၍ ချီတက်နိုင် သည်။ ထိုအချိန်အထိ မည်သူမျှ ရေတစ်ပေါက် မသောက်ရသေး။ နာရီပေါင်း ၃၀ တိတိရှိနေပြီ၊ ကျွန်တော်တို့ရေဘူးများထဲတွင် ရေအပြည့် ရှိနေသော်လည်း ရှေ့တွင် မည်ကဲ့သို့ အခြေအနေပေးလာမည်ကို မမှန်းနိုင်သောကြောင့် မည်သူမျှ ရေမသောက်ရဟု အမိန့်ထုတ်ထားသည်။

လားများက ရေမသောက်ရသောကြောင့် ဂနာမငြိမ် ဖြစ်နေပြီး လူများ

ကလည်း ပန်းလျှသည့်အသွင်ပေါ်နေသည်။ ကျွန်တော်တို့ လည်ချောင်းများ အတွင်းတွင် တစ်ဆို့ဆို့ကြီးဖြစ်နေပြီး လေကို ပါးစပ်မှ ရှူလိုက်မိတိုင်း အောင့်သက်သက်ဖြင့် အခံရခက်နေသည်။

ကျွန်တော်တို့သည် အင်တိုင်းတောင်၏အဆုံးသို့ ရောက်လာကြ၏။ မြစ်မင်း ရောသည် ကျွန်တော်တို့နှင့် ၂ မိုင်ခန့်သာ ကွာတော့၏။ သည် ၂ မိုင် အကြားတွင် ကိုင်းတောများ၊ ဝါးရုံပုပ်များနှင့် သဲသောင်များ ခံနေ၏။

ကျွန်တော်တို့ ဆက်၍ချီတက်ရသည့် ဘော်သာစွာ မြစ်မင်းရော၏ ရေဇလာကို တစ်ခါတစ်ခါတွင် ပြိုးခနဲ ပြက်ခနဲ လှမ်း၍မြင်ကြရ၏။ ကျွန်တော် တို့အာရုံသည် နာရီပေါင်း၃၀ ကျော်ကျော်ကြာခဲ့သည့်အထိ ရေတစ်ပေါက်မျှ မသောက်ရသေးသော်လည်း ပြိုးခနဲ ပြက်ခနဲတွေ့နေရသော မြစ်ရော၏ ရေဇလာတွင် မစူးစိုက်နိုင်ဘဲ တစ်ဖက်ကမ်းသို့သာ လှမ်း၍ စိတ်ရောက်နေ၏။

ဂျပန်ဗိုလ်မှူး 'ဆူဂီမိုတို'သည် ပေ ၄၀ ခန့်မြင့်သော တစ်ဖက်ကမ်းရှိ ချောက်ကမ်းပါးပေါ်မှနေ၍ ကျွန်တော်တို့ကို စောင့်မျှော်နေလေသလား။

ဟိုမှာဘက်ရှိ ရောဝတီမြစ်ကမ်းသည် နောက်ခံကားချပ်ဖြစ်သော ဂန့်ဂေါ တောင်တန်းနှင့် ပဏ္ဏာရလေသည်။

မြောက်ဘက် ၂ မိုင် ၃ မိုင်ခန့် အကွာမှ အတွဲလိုက်ပေါ်ထွက်လာသော စက်သေနတ်သံများကြောင့် အင်းရွာသို့ စေလွှတ်လိုက်သော တိုက်ကင်းအဖွဲ့ သည် ရန်သူနှင့် ရင်ဆိုင်နေရပြီဟု တွက်မိသည်။

မကြာမီပင် ရောဝတီကမ်းခြေသို့ ကျွန်တော်တို့ ရောက်လာကြ၏။ ဘုရင့်လေတပ်မတော်မှ ဗိုလ်ကလေးများဖြစ်သော ရော်ဘီနှင့် ချက်စ်တို့သည် ကမ်းထိပ်သို့ ပြေးဆင်းပြီး စက်မဲ့လေယာဉ်များ ဆင်းသက်နိုင်မည့် နေရာသို့ လှည့်ပတ်ရှာဖွေနေကြသည်။

မကြာမီ သူတို့နှစ်ယောက် ပြန်ရောက်လာပြီး ကမ်းခြေအနေအထားမှာ စက်မဲ့လေယာဉ်များ ဆင်းသက်၍ ရနိုင်လောက်သည့်အခြေအနေ ရှိကြောင်း သတင်းပို့ကြသည်။

အချက်ပြဆက်သွယ်ရေးအဖွဲ့က လားများပေါ်မှ ကြိုးမဲ့ကြေးနန်းစက် များချပြီး အသံဖမ်းသည့်တိုင်ကို ထူလိုက်ကြ၏။

ည ၇ နာရီခွဲနေပေပြီ။

ကျွန်တော်သည် အသင့်ရေးပြီးသား သတင်းကို အချက်ပြဆက်သွယ် ရေးအရာရှိ ဘရစ်လက်ထဲသို့ ထည့်လိုက်၏။

စစ်သားအချို့က ပစ်ကျင်းများ တူးနေစဉ် အချို့က မြစ်ကမ်းပါးတစ်လျှောက်တွင် ထင်းလိုက်၍ကောက်နေ၏။ အိန္ဒိယမှလာမည့် စက်မဲ့လေယာဉ်များအား မီးဖိုဖို၍ အချက်ပြထားရန်တည်း။

အချို့စစ်သားများက ကျွန်တော်တို့ရောက်ရှိနေသော ကမ်းခြေတစ်ဝိုက်တွင် တိုက်ကင်းထွက်နေစဉ် အချို့စစ်သားများက ညစာစားနေကြသည်။

တပ်မှူးကျိုသည် ဖရန့်တန်နာနှင့်တကွ စစ်ကြောင်းများတွင်ပါသည့် သယ်ယူပို့ဆောင်ရေးအရာရှိများကို ခေါ်ကာ ရေစပ်သို့ ဆင်းသွားသည်။ ကျွန်တော်တို့၏ အကြီးမားဆုံးပြဿနာဖြစ်သော ၂၄၀ ခန့်ရှိသည့် ဝန်တင်တိရစ္ဆာန်များအား တစ်မိုင်ခန့်ကျယ်သော ဧရာဝတီမြစ်ပြင်ကို မည်သို့ဖြတ်ကူးစေမည်ကို အဖြေရှာရန်တည်း။

မှောင်စပျိုးလာသည်နှင့်တစ်ပြိုင်နက် စီ ၄၇ ဒါကိုတာလေယာဉ်ပျံများ၏အသံကို စတင်၍ ကြားရ၏။ ထို့နောက် စက်မဲ့လေယာဉ်တစ်စင်းစီကို နောက်မှတွဲ၍ ပျံသန်းလာသော ဒါကိုတာလေယာဉ်များကို မြင်ရသည်။

စက်မဲ့လေယာဉ်များသည် ကျွန်တော်တို့ အရေးပေါ်ပြုပြင်ထားသော လေယာဉ်ပြေးလမ်းကြောင်းပေါ်သို့ အစီအရီဆင်းသက်လာကြ၏။

ပစ္စည်းသယ်ယူရေးအဖွဲ့များက ကျွန်တော်တို့နှင့် မိုင်ဝက်ခန့်အကွာတွင် ဆင်းသက်ရောက်ရှိနေသော စက်မဲ့လေယာဉ်များဆီသို့ ပြေးသွားကာ တင်ဆောင်လာသည့် မော်တော်ဘုတ်များကို အောက်သို့ချကြသည်။

လူများနှင့် လားများမှာ မော်တော်ဘုတ်များကို မြစ်ဖြတ်ကူးမည့်နေရာသို့ ရောက်အောင် ပြန်၍ဆွဲယူနေရသဖြင့် အလုပ်ရှုပ်နေကြ၏။

ကျွန်တော်တို့၏ တိုက်ကင်းအဖွဲ့များက အင်းရွာနှင့် မအူကုန်းကို သိမ်းယူထားပြီးဖြစ်ကြောင်း သတင်းပို့သည်။ အင်းရွာတွင် လက်နက်ကိုင်မြန်မာအမျိုးသား ပုလိပ်တပ်ဖွဲ့တစ်ခုရှိကြောင်းလည်း သိရသည်။

ည ၂ နာရီလောက်အချိန်တွင် ဒါကိုတာလေယာဉ်များက စက်မဲ့လေယာဉ်များကို ပြန်၍ ဆွဲယူသွားကြ၏။ ပထမ စက်မဲ့လေယာဉ်ထဲတွင် ဖျားနေသော ဂေါ်ရခါးစစ်သားနှစ်ယောက်ကို တင်ပေးလိုက်သည်။ ထိုဂေါ်ရခါးနှစ်ယောက်မှာ အသည်းအသန်ဖျားနေခြင်းမဟုတ်သော်လည်း တပ်မှူးကျိုက ကျွန်တော်တို့၏ ပြောင်းရေးရွှေ့ရေး၊ သယ်ယူပို့ဆောင်ရေး အစီအစဉ် မည်မျှလျင်မြန်သည်ကို လက်တွေ့စမ်းသပ်၍ ပြလိုသောကြောင့် အိန္ဒိယသို့ ပြန်ပို့လိုက်ခြင်းဖြစ်သည်။

ရောက်ရှိလာသည့် မော်တော်များမှာ တော်တော်နှင့် စက်နိုး၍မရဘဲ ဖြစ်သောကြောင့် အခက်တွေ့နေရပြန်သည်။ လထွက်လာပြီဖြစ်၍ မြစ်ပြင်တစ်ခုလုံး ငွေရောင်ဖုံးကာ လူများ၊ လားများ၊ မော်တော်ဘုတ်များ၏အရိပ်က ရေထဲသို့ ထိုးကျနေ၏။

အရုဏ်တက်လာသည့်အချိန်မှ မော်တော်ဘုတ်များ စက်နိုးရလာကာ မိုက်ဒီဘန် ဦးစီးသော တပ်စု ၂ စုက စက်နိုး၍မရသော မော်တော်ဘုတ် ၂ စင်းကို နောက်မှတွဲ၍ တစ်ဖက်ကမ်းသို့ စတင် ထွက်ခွာနိုင်တော့၏။ ဤမှာဘက်ကမ်းရှိ စစ်သည်တော်များသည် လက်နက်များကို အသင့်ကိုင်ကာ အရေးကြုံက ကာပစ်,ပစ်ပေးနိုင်ရန် နေရာယူထားကြ၏။

တစ်ဖက်ကမ်းရှိ ချောက်ကမ်းပါးစောင်းပေါ်တွင် ရန်သူ့လှုပ်ရှားမှုဟူ၍ နည်းနည်းမျှမတွေ့ရ၊

ဒီဘန် ဦးစီးသော တပ်စု ၂ စုသည် ရေလယ်သို့ရောက်လာလေသည်။

တောင်ဘက်မှ ရုတ်တရက်ပျံတက်လာသော လေယာဉ်ပျံများကို ကြားလိုက်ရပြီး ခဏအတွင်းတွင်ပင် ကျွန်တော်တို့ခေါင်းပေါ်သို့ ရောက်လာကြ၏။ ကျွန်တော်တို့ဘက်မှ တိုက်လေယာဉ်များနှင့် ဗုံးကြဲလေယာဉ်သာတည်း။

ဤလေယာဉ်များသည် တစ်ဖက်ကမ်းရှိ ရန်သူ့စခန်းများ၊ တယ်လီဖုန်းအဆက်အသွယ်ကြိုးများကို တိုက်ခိုက်ဖျက်ဆီးပြီးနောက် အကယ်၍ ရန်သူ့လေယာဉ်များက ကျွန်တော်တို့ မြစ်ကူးနေစဉ် လာရောက်တိုက်ခိုက်ခဲ့လျှင် ပြန်လှန်တိုက်ခိုက်နိုင်ရန်ဖြစ်၏။

ကျွန်တော်တို့လေယာဉ်များသည် နိမ့်နိမ့်ကလေးပျံဝဲကာ တစ်ဖက်ကမ်းရှိ ရန်သူ့စခန်းများကို ဖြိုကြ၏။ ပေါက်ကွဲသံကြီးများ ဆက်၍ပေါ်ထွက်လာလေသည်။ ဝါးလုံးတိုင်များဖြင့် ၁၂ ပေ ၁၅ ပေခန့်မြင့်အောင် သွယ်တန်းထားသော တယ်လီဖုန်းကြိုးတန်းများ အောက်သို့ လဲပြို၍ကျသွားသည်။

ဒီဘန် ဦးစီးသော တပ်စု ၂ စုသည် တစ်ဖက်ကမ်းသို့ ဖြည်းဖြည်းချင်း ချဉ်းကပ်နေလေသည်။

ကျွန်တော်တို့လေယာဉ်ပျံများသည် ဧရာဝတီမြစ်ကမ်းတစ်လျှောက်တွင် လူးလာခေါက်တုံ့ ပျံသန်းရင်း ကျွန်တော်တို့အား လေကြောင်းမှ အကာအကွယ်ပေးနေကြ၏။ တစ်ဖက်ကမ်းတွင် တဝုန်းဝုန်းပေါက်ကွဲနေသော အသံများ ဆက်တိုက်အပေါ်နေပြီး မီးခိုးလုံးကြီးများနှင့် ဖုန်လုံးကြီးများ အပေါ်သို့တက်လျက်ရှိသည်။ တစ်ဖက်ကမ်းရှိ တောအုပ်မှာ ဗုံးဒဏ်ကြောင့် ပင်စည်ချည်းသာ

ကျန်နေတော့၏။

ဒိဘန်ဦးစီးသော တပ်စု ၂ စုသည် ပေ ၄၀ ခန့် မတ်စောက်သော ချောက်ကမ်းပါးကို တက်နေကြပေပြီ။ ၁၅ မိနစ်ခန့်အကြာတွင် အနီရောင် အချက်ပြမီးကျည်က သာယာသောနံနက်ခင်းတွင် ထင်လင်းစွာပေါ်လာသည်။

''ရန်သူ မတွေ့ရ၊ ရန်သူ့အရိပ်အရောင်လည်း မမြင်ရ၊ သာဂရရဲ့ လှည်းဘိုမှာလည်း ရန်သူမရှိ''

ဒိဘန်က လမ်းလျှောက်စကားပြောစက်မှနေ၍ ကျွန်တော်ထံသို့ သတင်းပို့လိုက်သည်။ သူ၏တပ်စု ၂ စုသည် ဟိုမှာဘက်ကမ်းတွင် နေရာယူထားပြီး ပေပြီ။

မြစ်ပင်းရောကို ကျွန်တော်တို့ အလုံးအရင်းဖြင့် ဖြတ်ကူးကြရပေတော့မည်။

တပ်မှူးဂျိုက အမှတ် ၃၀ စစ်ကြောင်းမှ တပ်မှူးကို ခေါင်းညိတ်၍ ပြလိုက်သည်။ မြစ်ကို စတင်၍ကူးနေပေပြီ။

သို့သော် မော်တော်ဘုတ်များ ပျက်လိုက်၊ ပြင်လိုက်၊ ကောင်းလိုက် ပျက်လိုက်ဖြစ်နေပြီး လားများက ကျယ်ပြန့်သော ရေပြင်ကြီးကို ကြောက်ကာ ရေထဲသို့ ဆင်းရန် ငြင်းဆန်နေကြသဖြင့် အခက်အခဲနှင့် တိုးနေရပြန်သည်။

အိုင်ရာလန် မင်းမျိုးမင်းနွယ်တစ်ဦး ဖြစ်သော်လည်း ရိုးရာစည်းကမ်း ကလနားကို ဆန့်ကျင်ကာ ဒုံးပေကာတ်သတ် နေထိုင်တတ်သော မိုက်ဂီလီကူဒီ သည် မြင်းတစ်ကောင်ကို ကုန်းနှီးမပါဘဲ တက်၍စီးလိုက်ပြီး ဆယ့်ငါးကောင် လောက်ရှိသော လားအုပ်တစ်အုပ်ကို ရေထဲသို့ ဆွဲ၍ခေါ်သွားသည်။ ရေကူး ကောင်းသော ရဲဘော်အချို့က လားလေးငါးကောင်ပေါ်သို့ တက်၍လိုက်ပါ လာကြ၏။

စက်နိုး၍ရသော မော်တော်တစ်စင်းက မြစ်အောက်ဘက်မှာနေ၍ ရေထဲ တွင် ခြေချော်လက်ချော်ဖြစ်ပြီး မျောပါလာမည့် လူနှင့်လားများကို ဆယ်ယူရန် အသင့်စောင့်နေသည်။

ဂီလီကူဒီ စီးစီးလာသောမြင်းသည် ရေနက်ထဲသို့ ရောက်လာပြီး စ၍ ကူးတော့သည်။

ကျွန်တော်တို့သည် အိန္ဒိယပြည်အလယ်ပိုင်းရှိ မြစ်များ၊ ကန်များတွင် လားများအား လူနှင့်အတူ ရေကူးနိုင်အောင် ကြိမ်ဖန်များစွာ လေ့ကျင့်ထား ခဲ့ကြ၏။

သို့သော် တကယ်ကူးရမည့်အချိန်သို့ ရောက်လာသောအခါတွင်ကား လားများသည် ဂိလိကူဒီ၏ မြင်းနောက်မှ ကူး၍မလိုက်ကြတော့ဘဲ ရေစုန်ဘက်သို့သာ မျှော၍လိုက်နေကြတော့၏။ အချို့သော လားများမှာ ဤကဲ့သို့ ရေထဲဆင်း၊ ရေစုန်မျှောလိုက်ရန်ပင် အဖော်ညှိ၍မရနိုင်အောင် ဖြစ်နေကြသည်။

သူ့နောက်မှ လားတစ်ကောင်မျှ ပါမလာသည်ကို တွေ့ရသော ဂိလိကူဒီသည် တဖျစ်တောက်တောက်ရေရွတ်ရင်း ကျွန်တော်တို့ရှိရာ အရှေ့ဘက်ကမ်းသို့ မြင်းကိုလှည့်၍ ပြန်လာရသည်။

ဂိလိကူဒီသည် သုံးလေးကြိမ်မျှ ဆက်၍ လားများ တစ်ဖက်ကမ်းသို့ ကူးအောင် ကြိုးစားသည်။ သို့သော် မအောင်မြင်။

ပဉ္စမနှင့် ဆဋ္ဌမအကြိမ်တွင်မူ ဂိလိကူဒီသည် ကျွန်တော်တို့စစ်ကြောင်းတွင် အကောင်းဆုံးဟု သတ်မှတ်ထားသော မဂ္ဂီအမည်ရှိ လားမကြီးကိုစီးကာ ရှေ့ဆုံးမှ ခေါင်းဆောင်၍ ကူးသည်။ သူ့နောက်မှ မော်တော်တစ်စင်းက လား ၂ ကောင်ကို ဖက်ကြိုးမှဆွဲ၍ ကူးသည်။ လားအကောင် ၂၀ ခန့် နောက်မှလိုက်ပါလာကြတော့၏။

ပထမတစ်သုတ်ကို တစ်ဖက်ကမ်းသို့ပို့ပြီးနောက် ဂိလိကူဒီသည် ကျွန်တော်တို့ဘက်သို့ ပြန်လာကာ ဒုတိယအသုတ်ကို ခေါ်ဆောင်သွားရန် စီစဉ်သည်။ မဂ္ဂီအမည်ရှိ လားမကြီးမှာ ရေဒီယိုစက်ကြီးတစ်လုံးကို ပေါ့ပေါ့ကလေး သယ်ယူနိုင်သည်။

ဖရန့်တန်နာခေါင်းဆောင်၍ မြစ်ကိုဖြတ်ကူးသော လားအုပ်မှာ ရေလယ်သို့ ရောက်ပြီးမှ ကျွန်တော်တို့ကမ်းဘက်သို့ ပြန်လာသည်။

'ဂျို'နှင့်တကွ ကျွန်တော်တို့အားလုံးမှာ စိတ်ပန်းကိုယ်ပန်း ဖြစ်နေကြ၏။ သည်နှုန်းအတိုင်းသာ လားများကို တစ်ဖက်ကမ်းသို့ ကူးပို့နေရမည်ဆိုလျှင် ဧရာဝတီမြစ်ကြီးကို တစ်လလောက် ဆက်၍ကူးနေရ မလို ဖြစ်နေလေသည်။

ကျွန်တော်တို့သည် နာရီလက်တံများ မြန်လှချေ၏တကားဟု ပင့်သက်ဖြာမိကြ၏။ အမှတ်(၃၀) စစ်ကြောင်းမှ လူအများအပြားပင် အနောက်ဘက်ကမ်းသို့ ရောက်ရှိပြီဖြစ်သော်လည်း ကျွန်တော်တို့ရှိရာ အရှေ့ဘက်ကမ်းတွင် လားများ၊ ကုန်းနီးများ၊ ရိက္ခာများ၊ ခဲယမ်းသေတ္တာများ၊ ကြိုးခွေများ၊ ရေဒီယိုစက်များဖြင့် ဗရပွ ရှုပ်ပွနေတော့၏။

အပိုခဲယမ်း၊ အပိုရိက္ခာနှင့် လားများ မပါဘဲ လူချည်း တစ်ဖက်ကမ်းသို့ ရောက်နေ၍ အကြောင်းမထူးလှ။

'ဂျို'ကတော့ ကျွန်တော့်အား တစ်ဖက်ကမ်းသို့ကူးပြီး အခြေအနေကို လေ့လာရန် စေလွှတ်လိုက်သည်။ ကျွန်တော်စီးနင်းလိုက်ပါလာသော မော်တော် ပေါ်တွင် လားထိန်းရဲဘော်အချို့ ပါလာ၏။ သူတို့သည် မော်တော်နံစောင်းပေါ် တွင် တင်ပါးတစ်ချက်ချ၍ထိုင်ရင်း ရုန်းရင်းဆန်ခတ်ဖြစ်နေသော လားများကို ဇက်ကြိုးမှဆွဲကာ တစ်ဖက်ကမ်းသို့ ခေါ်လာခဲ့ကြ၏။

မော်တော်သည် ရေနက်ရာသို့ ရောက်လာသောအခါ နောက်မှလိုက်ပါ လာသော လားများသည် ခြေထောက်ထောက်၍မမီသည့်အဖြစ်ကို သိရှိလာကြ သည့်အတိုင်း စတင်၍ ကူးခတ်လာကြလေသည်။

ကျွန်တော်စီးနင်းလိုက်ပါလာသော မော်တော်ဘုတ်နောက်မှ ပေနှစ်ဆယ် ခန့် အကွာအဝေးတွင် 'ဂီလီကူဒီ'သည် မဂ္ဂီအမည်ရှိသော လားမကြီးကို စီး၍ အခြားလားများကို ရှေ့ဆောင်လာသည်ကို တွေ့ရပြန်၏။ အခြားလား များသည် မဂ္ဂီ၏သတ္တိကို ယုံကြည်နေဟန်တူသည်။

မဂ္ဂီသည် တစ်မိုင်ခန့်ကျယ်သော ဧရာဝတီမြစ်ကြီးအား သုံးကြိမ်မြောက် ဖြတ်ကူးနေပေပြီ။

မဂ္ဂီ၏နောက်တွင် လားနှစ်ကောင်သည် ဦးခေါင်းမော့မော့ လည်ဆံကြော နှင့် ဝဲကတော့စိုင်းများရှိသော မြစ်ရောကို လှေငယ်ကလေးတစ်ခုပမာ အေးချမ်းစွာ ကူးဖြတ်နေကြ၏။

ပြောင်းဖူးရောင် အဝါရင့်နေသော သွားများကိုဖြီးကာ ခေါင်းတထောင် ထောင်ဖြစ်နေသော လားများကို မြစ်ထဲသို့ ဖြတ်ကူးနေသည်ကို မြင်နေရခြင်း မှာ မြွေနဂါးကြီးများကို ကြည့်နေရသည်နှင့် တူနေတော့၏။ ကျွန်တော်တို့ မော်တော်ဘုတ်သည် ရုတ်တရက်ရပ်တန့်သွားလျှင် နောက်မှလိုက်လာသော လားများသည် ကျွန်တော်တို့အား မော်တော်ပေါ်သို့တက်၍ ကိုက်စားလေမည် လားဟု ထင်နေရ၏။

ကျွန်တော်သည် ပေလေးဆယ်ခန့်မြင့်သော ဧရာဝတီကမ်းပါးကို ကျော် လွှား၍ တက်ခဲ့ပြီးနောက် ဤမှာဘက်ကမ်းရှိ ကျွန်တော်တို့တပ်များ အခြေ အနေကို လိုက်လံစစ်ဆေးသည်။

အားလုံး အခြေအနေကောင်းသည်ကို တွေ့ရ၏။ တစ်နာရီခန့်အကြာ တွင် ကျွန်တော်သည် အရှေ့ဘက်ကမ်းသို့ ပြန်၍ ကူးခတ်ခဲ့သည်။ မွန်းတည့် ချိန်နီးပြီဖြစ်၍ နေမှာ ပြင်းပြင်းတောက်ပူနေလေသည်။

တပ်မှူးဂျိုသည် ကေ ရာရှင်ဘူးကို ဖွင့်၍ နံနက်စာစားရင်း အခက်အခဲ

တွေ့နေရသော မြစ်ဖြတ်ကူးရေးကို ကျွန်တော်တို့နှင့် ဆွေးနွေးသည်။ ယခုအချိန်တွင် ရောဝတီအနောက်ဘက်ကမ်းသို့ ကျွန်တော်တို့စစ်ကြောင်းကြီးတစ်ခုလုံး ဖြတ်ကူးရောက်ရှိနေသင့်ပြီဖြစ်၏။

သို့သော် ပါလာသည့် လားကောင်ရေ ၂၄၀ နက် ၅ ပုံ ၁ ပုံခန့်သာ တစ်ဖက်ကမ်းသို့ ရောက်သေးသည်။ ဤနှုန်းအတိုင်းသာ ဖြတ်ကူးနေရလျှင် ယနေ့ည နေဝင်မိုးချုပ်သည့်အချိန်ကျပါမှ ဝန်တင်တိရစ္ဆာန် ၅ ပုံ ၂ ပုံ တစ်ဖက်ကမ်းသို့ ရောက်နေမည်ဖြစ်၏။ ညဘက်တွင် လားနှင့် မြင်းများသည် ကျယ်ပြန့်သောရေပြင်ကြီးကို ကူးလိုစိတ်မရှိကြောင်း ကျွန်တော်တို့အတွေ့အကြုံအရ သိပြီးဖြစ်၏။

ကျွန်တော်တို့သည် ယနေ့တစ်နေလုံး ရောဝတီမြစ်ကို ပြောင်ပြောင်တင်းတင်းကြီးပင် ဖြတ်ကူးလျက်ရှိရာ မြစ်အကြေဘက်မှလည်းကောင်း၊ မြစ်အညာဘက်မှလည်းကောင်း ကျွန်တော်တို့ ဖြတ်ကူးနေသည်ကို လေးငါးမိုင်အဝေးမှာပင် ထင်းခနဲတွေ့နေနိုင်သည်။

ယခုအချိန်တွင် ကျွန်တော်တို့ ဘာလုပ်နေသည်၊ ဘယ်နေရာတွင် လုပ်နေသည် ဆိုသည်ကို ဂျပန်များ သိနေပြီးဖြစ်မည်မှာ ယုံမှားစရာမရှိ။ သို့သော် သူတို့နှင့်လက်လှမ်းမီရာအရပ်တွင် အင်အားကောင်းသောတပ်ကြီးများ မရှိ၍သာ ကျွန်တော်တို့အား မတိုက်ဘဲ စောင့်ကြည့်နေခြင်း ဖြစ်ပေမည်။ ကျွန်တော်တို့ကသာ နက်ဖြန်အထိ ဆက်၍ကူးနေမည်ဆိုလျှင် စစ်ကူခေါ်ယူလိုက်သော ဂျပန်တပ်များသည် ကျွန်တော်တို့အား လာရောက်တိုက်ခိုက်နိုင်တော့မည်ဖြစ်၏။ ဤသို့လာရောက်တိုက်ခိုက်နိုင်ရုံမက ကျွန်တော်တို့နောက်သို့လည်း တကောက်ကောက်လိုက်၍ ဒုက္ခပေးနေပြီး ကျွန်တော်တို့နှင့် ဆုံရန်ချိန်းထားသည့် တပ်များ၏ ရှေ့လုပ်ငန်းစဉ်များကိုပါ သိရှိသွားတော့မည်ဖြစ်၏။

အရှေ့ဘက်ကမ်းတွင် ကျန်ရှိနေသောလူများကို မှောင်စမပျိုးမီ အနောက်ဘက်ကမ်းသို့ ကူးပို့နိုင်မည်ကား သေချာလှသည်။ သို့သော် လူချည်း တစ်ဖက်ကမ်းသို့ရောက်နေပြီး လက်နက်ကြီးများက သည်မှာဘက်ကမ်းတွင် ရှိနေမည်ဆိုလျှင် ဖြတ်ကူးခဲ့လေသမျှ အဟောသိက ဖြစ်ရပေတော့မည်။ လက်နက်ကြီးများသာမက အပိုရိက္ခာများ၊ အပိုခဲယမ်းများနှင့် ရေဒီယိုစက်ကြီးများပါ ဤမှာဘက်ကမ်းတွင် ကျန်ရှိနေဦးမည်ဖြစ်၏။ ဤပစ္စည်းများ တစ်ဖက်ကမ်းသို့ ရောက်သွားသည့်တိုင်အောင် ပြည့်စုံလုံလောက်သော လားများ မရှိဘဲနှင့် မည်သို့မျှ ဆက်လက်သယ်ယူမသွားနိုင်။

အဆုံးအဖြတ်ပေးရမည်မှာ ဘေးကျပ်နံကျပ်ဖြစ်နေလေသည်။

နေ့လယ် ၁ နာရီတိတိအချိန်တွင် တပ်မှူးဂျိုက ပြတ်ပြတ်သားသားပင် ဆုံးဖြတ်ချက်ပေးလိုက်၏။

ညနေ ၃ နာရီတွင် ဧရာဝတီမြစ်ဖြတ်ကူးသည့်အလုပ်ကို လုံးဝရပ်ပစ်လိုက်ရမည်။ အမှတ် ၄၀ စစ်ကြောင်းသည် ဧရာဝတီမြစ်ကို ဖြတ်ကူးခြင်း မပြုတော့ဘဲ အမှတ်(၄၉) နှင့် (၈၄) စစ်ကြောင်းများ ရောက်ရှိနေသော စိတ်လုံကမ်းပါးသို့ ချီတက်ရမည်။ အဆိုပါစစ်ကြောင်း ၂ ကြောင်းသည် ကျွန်တော်တို့ ဆင်းသက်ခဲ့သော ချောင်ရင်ဂီမှ စိန်လုံကမ်းပါးသို့ ၂ ရက်မျှစော၍ ချီတက်နှင့်ခဲ့ပြီဖြစ်ရာ ထိုစစ်ကြောင်း ၂ ကြောင်းကို အမှတ်(၄၀) စစ်ကြောင်းက နောက်မှလိုက်၍မီအောင် အတော်လုံးပန်းရပေမည်။

အမှတ်(၃၀) စစ်ကြောင်းနှင့် တပ်မဟာဌာနချုပ်တို့သာ တစ်ဖက်ကမ်းသို့ အရောက် ဆက်လက်၍ ကူးကြရပေတော့မည်။ ကျွန်တော်တို့တွင် လားများ ရှိသင့်သလောက် ရှိတော့မည်မဟုတ်။ အမှတ်(၄၀) စစ်ကြောင်းကိုလည်း ထိုက်သန်သမျှ ခွဲ၍ပေးရသည်။ ကျွန်တော်သည် စိတ်မော လူမော ဖြစ်နေရာ ကပင် လားများ နောက်ထပ်ပို့ရန် သတင်းရေးနေပြန်သည်။ ပြီးလျှင် အနောက်ဘက်ကမ်းသို့ကူး၍ အခြေအနေကို စစ်ဆေးကြည့်ရှုရသည်။ လူစွမ်း ကောင်းကြီး အိုင်ယာလန် မင်းမျိုးမင်းနွယ် ဂီလီကူဒီမှာ သန်မာထွားကျိုင်းသော လားတစ်ကောင်ဖြင့် ဧရာဝတီမြစ်ကြီးကို ဒဿမအကြိမ်မြောက် ဖြတ်ကူးရင်း နောက်မှ လားအုပ်တစ်အုပ်ကို ခေါ်ယူနေပြန်သည်။

အနောက်ဘက်ကမ်းသို့အရောက်တွင် ကျွန်တော်တို့သည် မော်တော်တုတ်များနှင့် မော်တာများကို ဖျက်ဆီးနှစ်မြှုပ်ပစ်လိုက်ကြ၏။

ဝန်တင်တိရစ္ဆာန်များ လျော့ပါးလာသည့်အတွက် ကျွန်တော်တို့သည် ဆေးပစ္စည်းများနှင့် အခြားစစ်အသုံးအဆောင်ပစ္စည်းများကို မျှ၍သယ်ပိုးကြ ရတော့သည်။

၃၆ နာရီတိုင်တိုင် တစ်မှေးမျှ မှေးစက်ခဲ့ခြင်း မရှိသောကြောင့် ကျွန်တော့်ကျောပေါ်မှ ဝန်ထုပ်ဝန်ပိုးမှာ ၁ တန်မျှ လေးနေသည်ဟု ထင်နေရ၏။

အရှေ့ဘက်ကမ်းသို့ မျှော်ကြည့်လိုက်သောအခါ ရန်သူရောက်လာသည့် အရိပ်အရောင်ကို မတွေ့ရ။ အမှတ် ၄၀ စစ်ကြောင်းမှာလည်း စိန်လုံကမ်းပါး ရှိရာ အရှေ့ဘက်စူးစူးသို့ ဧရာဝတီအနောက်ဘက်ကမ်းမှ ပြန်လှည့်ကာ

ချီတက်နေပေပြီ။

တပ်မှူးဂျိုက ခေါင်းညိတ်၍ပြလိုက်သည်နှင့်တစ်ပြိုင်နက် ကျွန်တော်က ချီတက်ရန် အချက်ပေးလိုက်သည်။ လေးလံသောဝန်ထုပ်ဝန်ပိုးကိုယ်စီဖြင့် ရှိနေကြသော စစ်သည်တော်များသည် ၃၆ နာရီလုံးလုံး အိပ်စက်ခြင်းမပြုခဲ့ရသောကြောင့် ထိုင်ရာမှ ယိုင်တိုင်တိုင် ထလာကြ၏။

ကျွန်တော်တို့စစ်ကြောင်းသည် စ၍ချီတက်နေပေပြီ။ ဧရာဝတီမြစ်ကြီးကို ယာဘက်တွင်ထားကာ ဂန့်ဂေါတောင်တန်းကြီးကို ဝဲဘက်တွင်ထားလျက် မြောက်ဘက်ရူးရူးသို့ ချီတက်ကြရ၏။

မှောင်စပျိုးလာသည့်အချိန်တွင် ကျွန်တော်တို့ချီတက်လာခဲ့သော လမ်းနှင့် ၂ ဖာလုံခန့်အကွာ ဧရာဝတီမြစ်ကြီးနှင့် တစ်မိုင်ခန့်အဝေးရှိ တောနက်ကြီးတစ်ခုထဲတွင် ညအိပ်စခန်းချလိုက်ကြ၏။

ကျွန်တော်နှင့် ဆိုက်ဖာအရာရှိတို့သည် ဌာနချုပ်မှ ကျွန်တော်တို့ထံသို့ ရိက္ခာများ လာရောက်ပေးပို့ပါ ဟူသောသတင်းကို ကြိုးမဲ့ကြေးနန်းဖြင့် ပေးပို့နိုင်ရန်အတွက် တစ်နာရီခန့် အလုပ်လုပ်ကြရသေးသည်။

မတ်လ ၁၄ ရက်နေ့ ည ၁၀ နာရီ...

◆

## အခန်း ( ၈ )

ရောဝတီကို ဖြတ်ကူးပြီးသည့်နောက် ၂ ရက်မြောက်သည့်ည...

ကျွန်တော်သည် အိပ်ရာမှ ဖျတ်ခနဲနိုးလာသည်။

ည ၃ နာရီပင်ရှိနေပေပြီ။

ကျွန်တော်သည် ရန်သူ့အသံဗလံများကို နားစွင့်လိုက်၏။ ဘာသံမျှ မကြားရ။

ကျွန်တော့်အနီးအနားတွင် အိပ်နေသော လူနှင့် လားများ၏ အသံတို့လည်း မကြား။ တောတိရစ္ဆာန်များ၏ အသံကိုလည်း မကြားရ။

ကျွန်တော်တို့သည် ဂန္ဓဝါတောင်တန်းကြီး၏ မြင့်သောတောင်ကြောင်းများတွင် စခန်းချရပ်နား အိပ်စက်နေကြခြင်းဖြစ်၏။ ပေ ၂၀၀ ခန့်ရှိသော ကညင်ပင်ကြီးများက ကျွန်တော်တို့စခန်းချရာ တစ်ဝိုက်ကို အုပ်မိုးထားကြ၏။ ပင်စည်များမှာ ဖြောင့်တန်းလျက်ရှိပြီး ပေ ၁၀၀ လောက် အရောက်တွင်မှ အောက်ဆုံးအကိုင်းတစ်ကိုင်း ရှိနေတတ်ပြီး ပေ ၂၀၀ ခန့်တွင်မူ အကိုင်းအခက် အလက် အရွက်တို့သည် ထီးကြီးများ အုပ်မိုးထားသကဲ့သို့ ဝေဝေဆာဆာ ရှိနေတော့၏။ ဖြူးဖြောင့်နေသော ကညင်ပင်စည်များအကြားမှ ကြည့်လိုက်လျှင် ကျွန်တော်တို့အောက်ဘက်ရှိ လူနှင့် လားများကို အတိုင်းသား မြင်နေရ၏။ အားလုံးပင် အသေကောင်များလို တုံးလုံးပက်လက် အိပ်စက်နေကြ၏။

တောတစ်ခုလုံးမှာ အပ်ကျသည်ကိုပင် ကြားနိုင်လောက်အောင် တိတ်ဆိတ်ငြိမ်သက်လှသည်။ ဤတိတ်ဆိတ်ငြိမ်သက်ခြင်းကပင် ကျွန်တော့်အား အိပ်ရာမှ နိုးစေခဲ့၏။ မြန်မာပြည်၏ ညသည် အံ့ဩဖွယ်ကောင်းနေပေသည်။

ပြည့်ပြည့်ဝန်းနေသော လမင်းကြီးသည် ကညင်ပင်ထိပ်များတွင် တွဲလဲခိုနေ၏။ ဘုရားလိုက်ဂူကြီးနှင့်တူနေသော ကျွန်တော်တို့အိပ်စက်ရာတစ်ဝိုက်တွင် မြူနှင်းများ ဝေ့နေ၏။ လပြည့်ဝန်း၏ ပတ်ဝန်းကျင်တွင် ရှိနေသော အင်ကြင်းပင် အကိုင်းအခက်များမှာ ပန်းချီကျော်တစ်ဦး၏ လက်ရာကဲ့သို့ပင် လှပတင့်ရွှန်းလျက်ရှိသည်။

ရွှေဝါရောင်ပြေးနေသော လမင်းနှင့် မြသွေးရောင်သွေးနေသော သစ်ခက်သစ်ရွက်များ...

ကျွန်တော်သည် ပြောင်းလဲလှုပ်ရှားနေသော သဘာဝပန်းချီကားချပ်ကြီးကို ငေးမျှော်ကြည့်နေမိလေသည်။

အရုဏ်တက်ချိန် နိုးလာသည်နှင့်တစ်ပြိုင်နက် ကျွန်တော်တို့သည် ခါတိုင်းလိုပင် လက်နက်ကိုယ်စီဖြင့် အသင့်ရှိနေကြပေပြီ။ ရန်သူရောက်လာတတ်သောအချိန်တည်း။ အတန်ကြာလျှင် တပ်သားအချို့အား နံနက်စာစားရန် ခွင့်ပေးလိုက်၏။

ရိက္ခာချပေးရန်အတွက် ဌာနချုပ်သို့ ကျွန်တော် ညွှန်းထားသော မြေပုံအမှတ်မှာ ရရ၂ ဖြစ်၏။ ကျွန်တော်တို့သည် ထိုနေရာသို့ အရောက် ချီတက်ကြရသည်။

ရိက္ခာချပေးမည့်နေရာတွင် ရန်သူ့အရိပ်အခြည် မတွေ့ရသော်လည်း ပေ ရ၀ မှ ၁၂၀ အထိမြင့်သော သစ်ပင်များ ရှိနေသောကြောင့်တစ်ကြောင်း၊ မြောက်ဘက်ရှိ တောင်များမှာ မြေပုံပေါ်တွင် မြင်ရသည်ထက် ပိုမိုမြင့်မားကာ ရိက္ခာလေယာဉ်များ ပျံဝဲရန်အတွက် အခက်အခဲရှိနေသောကြောင့်တစ်ကြောင်း၊ သို့ကြောင့် အိန္ဒိယရှိ လေတပ်ဌာနချုပ်သို့ ရိက္ခာချပေးရမည့် နယ်မြေအနေအထားကို ၁၅ မိနစ်ခန့် ကြို၍ သတင်းပို့ထားစေသည်။

လေယာဉ်များ ည ၈ နာရီခွဲတွင် ရိက္ခာများ လာရောက်ချပေးမည်ဖြစ်၍ မြေကြီးပေါ်တွင် အင်္ဂလိပ်စာလုံး 'L' အယ်လ်ပုံသဏ္ဍာန်ရှိသော တွင်းရှည်ရှည်ကြီးကို တူးကာ ထင်းများထည့်၍ထားရသည်။ လေယာဉ်များရောက်လာချိန်တွင် မီးဖို၍ အချက်ပြရန်တည်း။

ရိက္ခာချမည့်နေရာ တစ်ဖက်တစ်ချက်တွင် တပ်စုအချို့ကို ကတုတ်ကျင်း

များတူး၍ နေရာယူခိုင်းစေသည်။ အလယ်တွင်လည်း တပ်စုတစ်စုချထားသည်။ ပြီးလျှင် ကင်းထောက်အဖွဲ့များကို ရန်သူ့အသံဗလံများ နားထောင်ရန် ကင်းတိုစေလွှတ်ထားသည်။

အကယ်၍ ရန်သူက ကျွန်တော်တို့အား လေကြောင်းမှ လာရောက် တိုက်ခိုက်ပါမူ ကျွန်တော်တို့သည် မည်သို့မျှ တတ်နိုင်မည်မဟုတ်။

ကျွန်တော်တို့၏ စီ ၄၇ ဒါကိုတာလေယာဉ်များ ပျံဝဲလာသည်ကို မြင်ရသည်နှင့်တစ်ပြိုင်နက် ကျွန်တော်တို့သည် အယ်လ်ပုံသဏ္ဍာန်ရှိသော မီးပုံရှည်ကြီးကိုညှိ၍ အချက်ပြရတော့မည်ဖြစ်၏။ ဤအချိန်တွင် ညအမှောင်ကို အကာအကွယ်ပြုကာ ကောင်းကင်ထက်တွင် ပုန်းခိုနေသော ရန်သူ့လေယာဉ် များသည် ကျွန်တော်တို့၏ ရိက္ခာပို့လေယာဉ်များကိုသော်လည်းကောင်း၊ ကျွန် တော်တို့ကိုသော်လည်းကောင်း မြင်မြင်ထင်ထင်ကြီး တိုက်ခိုက်နိုင်ပေတော့မည် ဖြစ်သည်။

ကတုတ်ကျင်းထဲတွင် နေရာယူထားသော တပ်စုများအတွက် အန္တရာယ် မရှိလှသော်လည်း မြေပြင်တွင် မီးပုံမှ မီးရောင်ဖြင့် ဆလိုက်ထိုးထားသလို ဖြစ်နေသော လူနှင့် လားများမှာ အန္တရာယ်များလာပေတော့မည်။

လားသမားများသည် ရန်သူ့လေယာဉ်များက လာရောက်ပုံးကြဲတိုက်ခိုက် ချိန်တွင် လားများ လန့်၍မပြေးနိုင်အောင် ကောင်းစွာချည်နှောင်ထားကြ၏။

ရဲဘော်အချို့ကလည်း မီးပုံကို မီးငြိမ်း၍မသွားရအောင် ခွေ၍ရရှိလာ သော ထင်းများကို မီးပုံထဲသို့ အဆက်မပြတ်ထည့်ပေးရန် အသင့်ရှိနေကြ၏။

လေယာဉ်တစ်စင်းလျှင် ၂ တန်မှ ၃ တန်အထိရှိသော ပစ္စည်းများကို ရိက္ခာချမည့်နေရာပေါ်တွင် နာရီဝက်မျှ လူးလားပျံသန်း၍ပေးရမည်ဖြစ်ရာ လေယာဉ် ၃ စင်း လာမည်ဆိုသောကြောင့် ရိက္ခာချမည့်အချိန်ချည်း တစ်နာခွဲတိတိကြာနေမည်။ ရိက္ခာကောက်ဖို့ရန်ကား ထို့ထက် နာရီပေါင်း များစွာကြာမည်မုချ။

လေထီးဖြင့်ချပေးသော ရိက္ခာပစ္စည်းများမှာ ရိက္ခာကောက်သည့်နေရာနှင့် ၂ ဖာလုံခန့်အကွာအထိ သွားရောက်ကျနေတတ်သည်။ ဤကိစ္စကလည်း အချိန်ဖင့်မည့်ကိစ္စ ဖြစ်သည်။ ထို့ကြောင့် အလွယ်တကူ ကျိုးပဲ့ပျက်စီးနိုင်မည့် ပစ္စည်းများကိုသာ လေထီးဖြင့် ချပေးရန် စီစဉ်ထားသည်။

ည ၁၀ နာရီထိုးပြီးနောက် လေးငါးမိနစ်ခန့်ကျော်လာသောအချိန်တွင် စီ ၄၇ ဒါကိုတာလေယာဉ်များ၏အသံကို စ၍ကြားရလေသည်။ မကြာမီကပင်

လေယာဉ် ၃ စင်း ကျွန်တော်တို့ ခေါင်းပေါ်မှ ဖြတ်၍ ပျံသန်းသွားသည်ကို တွေ့ရ၏။

မီးဖိုကလေးတစ်ဖိုဘေးတွင် မတ်တတ်ရပ်နေသော တပ်မှူးဂျိုက အချက်ပြမီးဖိုကို မီးညှိလိုက်တော့ဟု အမိန့်ပေးလိုက်သည်။

ခဏအတွင်းတွင်ပင် ခြောက်သရောင်းနေသော သစ်ကိုင်းသစ်ခက်များမှ မီးလျှံကြီးများ ထ၍တောက်လာသည်။ မီးပုံ ၆ ပုံသည် ကောင်းကင်မှနေကြည့်လျှင် အင်္ဂလိပ်စာလုံးအယ်လ်ပုံသဏ္ဍာန်ရှိနေပေပြီ။ ဤမီးပုံများမှ ထင်ဟပ်လာသောမီးရောင်ကြောင့် သစ်ပင်များနှင့် လူများသည် အထင်းသားပေါ်လွင်နေကြ၏။ တပ်မှူးဂျို၏ မျက်မှန်နှစ်ဖက်မှာလည်း မီးရောင်ကြောင့် တဝင်းဝင်းတောက်နေလေသည်။

လေယာဉ်ပျံများ ခဏမျှ ပျောက်သွားသည်၊ သစ်ကိုင်းများကို တဖျစ်ဖျစ် မီးလောင်နေသံသာ စိုးမိုးနေ၏။ မကြာမီပင် ရိက္ခာချပေးမည့် လေယာဉ်များ ကျွန်တော်တို့ရှိရာသို့ ပြန်လှည့်လာကြ၏။

စစ်ဖိနပ်များ၊ စစ်ဝတ်စုံများ၊ ဝန်တင်တိရစ္ဆာန်များအတွက် အစာများကို လေထီးမပါဘဲ သည်အတိုင်းချပေးလျက်ရှိရာ ကျွန်တော်တို့ရှိနေသည့် နေရာတစ်ပိုက်တွင် တဗုန်းဗုန်း တအုံးအုံးနှင့် ဆူညံနေလေသည်။

လေထီးဖြင့်ချပေးလိုက်သော ပစ္စည်းအတော်များများမှာ သစ်ပင်သစ်ကိုင်းများနှင့် ငြိကာ တွဲလောင်းကြီးများဖြစ်နေကြ၏။ ကြက်သွေးရောင်၊ အဝါရောင် အပြာရောင်ရှိသော လေထီးများသည် မီးရောင်ဖြင့် ကြည့်၍ကောင်းနေသည်။ ရောင်စုံပွင့်သောပန်းများ ညအချိန်တွင် ကောင်းကင်မှ ကျလာနေသကဲ့သို့...

ကျောပြောင်နှင့် ဂေါ်ရခါးရဲဘော်များက သစ်တုံးကြီးများကို မီးပုံကြီးများအတွင်းသို့ ပစ်သွင်းနေကြ၏။ မီးအလျှံသည် ပေ ၃၀ အထိပင် ကောင်းကင်သို့ ထိုးထွက်လာလေသည်။

လေယာဉ်များမှာ နိမ့်နိမ့်ပျံ၍ ရိက္ခာချပေးခြင်းဖြစ်ရာ ကောင်းကင်သို့ ထိုးတက်လာသော မီးအလျှံများကြောင့် ဓာတ်ဆီတိုင်ကီများ ပူလာကာ ဝီးလောင်ပေါက်ကွဲလာမည်ကို စိုးရိမ်နေရသည်။ ဂျိုက နောက်ထပ်ထင်းတုံးများ ...ည့်ရန် အမိန့်ပေးလိုက်၏။

ရိက္ခာကောက်သည့် ကွင်းပြင်တစ်ခုလုံးမှာ သယ်သူ၊ ပိုးသူ၊ ဖြုတ်သူ၊ ထမ်းသူများဖြင့် ပွဲဈေးတန်းကြီးတစ်ခုလို စည်ကားနေလေသည်။ ဂေါ်ရခါးရဲဘော်ကလေးတစ်ယောက်က မီးပုံထဲသို့ ဝါးပိုးဝါးများ ပစ်ထည့်လိုက်သော

ကြောင့် ပေါက်ကွဲပေါ်ထွက်လာသောအသံမှာ လက်ပစ်ဗုံးသံများနှင့် တူနေသည်။

ကျွန်တော်သည် ရိက္ခာချပေးနေသည့်နေရာ တစ်ဖက်တစ်ချက်ရှိ တပ်စုများကို သွားရောက်စစ်ဆေးကာ ရိက္ခာများ ကောက်ယူစုပုံထားသော နေရာသို့ လာခဲ့ပြီး စီးကရက်တစ်လိပ်ကို မီးညှိလိုက်သည်။

တတိယမြောက်လေယာဉ်က ရိက္ခာများချပြီးဖြစ်၍ အိန္ဒိယသို့ပြန်တော့မည် ဖြစ်ကြောင်း သတင်းပို့သည်။ ကျွန်တော်တို့နှင့်အတူရှိနေသော လေတပ်ဗိုလ်ကလေး ချက်စတီက ကျွန်တော့်တို့ကို တပ်မဟာမှ ကျေးဇူးတင်ကြောင်းစကားကို တစ်ဆင့်ဖောက်သည်ချလိုက်သည်။

ရိက္ခာချသည့်ကဏ္ဍက ပြီးဆုံးသွားပြီဖြစ်သော်လည်း ကောက်ယူရရှိလာသည့် ရိက္ခာပစ္စည်းများကို တပ်ဖွဲ့အလိုက် ပြန်လည်ဝေငှပေးရမည့် ကဏ္ဍက ကျန်နေသေးသည်။

အော်ဒလီအရာရှိဖြစ်သူ ဖရန့်စ်ဘိန်းက လေယာဉ်မှချပေးသည့် ရိက္ခာပစ္စည်းများအနက် ရာခိုင်နှုန်း ၃၀ ခန့်မှာ အပြင်ဘက်သို့ ကျရောက်သွားသည်ဟု ခန့်မှန်းသည်။ ကွင်းအတွင်းသို့ကျသော ရိက္ခာပစ္စည်း ၇၀ ရာနှုန်းအနက် သုံးပုံတစ်ပုံခန့်မှာ သစ်ပင်ထိပ်ဖျားများတွင် တွဲလောင်းကြီး ဖြစ်နေသည်။

ကျွန်တော်တို့သည် ဝေစုရသော ရိက္ခာပစ္စည်းများကို စစ်ကြောင်းအလိုက် ထုပ်ပိုးကြပြီးနောက် ည ၂ နာရီအချိန်တွင် ရိက္ခာကောက်ယူသည့် စခန်းမှ ခြေရာဖျောက်၍ ထွက်လာကြရန် စီစဉ်ထားသည်။

၂ နာရီထိုးရန် ၅ မိနစ်အလိုတွင် အရှေ့ဘက်၌ချထားသော တပ်စု ရောက်ရှိလာပြီဖြစ်ကြောင်း သတင်းရရှိသည်။ ၂ နာရီတိတိအချိန်တွင် ဆက်၍ ချီတက်ခဲ့ကြရ၏။ အနောက်ဘက်စူးစူးသို့တည်း။

ကျွန်တော်တို့သည် နာရီဝက်ခန့် ခြေရာဖျောက်၍ ချီတက်ခဲ့ပြီးနောက် ရန်သူများ ရောက်လာနိုင်ရန် ခဲယဉ်းသည့်နေရာတစ်ခုတွင် စခန်းချ ရပ်နားလိုက်ကြ၏။

ကျွန်တော်တို့သည် မှောင်စပျိုးချိန်တွင်လည်းကောင်း၊ နေပူပြင်းနေသည့် နေ့လယ်နေ့ခင်းတွင်လည်းကောင်း အမြဲရပ်နားလေ့ရှိသည်။ ထို့ကြောင့် မှောင်နှင့်မည်းမည်းထဲတွင်ဖြစ်စေ၊ ချောင်းမြောင်းထူထပ်သည့်နေရာတွင်ဖြစ်စေ၊ တောတောင်များ မတ်စောက်သည့်နေရာတွင်ဖြစ်စေ ခရီးပြင်းချီတက်နိုင်ရန်

လေ့ကျင့်၍ထားခဲ့ကြ၏။ စခန်းရပ်နားချိန်၌ သစ်ပင်တစ်ပင်သည် ကျွန်တော်တို့၏ တပ်မဟာဌာနချုပ်ဟူသော အဓိပ္ပာယ်ကိုဆောင်၏။ ဒုတိယမြောက်သစ်ပင်တစ်ပင်သည် အချက်ပြဆက်သွယ်ရေးဌာန ဟူသော အဓိပ္ပာယ်ကိုဆောင်၏။

နေ့လယ်ဘက်တွင် ရပ်နားသည်ဖြစ်စေ၊ ညဘက်တွင် စခန်းချအိပ်စက်သည်ဖြစ်စေ ဤသစ်ပင် သုံးပင်သည် ကျွန်တော်တို့အတွက် အချက်အချာနေရာများ ဖြစ်နေကြသည်။

ကျွန်တော်တို့ ဆက်လက်ချီတက်လာစဉ်အတွင်း မဲဇာမြစ်ကမ်းပေါ်သို့ ရွှေမောင်းကန်အနီးတွင် လေယာဉ်ပြေးလမ်းကြောင်းကလေးတစ်ခုလုပ်၍ ဂလိုက်ဒါဖြင့် ဆင်းသက်လာသော ဘရူကာလက်နက်ကိုင်အဖွဲ့ တစ်ဖွဲ့ကို လက်ခံကြိုခဲ့ရသေးသည်။ ဤတပ်ကလေးသည် မန္တလေး–မြစ်ကြီးနား ရထားလမ်းကို ဖောက်ခွဲဖျက်ဆီးရန်အတွက် တောင်ဘက်သို့ ဆက်လက်ထွက်ခွာသွားသည်။

ကျွန်တော်တို့သည် တပ်ချင်းဆုံရန် ချိန်းဆိုထားသည့်နေရာသို့ တဖြည်းဖြည်း ချဉ်းကပ်လာခဲ့ကြသည်။ ကျွန်တော်တို့တွင်ပါလာသော မြေပုံများမှာ ယခုရောက်ရှိလာသည့် နယ်မြေအနေအထားကို ဖော်ပြရာ၌ ရှုပ်ရှုပ်ထွေးထွေးဖြစ်နေသဖြင့် မှန်းသလောက် ခရီးမတွင်နိုင်။ တောထဲတွင် တစ်ခါတစ်ရံ တွေ့ရသော မြန်မာအမျိုးသားများအား ခရီးလမ်းပန်းအဆက်အသွယ်ကို မေးမြန်း ရသည်။ ရန်သူ့သတင်းကို ထောက်လှမ်းရသည်။

မက်ဟာဆင်၊ ဓာလာဒါ၊ စမစ် သို့မဟုတ် ဟယ်ဒလီတို့က အမြဲတမ်း မြန်မာစကားဖြင့် မေးမြန်းတတ်ကြသည်။ ကျွန်တော့်မှာ မြန်မာစကားနားလည်သူ မဟုတ်သော်လည်း သူတို့မေးနေကျမေးခွန်းကို နားရည်ဝနေသောကြောင့် အဓိပ္ပာယ်ကို နားလည်နေသည်။

"အနီးဆုံးရွာကို ဒီလမ်းကသွားရင် ရောက်တယ်၊ ရွာသစ်ကလေးမှာ ဂျပန် ၁၀ ယောက်ရှိတယ်၊ ငါးပိကုန်းမှာ ၁၀၀ ရှိတယ်၊ ယင်းတိုက်ချောင်းမှာ ရေမရှိ။

ဤကား...ဓာလာဒါထံမှတစ်ဆင့် ကျွန်တော် လုံးစေ့ပတ်စေ့ နားလည်သော သတင်းတည်း။

မတ်လ ၂၀ ရက်နေ့တွင် ကျွန်တော်တို့သည် မန္တလေး–မြစ်ကြီးနား ရထားလမ်းကို ဖြတ်ကျော်ကြပြီးနောက် ထိုနေ့ညတွင်ပင် အခြားတပ်မဟာမှ စစ်ကြောင်းများသို့ ရေဒီယိုအဆက်အသွယ်လုပ်ပြီး တပ်ချင်းဆုံမည့်နေရာ

နေ့ရက်တို့ကို အချိန်းအချက်ပြုလုပ်ကြ၏။

ကျွန်တော်တို့သည် မတ်လ ၁၄ ရက်နေ့တွင် နဂိန်ချောင်း၏ ချောင်းကွေ့၌ တပ်ချင်းဆုံရန် အတည်ပြုလိုက်ကြသည်။ မြေပုံအညွှန်း ၄၇၇၇၃၀ ... မတ်လ ၂၂ ရက်နေ့တွင် ကျွန်တော်တို့သည် ရှေ့သို့ သတိထား၍ ဖြည်းဖြည်းချင်း ချီတက်ခဲ့ကြ၏။ အင်ဂျင်နီယာတပ်ဖွဲ့မှ ရဲဘော်အချို့က နဂိန်ချောင်းပေါ်ရှိ မီးရထားတံတားကို ဖောက်ခွဲပစ်နိုင်ရန်အတွက် သွားရောက်စုံစမ်း လေ့လာကြသည်။

မတ်လ ၂၃ ရက်နေ့သို့ ရောက်သောအခါ ကျွန်တော်တို့အတွက် ရိက္ခာများ ထပ်၍ရောက်လာသည်။

မတ်လ ၂၄ ရက်နေ့တွင် ကျွန်တော်တို့သည် နဂိန်ချောင်းကွေ့သို့ ရောက်လာကြပြီးနောက် အခြားစစ်ကြောင်းများနှင့် ဆုံမိကြ၏။ ဘရော့ဒ်ဝေးမှ ခရီးအဝေးချည်း ချီတက်လာသော စစ်ကြောင်းများတည်း။

တပ်မှူးကျို့သည် အိန္ဒိယတွင် သင်တန်းတက်နေစဉ်က စစ်သည်တော်များအား မုတ်ဆိတ်မွေးထားရန် ခွင့်မပြုခဲ့သော်လည်း မြန်မာပြည်သို့ ဝင်ရောက်လာသည့်အချိန်တွင်မူ သက်ဆိုင်ရာတပ်မှူး၏ဆန္ဒအရ မုတ်ဆိတ်မွေးထားလိုသူ ထားခွင့်ပေးလိုက်၏။

ကျွန်တော်တို့သည် မုတ်ဆိတ်မွေးဖွားဖွားဖြင့် တကယ့်တောသွင်းသား အသွင်ကို ဆောင်နေသော ခြင်းဒစ်တပ်သား အတော်များများကို တွေ့နေရလေ၏။

ကျွန်တော်တို့သည် ဝိုင်းဖွဲ့၍ထိုင်ကြရင်း မိမိတို့စစ်ကြောင်းများမှ တွေ့ခဲ့ရသည့် ဒုက္ခသုက္ခနှင့် စွန့်စားမှုများကို စားမြုံ့ပြန်နေမိကြ၏။ စစ်ကြောင်းတစ်ကြောင်းမှာ မဲဇာ အညာပိုင်းတွင် ရန်သူ့တပ်ဖွဲ့တစ်ခုနှင့် ဝင်၍တိုးမိပြီး ရန်သူအတော်များများကို သုတ်သင်နိုင်ခဲ့သည်။ အခြားစစ်ကြောင်းတစ်ကြောင်းမှာ ရန်သူမသိအောင် လစ်ထွက်လာနိုင်ခဲ့၏။ ကျွန်တော်တို့ကား မည်သည့်ရန်သူနှင့်မျှ မတွေ့ရသေး။

သို့သော် ယခုရောက်ရှိလာသည့်နေရာမှနေ၍ ကျွန်တော်တို့၏ အမှတ် (၁၁၁) တပ်မဟာသည် ရန်သူဂျပန်တို့၏ ရထားလမ်းနှင့် ကားလမ်းဆက်သွယ်ရေး လမ်းကြောင်းများကို ဖြတ်တောက်ရင်း ရန်သူနှင့် စတင်ရင်ဆိုင်ရပေတော့မည်။

မတ်လ ၂၅ ရက်နေ့တွင် တပ်ဖွဲ့သားအချို့က နဂိန်ချောင်းပေါ်ရှိ

မီးရထားတံတားကို ဖောက်ခွဲဖျက်ဆီးပစ်လိုက်ကြ၏။ ဤနှင့် ကျွန်တော်တို့သည် ချုံခိုတိုက်ခိုက်ရေး အစီအစဉ်များ၊ ဖောက်ခွဲဖျက်ဆီးရေး အစီအစဉ်များ၊ ဝိုင်းဝန်းတိုက်ခိုက်သည့် အစီအစဉ်များကို စီစဉ်ကြရတော့၏။

ကျွန်တော်တို့သည် နဂိန်ချောင်းကွေ့တွင် အိန္ဒိယမှ ရိက္ခာများကို ထပ်၍ မှာယူကြပြန်သည်။ တိုက်ပွဲဝင်မည့် ရဲဘော်များအတွက် ရိက္ခာနှင့် ခဲယမ်းများ လုံလုံလောက်လောက် ရှိနေစေရန်တည်း။

ကျွန်တော် လေယာဉ်မှချပေးသော ရိက္ခာဘူးများမှာ ပို၍လတ်ဆတ်မည်ဟု အထင်ရှိပြီး ညစာအတွက် ယခုမှရောက်လာသော ဘူးအချို့ကို ဖောက်ပြီး မြည်းကြည့်လိုက်၏။

စက္ကူစုတ်များကို ပြုတ်၍စားရသကဲ့သို့တည်း။

ကျွန်တော်သည် အလွန်ဆာလောင်မွတ်သိပ်လျက်ရှိသည်။ သို့သော် ရိက္ခာဘူးမှ အစားအစာများမှာ စက္ကူစုတ်ကို ရေလုံပြုတ်၍ထားသလို ဖြစ်နေလေသည်။

မြန်မာပြည်အတွင်းသို့ ဖောက်ထွင်းဝင်ရောက်ခဲ့သည်မှာ ၁၆ ရက်တင်းတင်းပြည့်ခဲ့ပြီ၊ တစ်နေ့လျှင် ရိက္ခာဘူး သုံးဘူးစီ စားလာခဲ့သော ကျွန်တော်သည် စုစုပေါင်း ၄၈ ဘူးကို ဖွင့်၍စားလာခဲ့ရပြီဖြစ်၏။ အစားအစာ တစ်မျိုးတည်းကို ၁၆ ရက်တိုင်တိုင် နေ့ရော ညပါ စားခဲ့ရသောသူတစ်ယောက်သည် ထိုအစာကို အဘယ်မှာလျှင် အာဟာရတွေ့နိုင်ပါတော့မည်နည်း။

အကယ်၍သာ ကျွန်တော်တို့တိုက်ပွဲစဉ်သည် နောက်ထပ် ရက်ပေါင်း ၈၀ ခန့် ကြာခဲ့သော်...

ကျွန်တော်သည် စက္ကူစုတ်လို အရသာတွေ့နေသော ရိက္ခာဘူးမှ အစားအစာများကို နွားတစ်ကောင် ကောက်ရိုးဝါးနေသကဲ့သို့ ဝါးနေစဉ်...

"ဗိုလ်မှူး...ခရမ်းချဉ်သီးအစိမ်းကလေးများ စားမလား"ဟု အင်္ဂလိပ်-ကပြား ထောက်လှမ်းရေးအရာရှိဖြစ်သူ စမစ်က လက်တစ်ဆုပ်စာလောက်ရှိသော ခရမ်းချဉ်သီးအလုံးကလေးများကို ကျွန်တော့်အား လှမ်းပေးရင်းပြောလိုက်သောအခါ ကျွန်တော့်မှာ ရွှေထုပ်ကြီးကို ကောက်ရသလို ဝမ်းသာသွားမိ၏။

"ကျွန်တော့်မှာ ထမင်းချက်ပြီးသားလည်း နည်းနည်းရှိတယ် ဗိုလ်မှူး" ဟု ပြောရင်း စမစ်က ပူပူနွေးနွေးရှိနေသော ထမင်းတစ်ပန်းကန်စာကို ကျွန်တော့်ရှေ့သို့ ထိုးပေးလိုက်၏။

ရိက္ခာခြောက်များကို ၃၂ နပ်တိုင်တိုင် စားလာခဲ့ရသော ကျွန်တော့်မှာ ထမင်းပူပူကလေးနှင့် ခရမ်းချဉ်သီးမှည့်မှည့်ကလေးများကို ရောစပ်၍စားလိုက်ရသောအခါ နတ်သုဒ္ဓါကို စားရသလို ခံတွင်းတွေ့နေလေသည်။

အရာသာရှိသောထမင်းကို ဗိုက်ကလေးတင်းသွားအောင် စားလိုက်ရသဖြင့် မျက်စိများမှေးလာသည်။ ကျွန်တော်သည် စစ်ဖိနပ်နှင့် သိုးမွေးခြေအိတ်တို့ကို ချွတ်ကာ ကျွန်တော့်ခြေရင်းဘက်တွင် ချထားလိုက်သည်။ ထို့နောက် ကျွန်တော့်ကာဘိုင်နှင့် ကျည်ဆန်အိတ်များကို ကျွန်တော့်ညာဘက်တွင် ချထားလိုက်၏။

ကျွန်တော်သည် ခါးမှ ခါးပတ်ကို လျှော့ချလိုက်ပြီး ဂေါ်ရခါးဦးထုပ်ကိုလည်း ကာဘိုင်သေနတ်ပေါ်တွင် တင်ထားလိုက်၏။ ထို့နောက် မှေးနေသောမျက်စိကို ပိတ်၍ အိပ်တော့မည်ဟု စိတ်ကိုဖုံးဖုံးချလိုက်စဉ် အချက်ပြဆက်သွယ်ရေး တပ်ဖွဲ့မှ စစ်သားတစ်ယောက် ကျွန်တော့်ဘေးနားသို့ ရောက်လာပြီး...

''ဌာနချုပ်က သတင်းလာတယ် ဗိုလ်မှူး...''ဟု ခပ်တိုးတိုးပြောလိုက်သည်။

ကျွန်တော်သည် အိပ်ရာဘေးနားမှ လက်နှိပ်ဓာတ်မီးကို ကောက်ယူလိုက်ပြီး သတင်းကို ဖတ်ကြည့်လိုက်သည်။

''ဗိုလ်ချုပ်ဝင်းဂိတ် လေယာဉ်ပျက်ကျ၍ ဆုံးပြီ၊ သူ့ရာထူးကို ဆက်ခံရန် ဗိုလ်မှူးချုပ်'ဂျီ' အိန္ဒိယသို့ အမြန်ဆုံးသတင်းပို့''

ဌာနချုပ်မှ ရောက်ရှိလာသော သတင်းသည် ကျွန်တော်တို့ အမှတ်(၁၁၁)တပ်မဟာကြီး စစ်ဆင်ရေးကဏ္ဍတွင် အပြောင်းအလဲကြီး ပြောင်းလဲစေခဲ့၏။

ဂျပန်စစ်တပ်ကြီးသည် အင်ဖာကို အကြီးအကျယ် စတင်၍ ထိုးစစ်ဆင်နေလေသည်။

ကျွန်တော်တို့သည် အင်ဖာသို့ အလုံးအရင်းဖြင့် ချီတက်နေသော ဂျပန်တပ်များအား နောက်မှနေ၍ ရိက္ခာမထောက်နိုင်အောင် တိုက်ခိုက်ကြရပေတော့မည်။ ဂျပန်တို့၏ ဆက်သွယ်ရေးလမ်းကြောင်းများကို ကျွန်တော်တို့က ပင်လယ်ဘူးဒေသတစ်ဝိုက်တွင် အခြေစိုက်၍ တိုက်ခိုက်ရမည် ဖြစ်သည်။ ယခု ကျွန်တော်တို့၏ ရောက်ရှိနေသောနေရာနှင့် ၄၅ မိုင်ခန့်ကွာ၍ အနောက်မြောက်ဘက်ကျသောနေရာတည်း။

ကျွန်တော်သည် ခြေအိတ်နှင့် ဖိနပ်ကို ကောက်၍စွပ်လိုက်ပြီး ခြင်းဒစ်

တပ်မွဲကြီး၏ ဗိုလ်ချုပ်အသစ်ဖြစ်လာသော တပ်မှူး 'ဂျို'ရှိရာသို့ လျှောက်လာခဲ့၏။

'ဂျို'သည် ကျွန်တော်နှင့် ပေ ၂၀ လောက်သာကွာသော သစ်ပင်မြင့်မြင့်ကြီး တစ်ပင်အောက်တွင် အိပ်မောကျ၍နေလေသည်။

◆

## အခန်း ( ၉ )

'ဂျို'သည် ဌာနချုပ်မှရောက်လာသော သတင်းကို ဖတ်ပြီးလျှင်ပြီးချင်း နက်ဖြန်အတွက် စီစဉ်ထားသော စစ်ဆင်ရေးအစီအစဉ်ကို ပယ်ဖျက်လိုက်ပြီး နောက်ထပ် စကားတစ်ခွန်းမျှမပြောတော့ဘဲ တစ်ဖက်သို့လှည့်၍ အိပ်လိုက်၏။

ကျွန်တော်သည် ဌာနချုပ်မှရောက်လာသော သတင်းကို သက်ဆိုင်ရာ တပ်မှူးများ သိရှိအောင် လက်ဆင့်ကမ်းလိုက်ပြီးနောက် ကျွန်တော့်အိပ်ရာပေါ် တွင် ပြန်၍လှဲအိပ်လိုက်၏။

သို့သော် အိပ်၍မပျော်။

ဗိုလ်ချုပ်ဝင်းဂိတ် လေယာဉ်ပျက်ကျသေဆုံးသည် ဆိုသည်မှာ ယုံရခက် သလို ဖြစ်နေလေသည်။ ဝင်းဂိတ်သည် သူ၏ထူးခြားမှုဖြင့် တိုက်ပွဲဝင်နေသည် ဖြစ်ရာ သူ သေသွားသည့်တိုင်အောင် သူ့'မူ'ကား မသေမပျောက်ဘဲ ဆက်လက်ရှင်သန်နေမည်သာဖြစ်၏။

နောက်တစ်နေ့နံနက်တွင် ကျွန်တော်သည် အရုဏ်မတက်မီကပင် အိပ်ရာက နိုးနေသည်။ ကျွန်တော့်စိတ်မှာ တာဝန်သစ်အတွက် ရတက်ဖော်ပြ နေသည်။

အင်ဖာမှ အရှေ့ဘက်ရှိ မြန်မာပြည်သို့ ကျွန်တော်တို့ လေကြောင်းဖြင့် ချီတက်လာခဲ့စဉ် ဂျပန်တို့၏ အမှတ်(၁၅) တပ်မတော်သည် အင်ဖာနှင့် ကိုဟီမားသို့ အပြင်းချီတက်နေလေသည်။

ကျွန်တော်တို့၏ တာဝန်သစ်မှာ မြန်မာပြည်မြောက်ဘက်ရှိ ''ဝေဘီးဝဲလ်'' ဦးစီးနေသော စစ်မျက်နှာမှ မြန်မာပြည်အလယ်ပိုင်းရှိ ဗိုလ်ချုပ်ကြီးဆလင်း ဦးစီးသော စစ်မျက်နှာသို့ လွှဲပြောင်းရောက်ရှိလာသော တာဝန်ပင်ဖြစ်သည်။

သဘောတရားရေးအရ ကျွန်တော်တို့တာဝန်သည် ပြောင်းလဲခြင်းမရှိ။ ကျွန်တော်တို့၏ မူလတာဝန်မှာလည်း ဂျပန်တို့၏ ဆက်သွယ်ရေးလမ်းကြောင်းများကို ဖျက်ဆီးဖြတ်တောက်ရန်ပင်ဖြစ်၏။

သို့သော် ကျွန်တော်တို့သည် အသစ်ရောက်ရှိလာသော တပ်မဟာမှူးနှင့် ဆက်၍ အလုပ်လုပ်ကြရတော့မည်ဖြစ်၏။

ခြင်းဒစ်တပ်ဖွဲ့ကြီးအနေနှင့် အသင့်ပြင်ဆင်ထားသော ရန်သူ့ခံစစ်ကြောင်းများကို အမြောက်တပ်နှင့် တင့်ကားများမပါဘဲ တိုက်ခိုက်ထိုးဖောက်ရန် စီစဉ်ထားခြင်းမှာ ဝန်နှင့်အား၊ လေးနှင့်မြား မမျှဟု ကျွန်တော်တို့က ထင်နေမိ၏။ ဤကဲ့သို့သောအစီအစဉ်မှာ တစ်ခါတစ်ခါတွင် အောင်ပွဲဆင်နိုင်သည်ကို တွေ့ရှိရမည်ဖြစ်သော်လည်း ရရှိသော ရလဒ်နှင့် ကုန်ဆုံးရသော အရှုံးကို စာရင်းတွက်ကြည့်လျှင် အရှုံးက ပိုနေတတ်သည်။

ယခုမူ ခြင်းဒစ်တပ်ဖွဲ့ကြီး၏ တစ်စိတ်တစ်ဒေသဖြစ်သော ကျွန်တော်တို့ တပ်မဟာသည် ကျွန်တော်တို့ ခံယူထားသော သေနင်္ဂဗျူဟာအရ လွတ်လွတ်လပ်လပ်ကြီး စစ်ဆင်နိုင်ပေတော့မည်။

ကျွန်တော်တို့က တိုက်ချင်သည့်နေရာ၊ တိုက်ချင်သည့်အချိန်တွင် ရန်သူက လာတိုက်အောင် စေ့ဆော်ဖန်တီးပေးပြီး ကျွန်တော်တို့က ဆက်လက်မတိုက်လိုသောအချိန်တွင် ရန်သူက ကျွန်တော်တို့အား ရှာ၍မတွေ့အောင် ဆောင်ရမည့် သေနင်္ဂဗျူဟာတည်း။

ယခု ကျွန်တော်တို့ တာဝန်ယူထားရသော ပင်လယ်ဘူးကို ဝင်းဂိတ်၏ 'နည်း'ဖြင့် ဝင်ရောက်တိုက်ခိုက်သိမ်းယူနိုင်မည်ဟု ယုံမှားစရာမရှိ၊ သို့သော်... လူ ၃၀၀ ခန့်ကျဆုံးပြီး ၁၀၀၀ ခန့် ထိခိုက်ဒဏ်ရာရစရာရှိသည်။

ကျွန်တော့်'နည်း'ဖြင့် တိုက်ခိုက်ခဲ့ပါမူ လူ ၁၀၀ ခန့်သာ ကျဆုံးပြီး ၂၀၀၀ ခန့် ထိခိုက်ဒဏ်ရာရနိုင်သည်။

ပင်ဘယ်ဘူးမှာ ဂျပန်တို့အချက်အချာနေရာတစ်ခု ဖြစ်သည့်အတိုင်း ကျွန်တော်တို့က ရိက္ခာဂိုဒေါင်များ၊ လက်နက်တိုက်များကို ဖောက်ခွဲဖျက်ဆီးကာ ဆက်သွယ်ရေးလမ်းကြောင်းများကိုလည်း ဖြတ်တောက်ပစ်ရမည်ဖြစ်၏။

ကျွန်တော့်'နည်း'မှာ ဤသို့တည်း။

ရန်သူ၏ ရိက္ခာထောက်ပံ့ရေးလမ်းကြောင်းတစ်ခုကို ကျွန်တော်တို့ တပ်မဟာတွင် ပါသော စစ်ကြောင်းတစ်ကြောင်းဖြင့် ပထမဆုံး ချုံခိုတိုက်ခိုက်ရမည်။ ရန်သူ၏ ရိက္ခာပို့ဆောင်ရေး ယာဉ်အုပ်စုတစ်ခုပင်ဆိုပါတော့...။

မိမိ၏ ရိက္ခာတင်ယာဉ်အုပ်စု ချုံခိုတိုက်ခိုက်ခြင်းခံရသော ရန်သူသည် ကျွန်တော်တို့စစ်ကြောင်းအား ပြန်လှန်ချေမှုန်းနိုင်ရန်အတွက် အချိန်လိုသည်။ ၆ နာရီမှ ၂၄ နာရီအထိလိုသည်ဟု ထားပါစို့။

ချုံခိုတိုက်ခိုက်သော ကျွန်တော်တို့စစ်ကြောင်းက မိမိတို့ အင်အားကို သိုသိပ်စွာ ဖုံးကွယ်ထားနိုင်ခဲ့လျှင် ရန်သူသည် ကျွန်တော်တို့စစ်ကြောင်းထက် အင်အားနည်းပါးသောတပ်ဖြင့်သာ လာရောက်တိုက်ခိုက်မည်ဖြစ်၏။ ထိုတပ်ကို ကျွန်တော်တို့စစ်ကြောင်း တပ်လုံးပျောက်သည်အထိ ချေမှုန်းပစ်နိုင်မည်ဖြစ်သည်။

အကယ်၍ တန်ပြန်တိုက်ခိုက်လာသော ရန်သူ့အင်အားက ကျွန်တော်တို့စစ်ကြောင်းထက် ကြီးနေလျှင် ကျွန်တော်တို့စစ်ကြောင်းသည် တောထဲသို့ ခံစစ်ပြု၍ ဆုတ်လာကာ ရန်သူ့တပ်များ အစုစုကွဲသွားအောင် ပြုလုပ်ရင်း ပြန်လည်တိုက်ခိုက်နိုင်မည်ဖြစ်၏။

ဤအချိန်တွင် အခြားစစ်ကြောင်း ၂ ကြောင်းက ပထမစစ်ကြောင်းနှင့် အတန်အလှမ်းကွာသည့် တောတွင်းတစ်နေရာတွင် အပန်းဖြေရင်း လေယာဉ်မှ ချပေးသည့် ရိက္ခာများကို ကောက်ယူနေနိုင်မည်ဖြစ်ပြီး စတုတ္ထနှင့် ပဉ္စမ စစ်ကြောင်းများက ရန်သူအား အခြားသင့်လျော်သောနေရာမှ ချုံခိုတိုက်ခိုက်ရန် ချီတက်နေမည်ဖြစ်သည်။

ပထမစစ်ကြောင်းက မိမိထက် အင်အားကြီးသောရန်သူ နောက်မှ လိုက်ပါလာသဖြင့် တောထဲသို့ ဆုတ်ခွာနေစဉ် ဒုတိယစစ်ကြောင်းက ပထမစစ်ကြောင်းနှင့် ၅ မိုင်ကွာသည့်နေရာမှဖြစ်စေ၊ ၂၅ မိုင်ကွာသည့်နေရာမှဖြစ်စေ ရန်သူအား ချုံခိုတိုက်ခိုက်ရန် အသင့်ဖြစ်နေပေတော့မည်။ သို့ဖြင့် ကျွန်တော်တို့ စစ်ကြောင်းများသည် အနားလည်းရ၊ အစားလည်းဝကာ ရန်သူ့ဆက်သွယ်ရေးနှင့် ရိက္ခာထောက်ပံ့ရေးလမ်းကြောင်းများကို ဒုက္ခလှလှ ပေးနေနိုင်တော့မည် ဖြစ်၏။

ရန်သူသည် ချုံခိုတိုက်ခိုက်ခံရသော နေရာတစ်ဝိုက်သို့ တပ်ရင်းလိုက် ချီတက်လာသောအခါများလည်း ရှိနိုင်သည်။ ထိုအခါမျိုးတွင် ရန်သူသည် ကျွန်တော်တို့ဘက်မှ လူ ၁၀ ယောက်လောက်နှင့်သာ ခုခံပစ်ခတ်နေသည်ကို

တွေ့ရပြီး ထိုလူ ၁၀ ယောက်မှာလည်း မကြာမီ ကြက်ပျောက် ငှက်ပျောက် ပျောက်သွားသည့်အဖြစ်မျိုးနှင့် တိုးနေရပေတော့မည်။

တစ်ခါတစ်ခါတွင်မူ ဤကဲ့သို့ တပ်ရင်းလိုက်ချီလာသော ရန်သူကို ကျွန်တော်တို့က တပ်မဟာတစ်ခုလုံးကို သုံး၍ ချေမှုန်းပစ်လိုက်ရမည်ဖြစ်၏။ ဤနည်းဖြင့် ကျွန်တော်တို့သည် ပင်လယ်ဘူးကို ဂျပန်တို့၏ အချက်အချာနေရာတစ်ခုအဖြစ်မှ ချေမှုန်းသုတ်သင်ပစ်လိုက်နိုင်သည်။

ကျွန်တော်သည် မြေပုံကို ဖြန့်ခင်းလိုက်ပြီး ပင်လယ်ဘူးနှင့် ပတ်ဝန်းကျင်ရှိ နယ်မြေအနေအထားကို အသေးစိတ် လေ့လာနေမိသည်။

ကျွန်တော့်'နည်း'ဖြင့် ရန်သူကို ဒုက္ခလှလှကြီးပေးနိုင်ပေတော့မည်။

မကြာမီ ဗိုလ်ချုပ်'ဂျီ'က အပေါ့စားလေယာဉ်ဆင်းသက်နိုင်မည့် လေယာဉ်ပြေးလမ်းကြောင်းတစ်ခု မည်သည့်နေရာတွင် ပြုလုပ်နိုင်မည်လဲဟု မေးသည်။

ကျွန်တော်က ကျွန်တော်တို့ရောက်ရှိနေသော နဂိန်ချောင်း ချောင်းကွေ့မှ မြောက်ဘက် ကိုးမိုင်ကွာရှိ နေရာကို မြေပုံပေါ်တွင် လက်ညှိုးထောက်၍ ပြလိုက်၏။

ထိုနေရာတွင် ကွန်တိုလိုင်းများ ရှုပ်ယှက်ခတ်နေခြင်း မရှိသောကြောင့် လယ်ကွင်းပြင် သို့မဟုတ် မြေပြန့် ဖြစ်ရမည်ဟု တွက်မိသည်။

'ဂျီ'သည် ကျွန်တော်ထောက်ပြသော နေရာကို လှမ်းကြည့်လိုက်ပြီး...

"ကိုယ်လည်း ဒီနေရာကိုပဲ မျက်စိကျနေတာပဲ၊ နတ်ဖြန့် ရှစ်နာရီလောက် အရောက်ချီကြရအောင်"ဟု ပြောရင်း တစ်ဆက်တည်းပင်။

"ကိုယ်တို့ တပ်မဟာအတွက် တပ်မှူးသစ်တစ်ယောက် ခန့်ရမယ်...ဘယ်သူကောင်းမယ်ဆိုတာ အကြံပေးစမ်းပါဦး..."ဟု မေးပြော ပြောလိုက်၏။

တပ်မှူးအသစ်ကိစ္စနှင့် ပတ်သက်၍ 'ဂျီ'က ကျွန်တော့်ထံ အကြံတောင်းလာခြင်းကို မအံ့ဩ၊ အဘယ်ကြောင့်ဆိုသော် ဗိုလ်မှူးဝင်းဂိတ်သည် ကျွန်တော်တို့၏ တပ်မှူးဖြစ်သူ 'ဂျီ'အား တစ်နေ့နေ့တွင် ဖယ်ရှားပစ်ပြီး သူ့ပါတီထဲမှ တစ်ယောက်ယောက်ကို အစားထိုးလိမ့်မည်ဟု ကျွန်တော်က တွက်ထားခဲ့သောကြောင့်ပါတည်း။

ယခုမူ ဗိုလ်ချုပ်ဝင်းဂိတ်မှာ လေယာဉ်ပျက်ပြီး ကျဆုံးခဲ့ရပြီဖြစ်သည့်အတွက် 'ဂျီ'က ဝင်းဂိတ်၏ နေရာကို ဆက်ခံရကာ ကျွန်တော်တို့ တပ်မဟာအတွက် တပ်မှူးတစ်ဦး လိုလာပြန်သည်။

ဝင်းဂိတ်သာ အသက်ရှင်လျက် ရှိနေပါမူ ကျွန်တော်တို့ တပ်မဟာသို့

သူ့လူတစ်ယောက် ရောက်လာမည်မှာ သေချာသည်။ (ဝင်းဂိတ်သည် ခြင်းဒစ်တပ်ဖွဲ့ကြီး တစ်ဖွဲ့လုံးကို သူပိုင်သည့်မြေကွက်ကဲ့သို့ သဘောထားခဲ့၏။ ဝင်းဂိတ်သေဆုံးပြီးနောက် တပ်မဟာမှူးသုံးယောက်က သူတို့ကို ဝင်းဂိတ်က သူ့နေရာတွင် ဆက်ခံစေရမည်ဟု ကတိပေးထားကြောင်းဖြင့် ဗိုလ်ချုပ်ကြီးဆလင်းအား အသီးသီးပြောကြားခဲ့သည်။)

ကျွန်တော်တို့၏ အမှတ် (၁၁၁) တပ်မဟာကို အုပ်ချုပ်ရန်အတွက် ဒုဗိုလ်မှူးကြီးအဆင့်ရှိသော တပ်ရင်းမှူး ၂ ဦးသည်လည်းကောင်း၊ စစ်ကြောင်းတစ်ကြောင်းမှ ဗိုလ်မှူးအဆင့်ရှိသူ ၁ ဦးသည်လည်းကောင်း၊ သင့်လျော်သူများဖြစ်ကြောင်း ကျွန်တော်က အကြံပေးသည်။

အိန္ဒိယရှိ လေတပ်ဌာနချုပ်တွင် မြန်မာပြည်ရောက် ခြင်းဒစ်တပ်ဖွဲ့များ၏ တောင်းဆိုချက်မှန်သမျှကို မြန်မြန်ထက်ထက်လုပ်ကိုင်ပေးနိုင်ရန်အတွက် ဗိုလ်မှူးကြီးအဆင့်ရှိသူတစ်ဦးကို ထားခဲ့သည်။ ထိုဗိုလ်မှူးကြီးမှာ သဘောကောင်း၊ မနောကောင်းသူ မှန်သော်လည်း စစ်မြေပြင်သို့ ရောက်နေသောတပ်များကို ကွပ်ကဲနိုင်လောက်အောင် အတွေ့အကြုံမရှိသေးဟု သဘောရကာ ထိုဗိုလ်မှူးကြီး၏ အမည်ကို ကျွန်တော်က တင်ပြခြင်းမပြုခဲ့။

ခြင်းဒစ်တပ်ဖွဲ့ကြီးရှိ စစ်ကြောင်းအများအပြားတွင်လည်း ဒုတပ်မှူးအဖြစ် တာဝန်ထမ်းဆောင်နေသော ဗိုလ်မှူးကြီးအဆင့်ရှိသည့် ပုဂ္ဂိုလ်များရှိသည်။ သို့သော် အချို့ပုဂ္ဂိုလ်များမှာ တပ်မှူးရာထူးနှင့် ထိုက်တန်သည့် အရည်အချင်းမရှိ။ ရှိသူများအနက် ကျွန်တော်တို့တပ်မဟာ ခံယူချက်နှင့် အကိုက်ညီဆုံးမှာ အမှတ်(၇၇) တပ်မဟာမှ ဒုတပ်မှူးကလော့ရှမ်ပင် ဖြစ်လိမ့်မည်ဟုလည်း ကျွန်တော်က တင်ပြသည်။

'ဂျို'က ကျွန်တော်ပြောသမျှ ခေါင်းတညိတ်ညိတ်ဖြင့် နားထောင်နေပြီး ကျွန်တော့်စကားအဆုံးတွင် တပ်မဟာတစ်ခုလုံး တစ်နာရီအတွင်း ချီတက်ရန် အသင့်ပြင်ဟု အမိန့်ပေးသည်။

ကျွန်တော်သည် အိန္ဒိယရှိ ဌာနချုပ်သို့ နက်ဖြန်နံနက် အပေါ့စားလေယာဉ်များ လွှတ်ပေးရန် သတင်းပို့လိုက်ပြီးနောက်…အမှတ် (၂၆) (၉၀) နှင့် (၃၀) စစ်ကြောင်းများနှင့်အတူ ကျွန်တော့်တပ်မဟာဌာနချုပ်ကို ခေါင်းဆောင်၍ ချီတက်လာခဲ့၏။

အမှတ်(၄၁) နှင့် (၄၆) စစ်ကြောင်းများက နောက်တစ်ရက်ကြာမှ ကျွန်တော်တို့ ချီတက်လာခဲ့သည့် လမ်းနှင့်ယှဉ်ကာ လိုက်ပါလာရမည်ဖြစ်၏။

နေ့လယ် ရုပ်နားချိန်သို့ ရောက်သည့်အခါ 'ဂျို'က အိန္ဒိယရှိ ခြင်းဒစ်ဌာနချုပ်နှင့် စစ်ကြောင်းများအားလုံးသို့ ပို့ရမည့်သတင်းတစ်ခုကို သူကိုယ်တိုင်ရေး၍ ကျွန်တော့်ထံ ပေးလိုက်သည်။

သတင်းရေးသည့်အလုပ်မှာ တပ်မှူး၏ အလုပ်မဟုတ်ဘဲ ဦးစီးအရာရှိ၏ အလုပ်သာဖြစ်ရာ 'ဂျို'က တစ်ခါမျှမလုပ်ဖူးသော အလုပ်ကို လုပ်လာသည့်အတွက် ကျွန်တော်က ကျွဲမြီးတိုသွားပြီး သတင်းကို အလျင်စလို ဖတ်ကြည့်လိုက်၏။

အမှတ် (၉) ဂေါ်ရခါးတပ်မှ ဒုဗိုလ်မှူးကြီးမော်ရစ္စအား ယာယီဗိုလ်မှူးချုပ်အဖြစ် တိုးမြှင့်ပြီး အမှတ်(၁၁၁) တပ်မဟာ၏ တပ်မှူးအဖြစ် ခန့်ထားလိုက်ကြောင်း။ ဧရာဝတီမြစ် အရှေ့ဘက်ကမ်းမှ မိုင် ၁၄၀ ခန့်အကွာသို့ရောက်နေပြီး စစ်ကြောင်းသုံးကြောင်းကို သီးခြားလွတ်လပ်စွာ ကွပ်ကဲလျက်စိန်လုံကဘားတစ်ဝိုက်တွင် တိုက်ပွဲဆင်နေသော မော်ရစ္စသည် ထိုဒေသတွင်ဆက်လက်ထမ်းဆောင်ရင်း အမှတ်(၁၁၁) တပ်မဟာ၏ တပ်မှူးအဖြစ်တာဝန်ထမ်းဆောင်ရန်၊ ဧရာဝတီအနောက်ဘက်တွင်ရှိသော အမှတ် (၁၁၁) တပ်မဟာမှ ကျန်စစ်ကြောင်းများကို ကျွန်တော် ဌာန်မာစတားက အုပ်ချုပ်ရမည်ဖြစ်ကြောင်းဖြင့် ဂျို၏အမိန့်စာတွင် ပါရှိသည်။

ကျွန်တော်သည် အမိန့်စာကိုဖတ်ရင်း ငေးနေမိ၏။ ဂျိုကမူ စကားမျှပင်ပြတ်။

"အမှုထမ်းသက် နုတယ်၊ ရင့်တယ် ဆိုတာကို ဝင်းဂိတ်က သောက်ရေးမစိုက်သလို၊ ကိုယ်လည်း သောက်ရေးမစိုက်ဘူး။ မောင်ရင်ဟာ ကိုယ့်ဆီကိုဦးစီး ၂ အဖြစ်နှင့် လာရတော့မည့်ဆဲဆဲမှာ မောင်ရင့်ကို တပ်ရင်း (၁) ရင်း အကိုင်နိုင်းမလို့ဘဲ၊ ဒါပေမယ့် ဒီလိုမဖြစ်ခဲ့ဘူး။ ဘာပဲဖြစ်ဖြစ် မောင်ရင်ဟာ ခုရှိနေတဲ့ တပ်မှူးတွေထက်တော့ အမှုထမ်းသက်ရင့်တာပဲ။ ဘာပဲဖြစ်ဖြစ် မောင်ရင့်မှာ လုပ်နိုင်တဲ့အစွမ်း ရှိတယ်ထင်လို့ ဒီလိုတာဝန်ပေးလိုက်တာပဲ၊ တပ်မဟာရဲ့ဂုဏ်ကို မနိမ့်ကျစေနဲ့"

ဂျိုက စကားအမျှင်မပြတ်အောင် ပြောနေစဉ် ကျွန်တော့်ခေါင်းထဲတွင် ...သော စကားက ပွဲတင်ရိုက်၍နေ၏။

ကျွန်တော့်လေ့ကျင့်ခန်း ပေးထားခဲ့ရသော၊ ပြုစုပျိုးထောင်ပေးခဲ့ရသော တပ်မဟာကို ကျွန်တော် တပ်မှူးအဖြစ် အုပ်ချုပ်ရတော့မည်ဟု ဆိုသောအခါ ကျွန်တော်သည် နှစ်သက်ရွှင်လန်းမိပါတော့၏။ ကျွန်တော့်တွင် တပ်မဟာ

တစ်ခုအား ပိုင်နိုင်စွာ ကွပ်ကဲအုပ်ချုပ်နိုင်သော စွမ်းရည်ရှိသည်ဟုလည်း ကျွန်တော့်ကိုယ် ကျွန်တော် ယုံကြည်သည်။

ကျွန်တော့်အထက်တွင်ရှိနေသော ဒုဗိုလ်မှူးကြီး ၂ ယောက်မှာ ဂျီထံမှ ရောက်လာသော အမိန့်ကိုကြည့်ရင်း နားဝေတိမ်တောင် ဖြစ်နေကြပေမည်။ နာလည်းနာကြည်းကြပေမည်။ ကျွန်တော့်မှာ ရေဝတီအနောက်ဘက်ကမ်းရှိ တပ်များကို တပ်မှူးအဖြစ် အုပ်ချုပ်ရန် တာဝန်ပေးအပ်ခြင်းခံရသော်လည်း ရာထူးအဆင့်အတန်းအနေဖြင့်ကား တိုးမြှင့်ခန့်ထားခြင်းမရှိ။ ကျွန်တော်က ဗိုလ်မှူးအဆင့်သာရှိပြီး ကျွန်တော့်လက်အောက်သို့ ရောက်လာသော အရာရှိ ၂ ယောက်မှာ ဒုဗိုလ်မှူးကြီးအဆင့် ရှိနေသူများ ဖြစ်ကြ၏။

သို့သော် ကျွန်တော့်အတွက် ရာထူးအဆင့် မြှင့်တင်ပေးရန်မလိုဟု ယူဆမိသည်။ ကျွန်တော်သည် တပ်မဟာတစ်ခုလုံးကိုသော်လည်းကောင်း၊ တပ်မဟာတစ်ခုလုံးရှိ အရာရှိ အရာခံ အကြပ် တပ်သားများကိုသော်လည်းကောင်း တာဝန်ကျေပွန်စွာ အမှုထမ်းဆောင်၍ပေးခဲ့ဖူးသည်ဖြစ်ရာ သူတို့ကလည်း ကျွန်တော့်အပေါ်တွင် ပြန်၍ တာဝန်ကျေမည်ဟု ယုံကြည်သည်။

စစ်မဖြစ်မီက တပ်ခွဲတစ်ခွဲကိုသာ အုပ်ချုပ်ခဲ့ရသော ကျွန်တော်သည် ယခုအချိန်၌ တပ်မဟာတစ်ခုကို အုပ်ချုပ်ရမည်ဆိုသောအခါ ကျွန်တော်သည် နှင်းရည်နှင့် အဖြန်းခံရသူကဲ့သို့ ရွှင်လန်း၍သွားမိ၏။ အားကုန်နေသော ကျွန်တော့်ခြေထောက်နှစ်ချောင်းမှာလည်း ရေနွေးနွေးဖြင့် ဆေးကြောပေးခြင်း ခံရသလို အကြောအချဉ်များ ပြေသွားသည်။

အရပ်သူ အရပ်သားများက စစ်ဗိုလ်တစ်ယောက်သည် တပ်တစ်ခုကို ကိုင်ရန် အာသာဆန္ဒအပြင်းပြဆုံးပင်ဖြစ်သည်ဟု ထင်မှတ်နေကြ၏။ တပ်မှူးတစ်ယောက်ဖြစ်လာလျှင် နောက်လိုက်နောက်ပါများနှင့် အာဏာများ၊ ပါဝါများ တက်လာသည်ဟု ဆိုတတ်ကြ၏။ စစ်ဗိုလ်တစ်ယောက်သည် တစ်ခါတစ်ရံတွင် ဤကဲ့သို့သောစိတ်မျိုး ပေါ်ပေါက်ချင် ပေါ်ပေါက်မည်ဖြစ်သော်လည်း ကျွန်တော့်အဖို့မှာမူ တပ်တစ်တပ်ကိုကိုင်ရသော တပ်မှူးသည် သူ့အသက်နှင့် ကျွန်တော့်အဖို့ ခန္ဓာကို ထိုတပ်အတွက် လှူထားခြင်းသာဖြစ်သည်။

ဦးစီးအရာရှိတစ်ဦး၏ အလုပ်များကို မည်မျှပင်ခက်သည်ဟုဆိုစေ၊ အရပ်သားတစ်ယောက်က တတ်မြောက်လာအောင် သင်ယူ၍ ရနိုင်ပါ၏။ မှတ်ဉာဏ်ကောင်းသူနှင့် အတွက်အချက်မြန်ဆန်က တိတိကျကျလုပ်တတ်သူတိုင်း ဦးစီးတစ်ဦး၏ တာဝန်ကို သင်ယူတတ်မြောက်နိုင်သည်။ သို့သော်

တပ်မှူးတစ်ယောက်၏ စစ်ပညာကိုမူ သင်ယူ၍ မရနိုင်စကောင်း။

တပ်ခွဲတစ်ခုကို ကိုင်နေသော စစ်ဗိုလ်တစ်ဦးသည် တပ်ရင်းတစ်ရင်း၊ တပ်မဟာတစ်ခု စသည်တို့ကို တစ်ဆင့်ပြီးတစ်ဆင့် ကိုင်လာရတိုင်း သူ၏ စွမ်းရည်နှင့် သတ္တိကလည်း မြင့်၍ မြင့်၍လာရမည်သာဖြစ်သည်။ တွေ့နှင့် လက်တွေ့ အတွေ့အကြုံကို နှစ်ပေါင်းများစွာ ဆည်းပူးခဲ့၊ လေ့လာခဲ့၊ သုံးသပ်ခဲ့၊ အပြန်ပြန်အလှန်လှန် စမ်းသပ်တီထွင်ခဲ့သူကား စွမ်းရည်သတ္တိ မြင့်လာပေမည်။

တပ်မှူးတစ်ဦး၏ ထူးခြားသော အရည်အချင်းတစ်ခုမှာ စစ်ဆင်ရေး အစီအစဉ်တစ်ခုကို မြင်ရသည်နှင့်တစ်ပြိုင်နက် ထိုအစီအစဉ် နိုင်မှာသည်၊ မနိုင်မှာသည်ကို ချက်ချင်းဆုံးဖြတ်နိုင်သည့် အရည်အချင်းပင်ဖြစ်၏။

ဤကဲ့သို့ အရည်အချင်းရှိသော တပ်မှူးသည်သာလျှင် တစ်ဖက်မှ အကြောင်းအမျိုးမျိုးပြ၍ ချေဖျက်လာသော ကျွမ်းကျင်သူများ၊ ပါရဂူများ၏ အဆိုကို ချေမှုန်းကာ မိမိ၏ စစ်ဆင်ရေးအစီအစဉ် အောင်ပွဲခံနိုင်အောင် စွမ်းဆောင်နိုင်မည်ဖြစ်၏။

ကျွန်တော်သည် ဤကဲ့သို့သော စွမ်းဆောင်ချက်မျိုး ရရှိအောင် လွန်ခဲ့သော ၁၀ နှစ်မှစ၍ အပတ်တကုတ် ကြိုးစားအားထုတ်ခဲ့၏။ ယခုအချိန်တွင် ဤစွမ်းဆောင်ချက်မျိုး ကျွန်တော့်တွင် ရာနိုင်နှုန်းအပြည့် မရှိသော်လည်း ရှိသင့်သလောက် ရှိနေခဲ့သည်ကို ကျွန်တော် ယုံကြည်သည်။

သို့သော်…ကျွန်တော်က တပ်မဟာမှူးတစ်ဦးအဖြစ် အမိန့်ပေးရာတွင် အတွေ့အကြုံ မများသေးမီအတွင်း ကျွန်တော့်တပ်မှ ရဲဘော်ကလေးများနှင့် စစ်ဗိုလ်ကလေးများသည် ကျွန်တော့်အမှားကြောင့် ရေတိမ်နစ်ရမည့်အဖြစ် ကိုလည်း ကျွန်တော် သိထားသည်။ မည်သို့ပင်ဖြစ်စေ ယနေ့ စစ်သူကြီး ဖြစ်လိုနေသူတစ်ဦးသည် ကြာမြင့်ခဲ့သော 'မနေ့'ပေါင်းများစွာက အမှားပေါင်း အတော်များများကို လုပ်ခဲ့မိသူသာဖြစ်ကြောင်းကို စစ်သားတိုင်း နားလည်ခံယူ ထားပြီးဖြစ်၏။

တပ်မှူးတစ်ဦးသည် ကိုယ်စွမ်းရှိသလောက်၊ ဉာဏ်စွမ်းရှိသလောက် မိမိတပ်သားများအပေါ်တွင် သစ္စာရှိရှိလုပ်နေလျှင် တပ်သားများကလည်း မိမိတို့တပ်မှူးအပေါ်တွင် အမှန်သို့ရောက်လာသည်အထိ သည်းခံ၍စောင့်နေ မည်သာဖြစ်၏။

ထို့နောက်တွင်ကား တပ်သားများသည် မိမိတို့အပေါ်တွင် တပ်မှူးအဖြစ်

အုပ်ချုပ်နေရခြင်းကို ဂုဏ်ယူလျက် မိမိတို့နှင့် သွေးဖော်ရင်းဖက်ဖြစ်လာသော တပ်မှူးကို ချစ်ကြောက်ရိုသေကာ မည်သို့သော ဆင်းရဲဒုက္ခကိုဖြစ်စေ၊ မည်သို့သော ဘေးအန္တရာယ်ကိုဖြစ်စေ တပ်မှူး၏ အမိန့်အတိုင်း ရင်ဆိုင်ရန် နောက်တွန့်ကြတော့မည် မဟုတ်တော့။

ကျွန်တော်သည် ကျွန်တော့်တပ်သားများအတွက် ဂုဏ်ယူသည်။ ကျွန်တော့်တပ်သားများကို ကျွန်တော့်အသွေးအသားဟု မှတ်ယူသည်။ ကျွန်တော့်တပ်သားများ အရှုံးနှင့်ရင်ဆိုင်ရလျှင် ကျွန်တော်လည်း ရှုံးသူတစ်ယောက်ဖြစ်နေပြီဟု ရင်နှင့်သည်။

ကျွန်တော့်တပ်သားများ အနိုင်ရလျှင် ကျွန်တော်လည်း အောင်နိုင်သူဟု ဝမ်းသာသည်။

တပ်မဟာသည် ကျွန်တော့်အသွေး၊ ကျွန်တော့်အသား၊ ကျွန်တော့်အသက်...

ကျွန်တော်သည် ဗိုလ်ချုပ်ကျီရှေ့တွင် အမိန့်စာရွက်ကို လက်ထဲ၌ ကျစ်ကျစ်ပါအောင် ကိုင်ထားရင်း ရပ်နေသည်။

ကျွန်တော့်မျက်လုံးအိမ်တွင် မျက်ရည်များ ဝိုင်းလာတော့မတတ် ဖြစ်လာသည်။

''တပ်မဟာဂုဏ်ကို ဘယ်တော့မှ မညှိုးစေရပါဘူး ဗိုလ်ချုပ်''

ကျွန်တော်က လှိုက်လှိုက်လှဲလှဲပြောလိုက်သည်။

ရှေ့ကို...ဘာတွေဆက်လုပ်မယ်ဆိုတာ စဉ်းစားထား။ ပြီးရင် ကိုယ့်ဆီကို ဒီည သတင်းပို့''

''ကောင်းပါပြီ ဗိုလ်ချုပ်''

ကျွန်တော်သည် ဗိုလ်ချုပ်ကျီ ရှေ့မှောက်မှ လှည့်ထွက်လာခဲ့ရင်း ရှေ့အစီအစဉ်များကိုသာ စဉ်းစားနေမိသည်။

သို့သော်...ကျွန်တော့်တွင် ကျွန်တော်စဉ်းစားမိသမျှကို တိုင်ပင်ရန် ဦးစီး ၂ မရှိသေးပါကလား...။

ကျွန်တော်သည် ဧရာဝတီမြစ် အနောက်ဘက်ရှိ အမှတ်(၁၁၁) တပ်မဟာမှ တပ်မှူးဖြစ်လာခဲ့ပြီဖြစ်ရာ ကျွန်တော့်အတွက် ဘရိဂိတ်မေဂျာတစ်ဦး လိုလာတော့သည်။

ကျွန်တော်သည် အင်ဂျင်နီယာတပ်မှ ဗိုလ်မှူး'ဘတ်'အား ခေါ်ယူလိုက်ပြီးနောက် သူ့တာဝန်များကို သူ့လက်အောက်မှ အရာရှိအား လွှဲပြောင်းပေး

ပြီး သူက ဦးစီး ၂ အရာရှိအဖြစ် ချက်ချင်းတာဝန်ယူရန် အမိန့်ပေးလိုက်၏။

ကျွန်တော်နှင့် ဘတ်သည် တစ်ယောက်ကိုတစ်ယောက် ကြည့်၍ ပြုံးလိုက်မိကြသည်။

လွန်ခဲ့သော ၁၂ နှစ်ခန့်က 'ဘတ်' နှင့် ကျွန်တော်သည် တစ်ကျောင်းတည်း၊ အိပ်ခန်းတစ်ခန်းတည်း နေခဲ့ကြသော ကျောင်းနေဘက် သူငယ်ချင်းများ ဖြစ်ခဲ့ကြသည်။

သူနှင့် ကျွန်တော်သည် တွဲဖက်ညီညီဖြင့် ပင်လယ်ဘူးတစ်ဝိုက်သို့ ရန်သူကို အငိုက်ဖမ်းရန် ချီတက်ကြရလေတော့သည်။

◆

## အခန်း ( ၁၀ )

ရိုးဖြတ်လယ်ကွင်းသည် နံနက်ခင်းတွင် နှင်းများဖြင့် စိုရွှဲနေ၏။

ဂျိုနှင့် ကျွန်တော်တို့သည် တောစပ်တွင် ရပ်ရင်း စီးကရက်သောက်ကာ ရဲဘော် ၂၀၀ ကျော်ကျော်က လယ်ကန်သင်းများ ဖြိုချနေသည်ကို ကြည့်နေကြ၏။

ကျွန်တော်တို့အနီးတွင် ဆရာဝန်ဗိုက်က ငှက်ဖျားမိ၍ လူမှန်းသူမှန်းမသိအောင် ဖြစ်နေသော ဂေါ်ရခါးရဲဘော်နှစ်ယောက်အနီးတွင် ဆောင့်ကြောင့်ကလေး ထိုင်နေသည်။

ဝန်ထမ်းတပ်မှ တာဝန်ခံတစ်ယောက်က လေယာဉ်ပြေးလမ်းကြောင်းလုပ်မည့် လယ်ကွင်းအစွန်ရှိ သစ်ပင်လေးပင်ကို ဗိုင်းနမိုက်ဖြိုလှဲရန် အသင့်ရှိနေပြီဖြစ်ကြောင်း လာရောက်သတင်းပို့သည်။

ကျွန်တော်က ဆက်လုပ်ဟု အမိန့်ပေးလိုက်သည်။ လေယာဉ်ပျံ ရောက်လာရန်လည်း နီးနေပေပြီ။

သစ်ပင်လေးပင်အနက် သုံးပင်မှာ ခါးလယ်မှ ပြတ်ထွက်၍ အပေါ်သို့ မြောက်တက်သွားကြသည်။ အင်ဂျင်နီယာများသည် စတုတ္ထသစ်ပင်တွင် ယမ်းဘီးလူးများကို ထပ်၍ ချည်နှောင်နေကြ၏။

အယ်လ် ၁ အမျိုးအစား အပေါ့စားလေယာဉ်ကလေးများ ကျွန်တော်တို့ ခေါင်းပေါ်သို့ ပျံဝဲရောက်ရှိလာကြ၏။ လေတစ်ဗိုလ်ကလေး ချက်စဝီက အနီရောင်မီးကျည်ကို ပစ်ဖောက်၍ လေယာဉ်မောင်းသူများအား ယခုချက်ချင်း ဆင်း၍မလာရန် အချက်ပြလိုက်၏။ သို့သော် လေယာဉ်များသည် လေအောက်

ဘက်မှ ပျံဝဲကာ လေယာဉ်ပြေးလမ်းကြောင်း တည့်တည့်ပေါ်တွင် နိမ့်နိမ့်ကလေး ဝဲနေကြသည်။

ပေ ၁၀၀ ခန့်မြင့်သော သစ်ပင်အုပ်များသည် လေအောက်ဘက်အရပ် ကွင်းစပ်နှင့်ထိနေသော နေရာတွင် ရှိနေကြ၏။

လေယာဉ်များသည် စက်ကို အရှိန်လျှော့ကာ ပျံဝဲနေစဉ် လေယာဉ်အုပ်စုကို ခေါင်းဆောင်လာသော လေယာဉ်သည် သစ်ပင်အဖျားနှင့် ဝင်တိုက်မိပြီး အောက်သို့ကျလာသည်။ ကျွန်တော်တို့က လေယာဉ်ပျက်ကျတော့မည်ဟု ထင်နေစဉ် လေယာဉ်သည် တစ်ဖက်အစွန်းမှ မဖြိုလဲရသေးသော သစ်ပင်ထိပ်များမှ လူပ်ရုံကလေး ပြန်တက်သွားသည်။ ပြီးမှ လေယာဉ်ပြေးလမ်းကြောင်းပေါ်သို့ ထိုးဆင်းလာသည်။

ဒုတိယအစင်းလည်း ခဏကြာလျှင် ဆင်းသက်လာနိုင်၏။ လေယာဉ်ထဲမှ ထွက်လာသော လေယာဉ်မှူးနှစ်ဦးမှာ စီးကရက်များ ခဲလျက်ရှိကြ၏။

၅ မိနစ်အကြာတွင် ဗိုလ်ချုပ်ဝင်းဂိတ်၏ နေရာကို လွှဲပြောင်းယူရမည့် ကျွန်တော်တို့၏ ဗိုလ်ချုပ်အသစ်ဖြစ်သူ ဂျီသည် အိန္ဒိယပြည်ရှိ ခြင်းဒစ်စစ်ဌာနချုပ်သို့ ထွက်ခွာသွားလေသည်။

ကျွန်တော်သည် အမှတ် (၁၁၁) တပ်မဟာ၏ တပ်မှူးအဖြစ် ယခုအချိန်မှ စ၍ တိတိကျကျဆောင်ရွက်ရပေတော့မည်။

တာဝန်သည် ကြီးလေးထွေပြားလှချေ၏တကား။

ထိုနေ့ညတွင် ကျွန်တော့်လက်မောင်းပေါ်မှ သရေဖူအမှတ်တံဆိပ်များကို ဖြုတ်ပစ်လိုက်သည်။ ဤအမှတ်တံဆိပ်များမှာ ဗိုလ်မှူးအဆင့်ရှိသူတစ်ဦးအတွက် သင့်မြတ်လျော်ကန်လှပါ၏။ သို့သော် ကျွန်တော့်မှာ တပ်မဟာတစ်ခု၏ တပ်မှူး ဖြစ်နေလေသောကြောင့် ဗိုလ်မှူးအမှတ်အသားပါသည့် တံဆိပ်များကို တပ်ဆင်ထားရန် ခက်နေပြန်သည်။ သို့ဖြင့် အဆင့်မဲ့သော စစ်ဗိုလ်တစ်ယောက် တပ်မှူးတစ်ယောက် ဖြစ်နေချေတော့၏။

ကျွန်တော်သည် တွေးရာကြံရာ လုပ်ရာကိုင်ရာ၌ ကျွန်တော့်ကိုယ်ကို ကျွန်တော် တပ်မှူးတစ်ယောက်ဟူသာ သဘောထား၍ တွေးသည်၊ ကြံသည်၊ လုပ်သည်၊ ကိုင်သည်၊ ကျွန်တော့်အဆင့်ကို ဘယ်တော့မှ ထည့်သွင်းမစဉ်းစား။ လက်မှတ်ထိုးရာ၌လည်း ကျွန်တော်သည် တပ်မှူးဟူ၍သာ လက်မှတ်ထိုးသည်။ တိုက်ပွဲစဉ်ပြီးသည်အထိ ကျွန်တော်သည် တပ်မှူးအနေနှင့်သာ ကျင့်ကြံနေထိုင် လုပ်ကိုင်ခဲ့လေသည်။

ကျွန်တော်တို့သည် ပထမတွင် မြောက်ဘက်သို့ ချီတက်လာပြီးနောက် အတန်ကြာသောအခါ အနောက်စူးစူးသို့ ခရီးဆက်ခဲ့ကြ၏။

နေမှာ တဖြည်းဖြည်း မြင့်တက်လျက်ရှိသည်။

တောင်ပူစာကလေးနှစ်လုံးကို ကျွန်တော်တို့တပ်များ ဖြတ်သန်းချီတက်နေစဉ် တောင်ခြေရှိ လယ်ကွက်များ၌ နွားချေးချနေသော မြန်မာအမျိုးသားလယ်သမားအချို့ကို တွေ့ရ၏။

ကျွန်တော်တို့ ချီတက်လာသော ဖိနပ်သံကြောင့် သူတို့သည် တောင်အောက်မှနေ၍ ကျွန်တော်တို့ဘက်သို့ လှည့်ကြည့်ကြ၏။ ပထမတွင် ကြောက်လန့်သွားသည့်အသွင်ကို တွေ့ရသော်လည်း ခဏကြာလျှင် အံ့ဩသည့်အမူအရာက သူတို့မျက်နှာပေါ်တွင် ပေါ်လွင်လာသည်။

လုံမချောချောကလေးတစ်ယောက်က ကျွန်တော့်ကို ပြုံးပြပြီး လက်ကလေးဝှေ့ယမ်း၍ နှုတ်ဆက်သည်။ သူသည် အလွန်အနားကျယ်သော ကောက်ရိုးခမောက်တစ်ခုကို ဆောင်းထားသည်။ ကောက်ရိုးများကို မြက်ဝါးဖြင့် သေသေသပ်သပ်ချုပ်လုပ်ထားပုံမှာ ကြည့်၍ကောင်းလှသည်။

ထိုလုံမသည် ထိုခမောက်ကို ကျွန်တော့်အား အသပြာအနည်းငယ်ဖြင့် ရောင်းကောင်းရောင်းမည်။ လေထီးပိတ်စကလေးတစ်ခုဖြင့် လဲကောင်းလဲမည်ဟု တွေးရင်း ထိုလုံမရှိရာ လယ်ကွင်းထဲသို့ ကျွန်တော် ဆင်းလာခဲ့သည်။

အမေရိကန် ရေတပ်ဗိုလ်မှူးချုပ်ကြီး မက်အာသာက ရွှေဖြင့်ပြုလုပ်ထားသည့် အနားပတ်ပါသော ဦးထုပ်ကို ဆောင်းသည်။ ဗြိတိသျှကြည်းတပ်ဗိုလ်ချုပ်ကြီး မောင်ဂိုမာရီက အမှတ်တံဆိပ်တွေ အများကြီး တပ်ထားသော ဘယ်ရီကက်ကို ဆောင်းသည်။ ကျွန်တော်က ထိုစစ်ဗိုလ်ကြီးများထက် ထူးခြားအောင် လယ်သူလုံမထံမှ ခမောက်ကို ဆောင်းပြလိုက်မည်ဟု စိတ်ကူးရင်း တောင်ပူစာကလေးထက်မှ လယ်ကွင်းရှိရာသို့ ဆင်းလာခဲ့ခြင်းဖြစ်သည်။

ကျွန်တော်သည် လယ်သူလုံမပျိုထံမှ ခမောက်ကို လေထီးပိတ်စတစ်စဖြင့် လဲယူလိုက်ပြီးနောက် တောင်ပူစာပေါ်သို့ ပြန်တက်ခဲ့ရင်း လုံမပျိုအား လက်ကို ဝှေ့ယမ်း၍ပြလိုက်၏။

လုံမပျိုက ရှက်သွေးကလေးလျှမ်းသော မျက်နှာဖြင့် ကျွန်တော့်ကို ပြန်၍ လက်ယမ်းပြသည်။ ''သွားဦးမယ်...နမရေ။ သွားပေတော့ မောင်ကြီးရေ''ဟု နှုတ်ဆက်နေသကဲ့သို့တည်း။

ကျွန်တော်သည် ရှေ့သို့ ဆက်လက်ချီတက်နေရသော်လည်း ကျွန်တော့်အား လုပဆန်းကြယ်သည့် ခမောက်ကို ပေးလိုက်သော လုံမပျိုကို အမြဲလိုလို သတိရနေလေသည်။

ကျွန်တော်တို့သည် 'ကန်ဘက်'တောင်တန်းကို လှမ်း၍ တက်နေရပေပြီ။

ကန်ဘက်တောင်တန်း၏ ဟိုမှာဘက်တွင် ကျွန်တော်တို့ စစ်ရေးဝင်ရမည့် ရန်သူများ ရှိနေလေသည်။ ကန်ဘက်တောင်တန်းကို တက်ပြီးနောက် တစ်ဖက်သို့ ဆင်းလိုက်လျှင် ၁၆ မိုင်ကျယ်၍ မိုင် ၄၀ ခန့်ရှည်လျားသော မြစ်ဝှမ်းကြီးကို တွေ့ရ၏။

မြစ်ဝှမ်းကြီးတစ်ခုလုံးမှာ ဟိုတစ်ခု သည်တစ်ခု ရှိနေသော ရွာကလေးတစ်ဒါဇင်ခန့်နှင့် ထိုရွာကလေးများ ပတ်ဝန်းကျင်ရှိ လယ်ကွက်အချို့မှအပ တောအထိ ဖုံးလျက်ရှိသည်။ မြစ်ဝှမ်းကြီး၏ အဆုံးသတ်ကို မတ်စောက်သော ဆီးဖြူတောင်တန်းကြီးက အနားပတ်ထားသည်။

မော်တော်ကားလမ်းတစ်လမ်းသည် မြစ်ဝှမ်းကြီး၏ အလယ်တည့်တည့်တွင် တောင်မှမြောက်သို့ ပြေးနေပြီး ကျောင်းကလေးရွာသို့ အရောက်၌ ထိုမော်တော်ကားလမ်းသည် အနောက်ဘက်သို့ လှည့်သွားကာ ဆီးဖြူတောင်တန်းကို တောင်ပေါက်လမ်းဖြင့်ကျော်၍ ချင်းတွင်းမြစ်ရှိရာသို့ ရှေးရှုနေသည်။

ကျွန်တော်တို့သည် ကန်ဘက်တောင်တန်းနှင့် ဆီးဖြူတောင်တန်းအကြားရှိ ရန်သူများအား ကျွန်တော့်နည်းဖြင့် တိုက်ထုတ်ကြရပေတော့မည်။ ဤဒေသအား ချင်းတွင်းကို ဖြတ်ကျော်လျက် အင်ဖာနှင့် ကိုဟီမာသို့ ရိက္ခာခဲယမ်းများ ပို့ရန် ရိက္ခာထောက်စခန်းအဖြစ် ဂျပန်တို့က အသုံးချနေခြင်းကို ကျွန်တော်တို့က ရပ်တန့်သွားအောင် တိုက်ခိုက်ဖျက်ဆီးရပေတော့မည်။

သုံးရက်မျှ ခရီးပြင်းနှင်လိုက်သောအခါ ကျွန်တော်တို့သည် ကန်ဘက်တောင်ခြေနှင့် မြစ်ဝှမ်း၏ အစပ်သို့ ရောက်လာကြ၏။

ရန်သူနှင့် တွေ့ရတော့မည်ဟူသော အသိကြောင့် တပ်သားတိုင်းမင်လက်ယားနေကြသည်။

စစ်ကြောင်းတစ်ကြောင်းက တစ်နေရာတွင် ချုံခိုတိုက်ခိုက်နေစဉ် ဒုတိယနှင့် တတိယစစ်ကြောင်းက ရပ်နားရင်း ရိက္ခာကောက်နေကာ စတုတ္ထနှင့် ပဉ္စမစစ်ကြောင်းများက ရန်သူအား အခြားတစ်နေရာမှ ချုံခိုတိုက်ခိုက်နေသော ကျွန်တော့်နည်းကို လက်တွေ့ကျင့်သုံးရတော့မည်ဖြစ်သော ကျွန်တော်သည် ကျွန်တော်တို့ဌာနချုပ်ကို စစ်ကြောင်းအားလုံးနှင့် လက်လှမ်းမီနိုင်မည့်နေရာတွင်

အမြဲရောက်ရှိနေရမည်ဟု တွက်မိသည်။

စစ်ကြောင်းအားလုံးလိုလိုပင် ရိက္ခာများ ပြတ်လပ်နေသည်။ သို့သော် ဧည့်ကန်တွင် ရန်သူများ ရှိနေသည်ဟူသော လေကြောင်းကင်းထောက်အဖွဲ့မှ ပေးလိုက်သောသတင်းကြောင့် အမှတ်(၃၀) စစ်ကြောင်းအား၊ ကျန်စစ်ကြောင်းများက ရိက္ခာကောက်နေစဉ် ရန်သူက လာ၍ အနှောင့်အယှက်မပေးနိုင်အောင် ဧည့်ကန်သို့ ချီတက်တိုက်ခိုက်ရန် စေလွှတ်လိုက်သည်။

တပ်ကို ရုတ်တရက် ဆုတ်၍ မရနိုင်လောက်အောင် သဲသဲမဲမဲတိုက်ပွဲမျိုးကို မတိုက်ရန်လည်း ညွှန်ကြားလိုက်၏။

အိန္ဒိယရှိ ဌာနချုပ်က သုံးညတိုင်တိုင် ဆက်၍ လေယာဉ်ဖြင့် ရိက္ခာနှင့် ခဲယမ်းများ လာရောက်ချပေးသည်။

သစ်ပင်များနှင့် ချိတ်မိနေသော လေထီးများမှာ မိုင်ပေါင်းများစွာမှ မြင်နိုင်လောက်အောင် ဖွေးဖွေးလှုပ်နေတော့၏။

''ရန်သူနှင့် တွေ့နေပြီ''

အမှတ်(၃၀) စစ်ကြောင်းမှ သတင်းရသည်။ သို့သော် သေးတိုးစမ်းသည့်တိုက်ပွဲသာဖြစ်၏။ လမ်းပေါ်မှ ဖြတ်၍သွားသော ရန်သူ့မော်တော်ယာဉ်များကို ချုံခိုတိုက်ခိုက်နေခြင်းဖြစ်သည်။

လဝင်သွားသည့်အချိန်တွင် ရန်သူက တန်ပြန်တိုက်စစ် ဆင်လာသည်ဟု သတင်းရသည်။

အမှတ်(၃၀) စစ်ကြောင်းမှ တစ်ယောက်ကျဆုံး၊ တစ်ယောက် ဒဏ်ရာရ၍ နှစ်ယောက် ပျောက်ဆုံးနေသည်ဟု သိရ၏။

မကြာမီ အမှတ်(၃၀) စစ်ကြောင်းသည် ကျွန်တော်တို့ရှိရာသို့ ပြန်ဆုတ်လာပြီဟု သတင်းရောက်လာသည်။

ဒဏ်ရာရသူအတွက် တစ်နေရာရာတွင် ကျွန်တော်က အပေါ့စား လေယာဉ်ပြေးလမ်းကြောင်း ဖောက်၍ပေးပြီး ထိုရဲဘော်အား အိန္ဒိယသို့ ပို့ပေးရမည်ဖြစ်၏။ လေယာဉ်ပြေးလမ်းကြောင်းဖောက်ရန် အခါမသင့်သေးသည့်အချိန်အတွင်း ထိုရဲဘော်ကို မြင်းပေါ်တွင် တင်၍ ခေါ်ခဲ့ရမည်ဖြစ်၏။

အမှတ်(၃၀) စစ်ကြောင်း ပြန်ရောက်လာပြီးနောက် ဝော်မီဦးစီးသော အမှတ်(၄၀) စစ်ကြောင်းက သူ၏ ပွဲဦးထွက် ချုံခိုတိုက်ပွဲဆင်နွှဲရန် ချီတက်သွားသည်။

ဝော်မီ၏ စစ်ကြောင်းသည် မော်တော်ကားလမ်းကိုပင် ဖြတ်ကျော်ခြင်း

ကျွန်တော်သည် ရှေ့သို့ ဆက်လက်ချီတက်နေရသော်လည်း ကျွန်တော့်အား လှယဆန်းကြယ်သည့် ခမောက်ကို ပေးလိုက်သော လုံမပျို့ကို အမြဲလိုလို သတိရနေလေသည်။

ကျွန်တော်တို့သည် 'ကန်ဘက်'တောင်တန်းကို လှမ်း၍ တက်နေရပေပြီ။

ကန်ဘက်တောင်တန်း၏ ဟိုမှာဘက်တွင် ကျွန်တော်တို့ စစ်ရေးငင်ရမည့် ရန်သူများ ရှိနေလေသည်။ ကန်ဘက်တောင်တန်းကို တက်ပြီးနောက် တစ်ဖက်သို့ ဆင်းလိုက်လျှင် ၁၆ မိုင်ကျယ်၍ မိုင် ၄၀ ခန့်ရှည်လျားသော မြစ်ဝှမ်းကြီးကို တွေ့ရ၏။

မြစ်ဝှမ်းကြီးတစ်ခုလုံးမှာ ဟိုတစ်ခု သည်တစ်ခု ရှိနေသော ရွာကလေးတစ်ဒါဇင်ခန့်နှင့် ထိုရွာကလေးများ ပတ်ဝန်းကျင်ရှိ လယ်ကွက်အချို့မှအပ တောအထိ ဖုံးလျက်ရှိသည်။ မြစ်ဝှမ်းကြီး၏ အဆုံးသတ်ကို မတ်စောက်သော ဆီးဖြူတောင်တန်းကြီးက အနားပတ်ထားသည်။

မော်တော်ကားလမ်းတစ်လမ်းသည် မြစ်ဝှမ်းကြီး၏ အလယ်တည့်တည့်တွင် တောင်မှမြောက်သို့ ပြေးနေပြီး ကျောင်းကလေးရွာသို့ အရောက်၌ ထိုမော်တော်ကားလမ်းသည် အနောက်ဘက်သို့ လှည့်သွားကာ ဆီးဖြူတောင်တန်းကို တောင်ပေါက်လမ်းဖြင့်ကျော်၍ ချင်းတွင်းမြစ်ရှိရာသို့ ရှေးရှုနေသည်။

ကျွန်တော်တို့သည် ကန်ဘက်တောင်တန်းနှင့် ဆီးဖြူတောင်တန်းအကြားရှိ ရန်သူများအား ကျွန်တော့်နည်းဖြင့် တိုက်ထုတ်ကြရပေတော့မည်။ ဤဒေသအား ချင်းတွင်းကို ဖြတ်ကျော်လျက် အင်ဖာနှင့် ကိုဟီမာသို့ ရိက္ခာခဲယမ်းများ ပို့ရန် ရိက္ခာထောက်စခန်းအဖြစ် ဂျပန်တို့က အသုံးချနေခြင်းကို ကျွန်တော်တို့က ရပ်တန့်သွားအောင် တိုက်ခိုက်ဖျက်ဆီးရပေတော့မည်။

သုံးရက်မျှ ခရီးပြင်းနှင်လိုက်သောအခါ ကျွန်တော်တို့သည် ကန်ဘက်တောင်ခြေနှင့် မြစ်ဝှမ်း၏ အစပ်သို့ ရောက်လာကြ၏။

ရန်သူနှင့် တွေ့ရတော့မည်ဟူသော အသိကြောင့် တပ်သားတိုင်းပင် လက်ယားနေကြသည်။

စစ်ကြောင်းတစ်ကြောင်းက တစ်နေရာတွင် ချုံခိုတိုက်ခိုက်နေစဉ် ဒုတိယနှင့် တတိယစစ်ကြောင်းက ရပ်နားရင်း ရိက္ခာကောက်နေကာ စတုတ္ထနှင့် ပဉ္စမစစ်ကြောင်းများက ရန်သူအား အခြားတစ်နေရာမှ ချုံခိုတိုက်ခိုက်နေသော ကျွန်တော့်နည်းကို လက်တွေ့ကျင့်သုံးရတော့မည်ဖြစ်သော ကျွန်တော်သည် ကျွန်တော်တို့ဌာနချုပ်ကို စစ်ကြောင်းအားလုံးနှင့် လက်လှမ်းမီနိုင်မည့်နေရာတွင်

အမြဲရောက်ရှိနေရမည်ဟု တွက်မိသည်။

စစ်ကြောင်းအားလုံးလိုလိုပင် ရိက္ခာများ ပြတ်လပ်နေသည်။ သို့သော် ညောင်ကန်တွင် ရန်သူများ ရှိနေသည်ဟူသော လေကြောင်းကင်းထောက်အဖွဲ့မှ ပေးလိုက်သောသတင်းကြောင့် အမှတ်(၃၀) စစ်ကြောင်းအား ကျန်စစ်ကြောင်းများက ရိက္ခာကောက်နေစဉ် ရန်သူက လာ၍ အနှောင့်အယှက်မပေးနိုင်အောင် ညောင်ကန်သို့ ချီတက်တိုက်ခိုက်ရန် စေလွှတ်လိုက်သည်။

တပ်ကို ရုတ်တရက် ဆုတ်၍ မရနိုင်လောက်အောင် သဲသဲမဲမဲတိုက်ပွဲမျိုးကို မတိုက်ရန်လည်း ညွှန်ကြားလိုက်၏။

အိန္ဒိယရှိ ဌာနချုပ်က သုံးညတိုင်တိုင် ဆက်၍ လေယာဉ်ဖြင့် ရိက္ခာနှင့် ခဲယမ်းများ လာရောက်ချပေးသည်။

သစ်ပင်များနှင့် ချိတ်မိနေသော လေထီးများမှာ မိုင်ပေါင်းများစွာမှ မြင်နိုင်လောက်အောင် ဖွေးဖွေးလှုပ်နေတော့၏။

''ရန်သူနှင့် တွေ့နေပြီ''

အမှတ်(၃၀) စစ်ကြောင်းမှ သတင်းရသည်။ သို့သော် သွေးတိုးစမ်းသည့် တိုက်ပွဲသာဖြစ်၏။ လမ်းပေါ်မှ ဖြတ်၍သွားသော ရန်သူ့မော်တော်ယာဉ်များကို ချုံခိုတိုက်ခိုက်နေခြင်းဖြစ်သည်။

လဝင်သွားသည့်အချိန်တွင် ရန်သူက တန်ပြန်တိုက်စစ် ဆင်လာသည်ဟု သတင်းရသည်။

အမှတ်(၃၀) စစ်ကြောင်းမှ တစ်ယောက်ကျဆုံး၊ တစ်ယောက် ဒဏ်ရာရ၊ နှစ်ယောက် ပျောက်ဆုံးနေသည်ဟု သိရ၏။

မကြာမီ အမှတ်(၃၀) စစ်ကြောင်းသည် ကျွန်တော်တို့ရှိရာသို့ ပြန်ဆုတ်လာပြီဟု သတင်းရောက်လာသည်။

ဒဏ်ရာရသူအတွက် တစ်နေရာရာတွင် ကျွန်တော်က အပေါ့စားလေယာဉ်ပြေးလမ်းကြောင်း ဖောက်၍ပေးပြီး ထိုရဲဘော်အား အိန္ဒိယသို့ ပို့ပေးရမည်ဖြစ်၏။ လေယာဉ်ပြေးလမ်းကြောင်းဖောက်ရန် အခါမသင့်သေးသည့် အချိန်အတွင်း ထိုရဲဘော်ကို မြင်းပေါ်တွင် တင်၍ ခေါ်ခဲ့ရမည်ဖြစ်၏။

အမှတ်(၃၀) စစ်ကြောင်း ပြန်ရောက်လာပြီးနောက် တော်မီဦးစီးသော အမှတ်(၄၀) စစ်ကြောင်းက သူ၏ ပွဲဦးထွက် ချုံခိုတိုက်ပွဲဆင်နွှဲရန် ချီတက်သွားသည်။

တော်မီ၏ စစ်ကြောင်းသည် မော်တော်ကားလမ်းကိုပင် ဖြတ်ကျော်ခြင်း

မပြုနိုင်မီ ရန်သူ့တပ်တစ်တပ်နှင့် မမျှော်လင့်ဘဲ ဝင်တိုးမိတော့၏။

ခပ်ဝေးဝေးဆီမှ အတွဲလိုက် ပေါ်ထွက်လာသော စက်သေနတ်သံများနှင့် လက်ပစ်ဗုံးထုသံများက တိတ်ဆိတ်ငြိမ်သက်နေသော သန်းခေါင်ယံကို ပွက်ပွက် ညံ၍နေစေသည်။

စစ်ကြောင်းဘက်မှ ၄ ယောက်ကျဆုံးကာ ၄ ယောက် ထိခိုက်ဒဏ်ရာ ရသော်လည်း စစ်ကြောင်းသည် ရန်သူ ဒါဇင်ဝက်ခန့်ကို သုတ်သင်နိုင်ရုံမက လမ်းမှ ဆီးကြိုတိုက်ခိုက်သော ရန်သူကို ဖောက်ထွင်းပြီးနောက် ဆက်လက်ချီ တက်နိုင်ခဲ့၏။

ကြားရသောသတင်းက သင်းလှသည်။

ညဥ့်နက်သန်းခေါင်ယောက်တွင် တစ်ယောက်နောက်မှ တစ်ယောက် စီတန်း၍ ချီတက်ရသောနေရာမျိုးတွင် ကြို၍စောင့်နေသော ရန်သူကို ဖောက်ထွက်ကာ လိုရာခရီးသို့ ဆက်လက်ချီတက်နိုင်သော ခြင်းဒစ်စစ်ကြောင်း တစ်ကြောင်းမှာ 'ခေ'လှသည်တော့မဟုတ်။

ညက ပိတ်ပိတ်ပိန်းအောင် မှောင်နေသည်၊ တောကလည်း ထူလှသည်။ နယ်မြေအနေအထားကလည်း ကျဉ်းမြောင်းမှုကြောင့် လူနှင့်လားများသည် တစ်ယောက်နောက်မှ တစ်ယောက် စီတန်း၍ ချီတက်ကြရရာ စစ်ကြောင်းမှာ ရှေ့ဆုံးမှ နောက်ဆုံးအထိ ၂ ဖာလုံခန့် ရှည်နေသည်။ ဤမျှရှည်နေသော စစ်ကြောင်းတစ်ခုကို လက်ဆင့်ကမ်း၍ အမိန့်ပေးနေရသည်ကပင် ခက်နေ၏။ သည်အထဲတွင် ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော ကျည်ဆန်ထိပ်ဖူးများက တဝီဝီမြည်၍ ပြေးလာနေသောအခါ စစ်ကြောင်းတစ်ခုလုံးကို ထိန်းရန် ပို၍ခက်လာပြန်သည်။

လားများအား၊ လားထိန်းရဲဘော်များက ဘေးလွတ်ရာသို့ ဆွဲသံငင်သံ၊ စစ်ဖိနပ်နှင့် အောက်မှကျောက်ခဲများ ပွတ်တိုက်သံ၊ သေနတ်သံ၊ လက်ပစ်ဗုံးသံ၊ လဲကျသံ၊ ညည်းညူသံတို့မှာ သက်ဆိုင်ရာတပ်ဖွဲ့မှ တပ်မှူးများအား ရှေ့သို့ ဆက်၍ မည်ကဲ့သို့လုပ်ရမည်ကို မစဉ်းစားနိုင်အောင်ပင် တွေဝေသွားစေ နိုင်၏။

ဤကဲ့သို့သောအခြေအနေတွင် အမှတ် (၃၀) စစ်ကြောင်းက ရန်သူ ဒါဇင်ဝက်ခန့်ကို သုတ်သင်ပြီး ဆက်လက်ခရီးနှင်နိုင်သည် ဆိုခြင်းမှာ ချီးကျူး စရာပင် ဖြစ်တော့၏။

ကျွန်တော်တို့ တပ်မဟာဌာနချုပ်နှင့် အမှတ်(၃၀) စစ်ကြောင်းသည်

နောက်တစ်ရက် နံနက်တွင် ဆက်လက်ချီတက်လာခဲ့ကြရာ ညနေ ၄ နာရီ အချိန်၌ မန်းယုချောင်းသို့ ချဉ်းကပ်မိသည်။

ချောင်းမှာ မကျယ်လှသော်လည်း ချောင်းတစ်ဖက်တစ်ချက်တွင် ကျယ်ပြန့်သောလယ်ကွက်များ ရှိနေ၏။

ကျွန်တော်တို့စစ်ကြောင်းမှ သုံးပုံတစ်ပုံခန့်က ချောင်းကို ဖြတ်ကူးနေစဉ် ဒုတိယသုံးပုံတစ်ပုံခန့်မှာ ကျယ်ပြန့်သော လယ်ကွက်ထဲသို့ ရောက်နေပြီး ကျန်စစ်ကြောင်းမှာ တောင်ဘက်ရှိ တောထဲတွင်ပင် ရှိနေသေးသည်။

ဤအချိန်တွင် ရန်သူ့လေယာဉ်သံများကို ရုတ်တရက်ကြားလိုက်ရ၏။

လေယာဉ် ၁၂ စင်းသည် များစွာမမြင့်လှသောနေရာမှ ကျွန်တော်တို့ကို ဖြတ်ကျော်ပျံသန်းသွားကြ၏။

မော်တော်ကားလမ်းကို လေကြောင်းမှ ကင်းထောက်နေခြင်းပင်တည်း။

ကျွန်တော်တို့စစ်ကြောင်းအား ရန်သူက လေကြောင်းမှပင် ကင်းထောက်နေရသည်ကို ကျွန်တော်တို့က ဝမ်းသာမိ၊ ဂုဏ်ယူမိသည်။

လူများနှင့် လားများသည် လေယာဉ်သံ လာရာသို့ ခေါင်းပင်လှည့်၍ မကြည့်ကြဘဲ မိမိတို့ရောက်သည့်နေရာတွင် ကျောက်ရုပ်ကြီးများလို ရပ်နေကြ၏။

အကယ်၍ ရန်သူ့လေယာဉ်များကသာ ချောင်းကူးနေသူများနှင့် လယ်ကွက်ထဲသို့ ရောက်နေသူများကို မုံးဖြင့်ကြဲ၊ စက်သေနတ်ဖြင့် ပစ်၍ တိုက်ခိုက်ပါမူ ကျွန်တော်တို့ဘက်မှ အတော်ပင် အထိနာသွားနိုင်စရာရှိသည်။

သို့သော် ရန်သူ့လေယာဉ်များသည် တစ်ချက်မျှပင် ပစ်ခတ်တိုက်ခိုက်ခြင်းမပြုဘဲ မြောက်ဘက်ကောင်းကင်ထဲသို့ ဝင်ရောက်ပျောက်ကွယ်သွားကြ၏။

ကျွန်တော်တို့သည် မန်းယုချောင်းကို ကောင်းမွန်စွာဖြတ်ကျော်လာနိုင်ခဲ့ပြီးနောက် မော်တော်ကားလမ်းကို ဖြတ်ကျော်ရမည့်နေရာသို့ ရောက်လာသည်၊

ထိုနေရာသို့ မရောက်မီ လမ်းနှင့် ၂ ဖာလုံခန့် ကွာသောနေရာ၌ ကျွန်တော်တို့ အစဉ်တစ်စိုက် လိုက်လာခဲ့သော တောင်ပေါ်လမ်းကျဉ်းကလေးသည် ဝဲဘက်သို့ တံတောင်ဆစ်ချိုး ရုတ်တရက်ကွေ့သွားသည်ကို တွေ့ရပြီး မော်တော်ကားလမ်းရှိရာသို့ ဖြောင့်ဖြောင့်ကြီး ရှေးရှုနေသည်ကို သတိထားမိ၏။

ကျွန်တော်သည် ဂေါ်ရခါးတပ်ခွဲတစ်ခွဲ၏နောက်မှ တပ်မှူးအချို့နှင့် အတူ လေးငါးဆယ်ကိုက်ခန့် ခွာ၍ လိုက်ပါလာခဲ့ပြီး တံတောင်ဆစ်ချိုးသို့ ရောက်လာသည်နှင့်တစ်ပြိုင်နက် တောင်ကမ်းပါးပေါ်သို့ မော်၍ကြည့်လိုက်မိ

သည်။

ကျွန်တော့်ခေါင်းပေါ်တည့်တည့် ပေ ၁၀၀ ခန့်မြင့်သော ကမ်းပါးပေါ်၌ ကျွန်တော့်တို့အား ငေး၍ကြည့်နေသော စစ်သား ၄ ယောက်ကို အံ့ဩစွာ တွေ့ရ၏။

ထိုစစ်သား ၄ ယောက်၏ ယာဘက်ယွန်းယွန်းရှိ တောင်စောင်းပေါ် တွင်လည်း တဲအချို့ကို သစ်ပင်များအကြားမှ မြင်ရသည်ဟု ကျွန်တော် ထင်သည်။

လှမ်းတော့မည့်ဆဲဆဲ ကျွန်တော့်ခြေတစ်ဖက်သည် အလိုလိုရပ်တန့် သွား၏။

ဤနေရာတစ်ဝိုက်တွင် တဲများတွေ့ရကြောင်းဖြင့် ဤလမ်းမှ ချီတက် သွားနှင့်သော အမှတ် (၄၀) စစ်ကြောင်းမှ တပ်မှူးတော်မိက ကျွန်တော့်ထံ သတင်းပို့ထားပြီးဖြစ်၏။

ဤတဲများတွင် ရှိနေသူများမှာ ဂျပန်စစ်ကြောင်းများသာ ဖြစ်ရမည်။ သို့သော် ယခုတွေ့နေရသော တဲများသည် မြောက်ဘက် မိုင်ဝက်ခန့်အကွာ လောက်၌သာလျှင် ရှိနေရမည်ဖြစ်၏။ ယခုမူ ကျွန်တော်တို့နှင့် နီးကပ်လွန်း လှသည်။

ကျွန်တော်တို့ မြေပုံအဖတ်မှားလို့သော်လည်းကောင်း၊ မြေပုံက အပြမှား၍ သော်လည်းကောင်း ဖြစ်ရပေမည်။

ကျွန်တော်တွေ့လိုက်ရသော စစ်သား ၄ ယောက်မှာ ဂျပန်စစ်သား များသာဖြစ်သည်ဟု ယခုမှ ကျွန်တော်သိလာ၏။ သူတို့သည် ကျွန်တော့်အား ငေး၍ ကြည့်နေကြတုန်းပင်ဖြစ်၏။

ကျွန်တော်သည် သစ်ပင်တစ်ပင်နောက်တွင် အကာအကွယ်ယူလိုက်ပြီး ကျွန်တော်နှင့် အနီးဆုံး စစ်ဗိုလ်တစ်ယောက်ကို တိုးတိုးကလေးခေါ်လိုက်၏။

ကျွန်တော့်အနီးသို့ ရောက်လာသူမှာ 'ဘိန်းစ' ဖြစ်သည်။ ကျွန်တော်သည် ဂျပန်စစ်သား ၄ ယောက်အား လက်ညှိုးထိုး၍ပြရင်း 'ဘိန်းစ'ကို ပစ်ပစ် ဟု ပြောလိုက်၏။

'ဘိန်းစ'သည် ''အလို ဘုရားရေ ဂျပန်တွေ ဒီမှာပါကလား''ဟု အလန့် တကြား ပြောလိုက်၏။

ဂျပန်စစ်သားများက ကျွန်တော်တို့ကို ငေးမြငေး၍ ကြည့်နေသည်။

ကျွန်တော်သည် ဒေါသထွက်၍လာကာ ဆော်ကြပါတော့လားဟု အော်၍

အမိန့်ပေးလိုက်၏။ တပ်မဟာလုံခြုံရေးတပ်စုက တောင်ဆင်းလမ်းအတိုင်း ပစ်ခတ်၍ ဆင်းသွားသည်။

ဂျပန်စစ်သား ၄ ယောက်အနက် ၂ ယောက်မှာ ကျဆုံးကျန်ရစ်ခဲ့ပြီး ၂ ယောက်မှာ လက်လွတ်ထွက်ပြေး ပျောက်ကွယ်သွားကြ၏။ သူတို့သည် လက်နက်အပြည့်အစုံဖြင့် မော်တော်ကားလမ်းသို့ ရောက်နိုင်မည့် တောလမ်းကို ကင်းစောင့်နေကြခြင်း ဖြစ်လေသည်။

၁၀ မိနစ်ခန့်ကြာပြီးနောက် ကျွန်တော်တို့သည် မော်တော်ကားလမ်းကို ဘေးမသီရန်မခဘဲ ဖြတ်ကူးနိုင်ခဲ့ကြလေ၏။

မရေရာသော မြေပုံပေါ်တွင် အမှတ်အသားမရှိသော နေရာ၌ ဤကဲ့သို့သောအဖြစ်မျိုးနှင့် ရင်ဆိုင်တိုးခဲ့ရခြင်းအတွက် ကျွန်တော်သည် စိတ်မသက်မသာ ဖြစ်နေမိ၏။

ကျွန်တော်တို့ ချီတက်လာသည်ကို အထင်အရှားတွေ့နေပါလျက် ကျွန်တော်တို့အား ငေးရုံသာငေး၍ ကြည့်နေသော ဂျပန်စစ်သား ၄ ယောက်ကို အံ့ဩနေမိ၏။ ကျွန်တော့်ရှေ့မှ ချီတက်သွားသောသူများသည် ဤဂျပန် ၄ ယောက်ကို မမြင်ဘဲ ရှိနေခဲ့ခြင်းကိုလည်း အံ့ဩနေမိ၏။ အထူးသဖြင့် တပ်မဟာလုံခြုံရေးတပ်မှ အိန္ဒိယအမျိုးသား စစ်ပိုလ်ကလေးသည် ရန်သူဂျပန် ၄ ယောက်အား မတွေ့မမြင်ဘဲရှိနေခဲ့ခြင်းမှာ တာဝန်မကျေပွန်ရာကျနေသည် သာမက စစ်သားလည်း မပီသရာ ကျရောက်နေသည်။

ထိုနေ့ညနေတွင် ထိုအိန္ဒိယအမျိုးသား စစ်ပိုလ်ကလေးအား ရိုးရိုးစစ်သားအဖြစ်သို့ ရာထူးလျှော့ချလိုက်ပြီးနောက် ကြိုရာလေယာဉ်ဖြင့် အိန္ဒိယသို့ ပြန်ပို့လိုက်၏။

'တော်မီ'ဦးစီးသော စစ်ကြောင်းသည် ဂျပန်မော်တော်ကားအုပ်စုကလေး တစ်ခုကို ပထမညတွင် ချောင်းမှန်းလိုက်နိုင်၏။ ပိုင်ယက်ခေါ် သယ်ယူ၍သွားနိုင်သော တင့်ကားဖျက်လက်နက်က ရှေ့ဆုံးမှ ဦးဆောင်၍လာသော ရန်သူ့မော်တော်ယာဉ်ကို မီးလောင်တိုက်သွင်းလိုက်၏။ တစ်ချိန်တည်းတွင်ပဲ စက်သေနတ်သမားများက ရန်သူ့မော်တော်ယာဉ်အုပ်စုကို အနီးကပ်၍ သုတ်သင်ပစ်လိုက်၏။ ရန်သူ့ဘက်မှ ၄၀ ယောက်ကျဆုံးပြီး 'တော်မီ'၏ အမှတ် (၄၁) စစ်ကြောင်းမှ ရဲဘော် ၂ ယောက် ၃ ယောက်သာ ထိခိုက်ဒဏ်ရာရ၏။

နောက်တစ်နေ့ညတွင် 'တော်မီ'သည် တပ်ဆုတ်၍လာပြီးနောက် အနောက်ဘက်စူးစူးသို့ ချီတက်သည်။ ထို့နောက် မြောက်ဘက်သို့ လှည့်၍

တက်ခဲ့ပြန်သည်။

'ကင်မရွန်း' စစ်သားများပါဝင်သော စစ်ကြောင်းက 'တော်မီ'၏ စစ်ကြောင်းထက် မြောက်ဘက် ၅ မိုင်ကွာသော နေရာမှနေ၍ တပ်စုတစ်စု ဖြင့် တစ်ကြိမ်၊ တပ်ခွဲတစ်ခွဲဖြင့် တစ်ကြိမ်၊ တပ်ရင်းတစ်ရင်းဖြင့် တစ်ကြိမ်၊ ရန်သူများအပေါ်တွင် ၃ ကြိမ်တိုင်အောင် အနိုင်ယူလိုက်နိုင်၏။

ဂျပန်တပ်ခွဲတစ်ခွဲသည် နောက်မှ ကာပစ်ပစ်ပေးမည့်သူများ မရှိဘဲ လယ်ကွင်းပြောင်ပြောင်ကြီးကိုဖြတ်၍ ချီတက်လာရာ ကတုတ်ကျင်းများတူး၍ စောင့်နေသော ကင်မရွန်းစစ်သားများကို မိုက်မိုက်ကန်းကန်း တက်၍ တိုက်ခိုက် ကြ၏။

မိုက်ကန်းသည့်အလျောက်လည်း ရန်သူ့ဘက်မှ အထိနာလှချေ၏။

ဒုတိယနေ့ တိုက်ပွဲပြီးဆုံးသည့်အချိန်တွင် ရန်သူ့ဘက်မှ လူ ၂၀၀ ခန့် ထိခိုက်ဒဏ်ရာရနေတော့၏။ ထိုအထဲတွင် ထက်ဝက်ခန့်မှာ အသက်ပျောက်နေ သူများသာ ဖြစ်တော့သည်။ 'ကင်မရွန်း'စစ်သားများဘက်မှ ၅ ယောက်သာ ကျဆုံးသည်။

ဤတိုက်ပွဲတွင် မိမိတို့ဘက်မှ အများအပြား ကျဆုံးဒဏ်ရာရနေပါလျက် လယ်ကွင်းပြောင်ပြောင်ကိုဖြတ်၍ တစ်ယောက်တည်း တိုက်စစ်ဆင်လာသော ဂျပန်စစ်သားတစ်ယောက်ကို တွေ့ရ၏။ သူသည် စစ်သေနတ်ကိုင်ထားသော 'ကင်မရွန်း'စစ်သား၏ ပြောင်းဝထိပ်အထိ ရိုင်ဖယ်သေနတ်တစ်လက်ကို အသင့်ကိုင်၍ ချီတက်လာသည်။

စက်သေနတ်သမားက ထိုဂျပန်စစ်သားကို အရိုးအသား ရှာမတွေ့ အောင် သုတ်သင်ပစ်ခဲ့သည်။ မရှုမလှကျဆုံးခဲ့လေသော ထိုဂျပန်စစ်သား၏ ရိုင်ဖယ်သေနတ်ကို ကောက်ယူ၍ ကြည့်လိုက်သောအခါ လုံ့စွပ်လည်း တပ်မထား၊ မောင်းလည်း တင်မထားသည်ကို အံ့သြဖွယ် တွေ့ရှိရလေသည်။

ဧပြီလ ၁၁ ရက်နေ့...

ဂျပန်စစ်သားများသည် ကန်ဘက်တောင်တန်းနှင့် ဆီးဖြူတောင်တန်း အကြားရှိ ၁၆ မိုင်ကျယ်၍ မိုင် ၄၀ ရှည်လျားသော မြစ်ဝှမ်းတွင် ပျားပန်း ခပ်မျှ ခြေရှုပ်နေကြတော့၏။ အမှတ်(၃၀) စစ်ကြောင်းသည် ချုံခိုတိုက်ခိုက်ရန် အတွက် အကွက်ကောင်းမည့်နေရာကို ရှာနေစဉ် တက်ချီ –ဆင်းချီ လုပ်နေ သော ဂျပန်စစ်တပ်တစ်တပ်နှင့် ဝင်၍တိုးမိတော့သည်။

အိုင်ယာလန် မင်းမျိုးမင်းနွယ်ဖြစ်သော မက်ဂီလီကူဒီသည် သူခေါင်း

ဆောင်၍ ခေါ်လာသော လားများကို ထားပစ်ခဲ့ပြီး စက်သေနတ်ကြီးတစ်လက်ကို ဆွဲကာ ရန်သူနှင့် ကိုက် ၅၀ သာကွာသော သစ်ပင်တစ်ပင်ထက်သို့ တက်၍ သူ့ရဲဘော်များကို အမိန့်ပေးနေသည်။

သစ်ပင်တွင် အရွက်ကလည်း တစ်ရွက်မျှမရှိ၊ သူ့အသံကလည်း အမိန့်ပေးလိုက်တိုင်း မောင်းကြီးကိုထုလိုက်သလို မြည်ဟည်းကျယ်လောင်လျက်ရှိရာ ဂီလီကူဒီအတွက် အသက်အန္တရာယ် စိုးရိမ်စရာ ဖြစ်နေတော့သည်။ ဂျပန်အဖွဲ့ကလေးတစ်ဖွဲ့သည် သူရှိနေသော သစ်ပင်ကို စက်သေနတ်များဖြင့် အတွဲလိုက် စတင်ပစ်ခတ်လာကြ၏။ ဂီလီကူဒီသည် သူ၏ဘရင်းဖြင့် ရန်သူအချို့ ကို သုတ်သင်ပြီးနောက် သစ်ပင်အောက်သို့ ဆင်းလာသည်။ သူသည် ဤစွန့်စားမှုအတွက် မီလစ်ထရီကရော့စ်ကို ရရှိခဲ့လေသည်။

ကျွန်တော်က သူ၏ စွမ်းရည်နှင့် သတ္တိအတွက် ချီးကျူးစကား ဆိုလိုက်၏။ သို့သော် သူက ကျွန်တော့်အား ကျေးဇူးတင်ပါသည်ဟု ပြောရန် သတိမရဘဲ လောလောလတ်လတ် ကျဆုံးသွားခဲ့ရရှာသော သူ့တပ်မှ ဂေါ်ရခါးရဲဘော်ကလေးတစ်ယောက်၏ အကြောင်းကိုသာ တဖွဖွရေရွတ်ပြောဆိုနေလေသည်။

ဂီလီကူဒီက ဘရင်းကိုဆွဲ၍ သစ်ပင်ပေါ်သို့ တက်နေစဉ် ဘရင်းအဖွဲ့မှ ဂေါ်ရခါး ၂ ယောက်သည် ရန်သူကို မြင်နိုင်သည့်နေရာနှင့် ဂီလီကူဒီ၏ အမိန့်ကို ကြားနိုင်သည့်နေရာသို့ ပြေးထွက်သွားပြီး နေရာယူလိုက်ကြ၏။

ဂေါ်ရခါးရဲဘော်တစ်ယောက်မှာ အသက် ၁၇ နှစ်သာ ရှိသေးသည်။ သူ့ဘေးတွင် အခြားဂေါ်ရခါးတစ်ယောက်က ကျည်အိမ်ကို ကိုင်၍ မှောက်လျက်သားရှိနေ၏။

အမှတ် ၁ ဂေါ်ရခါးရဲဘော်က စ၍ပစ်လိုက်သည်နှင့် တစ်ပြိုင်နက် ရန်သူ့ဘက်မှ စက်သေနတ်တစ်လက်ကလည်း အနီးမှကပ်၍ ဆွဲလိုက်သံ ပေါ်ထွက်လာသည်။ ဤအကြိမ်တွင်ပင် အမှတ် ၁ ဂေါ်ရခါးရဲဘော်ကလေးသည် မျက်နှာနှင့် လည်ပင်းများတွင် ပြင်းပြင်းထန်ထန်အထိခံရပြီး ချက်ချင်းပင် ကျဆုံးသွားရရှာသည်။ သို့သော် အမှတ် ၁ ဂေါ်ရခါးရဲဘော်သည် စက်သေနတ်ထိမှန်ခံရသောနေရာ၌မသော၊ ဝါ သူပစ်နေသော ဘရင်းနောက်နား၌မသော၊ သူသည် ကြီးကျယ်သော ဝေဒနာကို ခံစားနေရလျက်ပင် ညာဘက်သို့ လှိမ့်၍ချလိုက်ပါ၏။ ထိုအချိန်တွင်ပင် သူသည် အသက်ပျောက်ခဲ့ပြီ ဖြစ်၏။

သို့သော် သူသည် သေပြီးသည့်နောက်၌လည်း သူ၏တာဝန်ကို ကျေပွန်

ခဲ့ပါသေး၏။ အဘယ်ကြောင့်ဆိုသော် သူ့လက်တစ်ဖက်သည် သူ့ညာဘက်ရှိ ဂေါ်ရခါးရဲဘော်ကို ကျောပေါ်တွင် ပုတ်မိလျက်သား ဖြစ်သွားသောကြောင့် ပါတည်း။

အမှတ်(၁) ဂေါ်ရခါးရဲဘော်ကလေးသည် သူကျဆုံးသွားရလင့်ကစား သူ့နေရာကို အမှတ်(၂) ဂေါ်ရခါးရဲဘော်က ချက်ချင်းဝင်၍ ယူနိုင်အောင်အထိ တာဝန်ကျေပွန်ခဲ့လေသည်တကား...။

ဂီလီကူဒီ၏စကားကို ကြားရသော ကျွန်တော်သည် တာဝန်ကို သတ္တိ ရှိရှိဖြင့် ထမ်းဆောင်ရုံမက သေပြီးသည်၏ အခြားမဲ့၌ပင်လျှင် မိမိ၏ ပြုလုပ် ဖွယ်ကိစ္စကို နှောင့်နှေးခြင်းမရှိဘဲ ပြုလုပ်သွားခဲ့သော အမှတ်(၁) ဂေါ်ရခါး ရဲဘော်ကလေး ဒမ်းဗဟာဒူးအတွက် မျက်ရည်များပင် ဝိုင်း၍လာမိ၏။

ပြေလ ၁၁ ရက်နေ့ညတွင်ပင် လေယာဉ်မှ ရိက္ခာနှင့် ခဲယမ်းများ လာရောက်ချပေး၏။ ကျွန်တော်တို့အတွက် သတင်းစာနှင့် စာများလည်း ပါလာ၏။

ဘာဘာရာနှင့်အတူ သမီးကလေးမှာ ကျန်းကျန်းမာမာ ရှိကြသည်။ သို့သော် ဘုံဘေမြို့၏ ပူနွေးသော ရာသီဥတုကြောင့် အနည်းငယ်နွမ်းလျနေ ကြ၏။ ဘာဘာရာသည် မကြာမီအတွင်း ကက်ရှ်မီးယားသို့ ပြောင်းရွှေ့သွားရန် ကြံစည်ထားသည်ဟု စာထဲတွင် ပါလာ၏။

ကျွန်တော်သည် ဘာဘာရာထံမှ ရောက်လာသော စာကို ဖတ်ရင်း သမီးနှင့် ဇနီးကို အောက်မေ့နေ၏။ ကျွန်တော့်လို သမီးနှင့် ဇနီးရှိသော စစ်သည်တော်များသည်လည်း အိမ်မှရောက်လာသောစာများကို ဖတ်ရင်း အလွမ်းဖိုးစွေနေကြပေလိမ့်မည်။

အချို့စစ်သည်တော်များမှာ ၁၉၃၉ ခုနှစ်မှစ၍ မိမိတို့သားမယားများနှင့် ခွဲခွာလာခဲ့ကြသည်။ တစ်ခေါက်မျှ အိမ်သို့ ပြန်ရောက်ခွင့်မရကြသေး။ ၅ နှစ်တိုင်တိုင် စစ်တွင်ကြာခဲ့ပြီ။

ထိုနေ့ညက လေယာဉ်မှ ရိက္ခာချပေးရာတွင် ဗိုလ်ကြီးတစ်ဦးဖြစ်သူ ဟန်လေမှာ အပေါ်မှ လေထီးမပါဘဲ ကျလာသော အထုပ်တစ်ခုနှင့် ထိမိုက်မိပြီး ခေါင်းခွဲကွဲသွားသည်ဟု ဒေါက်တာပွိုက်က သတင်းပို့သည်။

တိုက်ပွဲတွင် ဒဏ်ရာရသူများ၏ စာရင်းကို သက်ဆိုင်ရာသို့ ပို့ဆောင်ရာ၌ ခေါင်းတွင်ဒဏ်ရာရသူဖြစ်လျှင် သေနတ်ဒဏ်ရာ ခေါင်း,ရင်ဘတ်တွင် ဒဏ်ရာ ရသူဖြစ်လျှင် သေနတ်ဒဏ်ရာ ရင်ဘတ် ၂ နေရာစလုံးတွင် ဒဏ်ရာရသူဖြစ်

ခဲ့လျှင်...သေနတ်ဒဏ်ရာနှင့် နှစ်ချက် စသည်ဖြင့် ရေးသားပေးပို့ရမြဲဖြစ်၏။

လေယာဉ်မှ ရိက္ခာချပေးစဉ် လေထီးမပါသော နာနတ်သီးအိတ်ကြီး တစ်လုံး ခေါင်းကို လာရောက်ထိမှန်၍ ဒဏ်ရာရသူကိုမူ မည်သို့နာမည်တပ်ရ မည်မသိအောင် ဖြစ်နေ၏။ ထို့ကြောင့် ကျွန်တော်တို့က မိုးပျံသစ်သီးဒဏ်ရာဟု ပြောင်၍ခေါ်ဆိုကြ၏။

ဗိုလ်ကြီးဟန်လေမှာ ဤနည်းဖြင့် ခေါင်းခွဲကွဲရရှာသူဖြစ်၏။ ဒေါက်တာ ဝိုက်က အိန္ဒိယသို့ ပြန်ပို့မှဖြစ်မည်ဟု ဆိုသည်။ မနေ့တစ်နေ့ကပင် ဒဏ်ရာ ပြင်းထန်သူများအား လေယာဉ်ဖြင့် ပြန်ပို့ပြီးခဲ့ရုံရှိသေးသည်။ ကျွန်တော်တို့ ရောက်ရှိနေသော နေရာမှ နောက်သို့ ၃ မိုင်ခန့် ပြန်၍ဆုတ်ကာ လယ်ကွင်းပြင် ကို လေယာဉ်ပြေးလမ်းကြောင်း လုပ်ပေးခဲ့ရသေးသည်။ ယခုအချိန်တွင် ကျွန်တော့်တို့မှာ အမှတ်(၄၁) နှင့် (၄၈) စစ်ကြောင်းများဖြင့် မြောက်ဘက်သို့ အရေးတကြီး ချီတက်ရန်ရှိနေသောကြောင့် ဤတစ်ယောက်တည်းသောသူနာ ကို လေယာဉ်ဖြင့် ပို့ပေးရန် အခက်တွေ့နေလေသည်။

ကင်မရွန်းစစ်သည်တော်များပါဝင်သော စစ်ကြောင်းက မော်တော်ကား လမ်းပေါ်သို့ ပြန်လည်ရောက်ရှိလာပြီး ဂေါ်ရခါးစစ်သားများပါဝင်သော စစ် ကြောင်းက ချုံဒိုတိုက်ခိုက်ရန် ထွက်ခွာကြမည့်ဆဲဆဲ ဖြစ်နေ၏။

ကျွန်တော်တို့သည် ဂျပန်ရိက္ခာစောင့်တပ်များ၊ မြို့စောင့်တပ်များအား မော်တော်ကားလမ်းတစ်လျှောက်သို့ ရောက်လာအောင် မျှား၍ မြူ၍ သွေး ဆောင်၍ ခေါ်ယူထားခဲ့ပြီးဖြစ်ရာ ယခုအချိန်၌ ဂျပန်တို့၏ ရိက္ခာနှင့် ခဲယမ်း သိုလှောင်ရာစခန်းကြီးတစ်ခုဖြစ်သော ကျောင်းကလေးကို တိုက်ခိုက်ရန် သင့်ပြီဟု ကျွန်တော်က ယူဆထားခဲ့၏။

ကျွန်တော်တို့သည် ဟန်လေအား လေယာဉ်ဖြင့် ပြန်ပို့ပေးရန် စီစဉ်ရမည့် အတွက် ချီတက်မှု အနည်းငယ်နောက်ကျမည်ဖြစ်၏။

ညဘက်တွင်ပင် ဟန်လေးအား ဆရာဝန်တစ်ယောက်၊ အစောင့်ရဲဘော် အချို့နှင့်အတူ နောက်ဘက် ၃ မိုင်ကွာရှိ လေယာဉ်ပြေးလမ်းကြောင်း ရှိရာသို့ ပို့ပေးပြီးနောက် အိန္ဒိယရှိ လေတပ်ဌာနချုပ်သို့ အပေါ့စားလေယာဉ် လေးတစ်စင်း လွှတ်ပေးရန် အကြောင်းကြားလိုက်သည်။

နောက်တစ်နေ့ နံနက် ၈ နာရီအချိန်တွင် ဟန်လေနှင့်တကွ အဖွဲ့ဝင် အားလုံးအပြင် အမေရိကန်လေတပ်မှ စစ်ဗိုလ်ကလေး ၂ ဦးပါ ကျွန်တော် တို့ထံ ပြန်ရောက်လာကြသည်။ လေတပ်ဌာနချုပ်က အပေါ့စားလေယာဉ်

သောကြောင့်ပါတည်း။

ကျွန်တော်တို့လိုပင် မဂ္ဂိက ရန်သူကို ထိမထင်သည့်အသွင်ကို ပြခဲ့၏။

မော်တော်ကားလမ်းပေါ်တည့်တည့်ရောက်မှ ဟန်လေအား မဂ္ဂိပေါ်တွင် စည်းနှောင်၍ထားခဲ့သော ကြိုးများမှာ ပြုတ်ကျနေပြန်သည်။ ဟန်လေအနားမှ လိုက်ပါလာသော ရဲဘော်က အချိန်မီ ကယ်ဆယ်လိုက်နိုင်၏။ မဂ္ဂိကိုယ်မှ ကုန်းနှီးနှင့် ဝမ်းပတ်ကြိုးများ ပြေကျသည်မှာ တိုက်ပွဲစဉ်တစ်လျှောက်လုံးတွင် ဒီတစ်ကြိမ်သာ ဖြစ်ဖူးသည်။

ဟန်လေကို စောင့်ရှောက်ကြည့်ရှုလိုက်ပါလာသော အဖွဲ့သားများသည် မော်တော်ကားလမ်းလယ်ကောင်တွင် ၅ မိနစ်တိတိမျှကြာအောင် အလုပ်များနေခဲ့ရသည်။

မော်တော်ကားလမ်းမကြီးကို ဖြတ်ကျော်မိကြပြီးနောက် အမှတ် (၃၀) စစ်ကြောင်းနှင့် ဆုံမိကြပြီး အရှေ့ဘက်သို့ ဆက်လက်ချီတက်လာခဲ့၏။

ကျောင်းကလေးကို နှစ်ဖက်ညှပ်၍ တိုက်ခိုက်ရန်တည်း။

ကင်မရွန်းစစ်သည်တော်များ ပါဝင်သော စစ်ကြောင်းက မော်တော်ကား လမ်းကိုခွ၍ အရှေ့ဘက်မှ စတင်တိုက်ခိုက်ရမည်ဖြစ်သည်။ သို့သော် မီးကုန် ယမ်းကုန်မတိုက်ဘဲ ကန့်သတ်တိုက်ပွဲသာ တိုက်ရမည်ဟု ညွှန်ကြားထားသည်။

ဖြစ်နိုင်လျှင် ကျောင်းကလေးရွာကို ဝင်ရောက်တိုက်ခိုက်မည်ဖြစ်သော် လည်း အကျအဆုံးနည်းနိုင်သမျှ နည်းစေရန်ဖြစ်၏။ ကျောင်းကလေးထက်ပို၍ တက်ရန်မလို၊ အဘယ်ကြောင့်ဆိုသော် အမှတ် (၄၁) နှင့် ၄၆ စစ်ကြောင်း များက ရွာမြောက်ဘက်မှနေရှိ အဆုံးအဖြတ်ပေးနိုင်သော တိုက်ပွဲကို ဆင်နွှဲ ရမည်ဖြစ်သောကြောင့်တည်း။

မြောက်ဘက်မှ ဖိ၍တိုက်လာလျှင် ရန်သူများသည် ရွာတောင်ဘက်သို့ ပြေးထွက်လာကြမည်ဖြစ်၏။ ထိုအခါ ရွာတောင်ဘက်မှ စောင့်နေသော ကင်မရွန်းစစ်ကြောင်းက ထွက်လာသမျှရန်သူကို လက်သံပြောင်ပြောင်ဖြင့် သုတ်သင်နိုင်ကြမည်ဖြစ်သည်။

ကျောင်းကလေးသို့ ချီတက်ရာတွင် လျှို့ဝှက်ရနိုင်သမျှ လျှို့ဝှက်ရန် လိုသည်။ ရန်သူက နီးနီးကလေးမှ ကျွန်တော်တို့ကို အနံ့မခံမိအောင် လျှို့ဝှက်သိပ်သည်းစွာ ချီတက်ရန်လိုသည်။

ကျောင်းကလေးရှိ ဂျပန်တပ်များသည် မော်တော်ကားလမ်းရှိရာ တောင် ဘက်သို့သာ အထူးအာရုံစိုက်နေကြမည် ဖြစ်သည်ကိုလည်း ယုံမှားစရာမရှိ။

တောင်ဘက်မှ တက်လာမည့် ကင်မရွန်းစစ်ကြောင်းသည် ဓာတ်ဖြင့်စခန်း၍ ပုန်းလျှိုး ကွယ်လျှိုး တက်လာရန်မလို။

ကျွန်တော်နှင့်တကွ တော်မီဦးစီးသောတပ်များ။ ဂေါ်ရခါးတပ်များက အရှေ့မြောက်ဘက်သို့ လျှို့ဝှက်စွာ ချီတက်သွားရမည်။

ထို့နောက် ထူထပ်သောတောကိုဖြတ်၍ အရှေ့တောင်ဘက်သို့ တက်လာ ရမည်။ ထို့နောက် တောင်ဘက်စူးစူးသို့ ဆင်းရမည်ဖြစ်သည်။

ကျောင်းကလေးရွာသို့ မြောက်ဘက်ခပ်လှမ်းလှမ်းမှ ချည်းကပ်မိသည့် နေ့လည်ဘက်တွင် ရွာတောင်ဘက်ဆီမှ ပစ်သံခတ်သံများပေါ်လာသည်။

ကျွန်တော်တို့နားနေသော တောစပ်နှင့် ကျောင်းကလေးရွာအကြားတွင် အကာအကွယ်ကင်းမဲ့သော တစ်မိုင်ခန့်ကျယ်သည့် လယ်ကွင်းပြင်ကြီး ရှိနေ သည်။

ကင်မရွန်းစစ်ကြောင်း၏ ကြိုးမဲ့ကြေးနန်းမှ သတင်းရောက်ရှိလာသည်။

တိုက်ပွဲ စ၍ဖြစ်နေပေသည်။

ရန်သူဘက်မှ ခုခံမှု အနည်းငယ်သာတွေ့ရသည်။ ရန်သူ အယောက် နှစ်ဆယ်လောက်ကို သုတ်သင်ပစ်နိုင်သည်။ သူတို့မှတ်ပေးထားသောနေရာသို့ တက်ရောက်နိုင်သည်ဟု သိရ၏။

ရန်သူများသည် ရွာမြောက်ဘက်ကိုမူ ပြင်းပြင်းထန်ထန် ကာကွယ်လျက် ရှိနေသေးသည်။ တော်မီနှင့် ကျွန်တော်တို့သည် တော်အုပ်အစအထိ တွား၍ တက်သွားကြပြီးနောက် တော်မီစစ်ကြောင်းက ကျောင်းကလေးကို တက်၍ တိုက်ခိုက်လျှင် ကျွန်တော်တို့က မည်သို့အကူအညီပေးမည်ကို တိုင်ပင်စီစဉ် ကြ၏။

လေတပ်အကူအညီပါမှ ကောင်းမည်ဟု ဆုံးဖြတ်ကြသည်။ မော်တာအဖွဲ့ ကလည်း ပြင်းပြင်းထန်ထန် ထုပေးရမည်။

ထို့နေ့ညနေဘက်နှင့် ညဘက်တွင် တိုက်ခိုက်ရေး အစီအစဉ်များကို အပြီးသတ် ချမှတ်လုပ်ကိုင်ကြသည်။

နောက်တစ်နေ့နံနက် အရုဏ်တက်လာပြီးသည်နှင့်တစ်ပြိုင်နက် တော်မီ ခေါင်းဆောင်သော အမှတ်(၄၁) စစ်ကြောင်းသည် သံလိုက်အိမ်မြှောင်ကို အဖော်ပြုလျက် ကျောင်းကလေးဆီသို့ ချီတက်တက်သွားသည်။ ကျွန်တော်က ကျွန်တော်၏ အမိန့်ပေးအဖွဲ့နှင့်အတူ အမှတ်(၃၀) စစ်ကြောင်းကို အရံတပ် အဖြစ်ထား၍ နောက်မှ ချီတက်လိုက်ပါလာသည်။

ခရီးအတန်ချီတက်မိတိုင်း ကျွန်တော်သည် ရောက်ရာနေရာကို လှည့်လည်စစ်ဆေးသည်။ တပ်များကိုလည်း စစ်ဆေးသည်။ ကျွန်တော်က ချုံခိုတိုက်ခိုက်လိုက်၊ နားလိုက်။ နောက်တစ်ဖန် ချုံခိုတိုက်လိုက် လုပ်သလို ရန်သူက ကျွန်တော်တို့အား တန်ပြန်၍လုပ်မည်ကို စိုးရိမ်သောကြောင့်တည်း။

တောစပ်အဆုံးသို့ မရောက်မီ စစ်ကြောင်းအားလုံးကို ရပ်ရန် အမိန့်ပေးလိုက်ပြီးနောက် မိကျောင်းသွား တွားသွား၍ ကျောင်းကလေးဆီသို့ တဖြည်းဖြည်း ချီတက်စေသည်။ မော်တာနှင့် စက်သေနတ်များ၊ ခဲယမ်းများကို တွား၍ သွား၍ ချီတက်ရင်းကပင် စစ်သည်တော်များနှင့် တစ်ပါတည်း ယူသွားစေသည်။

မကြာမီ တိုက်စစ်ဆင်မည့် တပ်ခွဲများလည်း နေရာယူပြီး ဖြစ်နေကြတော့၏။

မိနစ် ၂၀ ခန့်ကြာလျှင် မော်တာအဖွဲ့သားများက အစွန်ဘက်ကျသော ရန်သူ့ ကတုတ်ကျင်းများ၊ ဘန်ကာများကို မော်တာဗုံးများဖြင့် စတင်၍ ထုကြတော့၏။

ကျွန်တော်တို့သည် ဌာနချုပ်မှ ဗုံးကြဲလေယာဉ်များ တိုက်ပွဲစ၍ ၁၀ နှစ် အကြာတွင် ကျွန်တော်တို့ထံ ရောက်ရှိလာရန် မှာထားသည်။

၁၀ မိနစ်စေ့လာသည့် လေယာဉ်များက ပေါ်မလာသေး။ မော်တာတပ်ဖွဲ့က ရန်သူ့ကတုတ်ကျင်းများကို ဆက်၍ ထုမြဲထုနေ၏။ သို့သော် ကျွန်တော်တို့သည် ခဲယမ်းမီးကျောက်များကို ဗုံးပေါလအော သုံးနိုင်သူများကား မဟုတ်။ ကျွန်တော့်ကို မမျှော်လင့်သည့်အချိန်တွင် ရန်သူက လာရောက်တိုက်ခိုက်မည့် အန္တရာယ်ကို ကာကွယ်ရန်လည်း ခဲယမ်းမီးကျောက်များကို ချန်ထားရ၏။

ရန်သူဘက်မှ တစ်ချက်တစ်ချက်စီ အတွဲလိုက်ပစ်ခတ်လိုက်သော ကျည်ဆန်ထိပ်ဖူးများသည် ကျွန်တော်တို့ခေါင်းပေါ်မှ ကျော်၍သွားကြ၏။

ကျွန်တော်တို့ဘက်မှ ပစ်ခွင်းလိုက်သော မော်တာဗုံးများသည် ရွာအစွန်ရှိ တဲကလေးများကို ပြာပုံဖြစ်သွားစေသည်သာမက ရွာတွင်းရှိသော သစ်သားအိမ်ကြီးအိမ်ကောင်း သုံးလေးအိမ်ကိုလည်း မီးသင့်လောင်စေခဲ့သည်ဖြစ်၏။

ချိန်းထားသည့်အချိန်ထက် ဆယ်မိနစ်ကျော်လာခဲ့သည်ဖြစ်သော်လည်း ဗုံးကြဲလေယာဉ်များက ရောက်လာခြင်းမရှိသေး။ ရွာအပြင်ဘက်မှ လှမ်း၍ လှမ်း၍ ပစ်ခတ်နေသည်မှာလည်း ကျွန်တော်တို့အဖို့ ကျည်ဆန်ဖြုန်းတီးရာ

ရောက်လာသည်။

ကျွန်တော်တို့သည် လေယာဉ်များကို ဆက်လက်စောင့်ဆိုင်းနေတုန်း ခက်နေတော့၏။ ရွှေတွင်လည်း ကိုက် ၂၀၀ ခန့်ကျယ်သော တလင်းပြောင် ပြောင်ကြီးက တော်မီ၏စစ်ကြောင်းကို ဘယ်လိုမှ အကာအကွယ်မပေးနိုင်။

ကျွန်တော်တို့သည် ကြိုးမဲ့ကြေးနန်းဖြင့် အိန္ဒိယရှိ လေတပ်ကို အကြောင်း ကြားသည်။ အဆက်အသွယ်ပင် လုပ်၍မရ။

ကျွန်တော်သည် မိုင်းဗုံးကို အကာအကွယ်ဖြင့်ပစ်စေပြီးနောက် တော်မီ ၏ စစ်သည်တော်များကို လယ်ကွင်းပြောင်ပြောင်ထဲမှ ဖြတ်၍ ချီတက်စေသည်။

ကျွန်တော်တို့က ရန်သူထက် အင်အား ပိုမိုသာလွန်မည်ဟု ကျွန်တော် ယုံကြည်သည်။ ကျောင်းကလေးရွာ တိုက်ပွဲသည် ကျွန်တော်တို့ စစ်ကြောင်း အတွက် စစ်တပ်ပီပီ အင်နှင့်အားနှင့် မျက်နှာချင်းဆိုင်၍ တိုက်ခိုက်ရသော ပွဲဦးထွက်တိုက်ပွဲဖြစ်ရာ ကျွန်တော်တို့အတွက်သော်လည်းကောင်း။ ရန်သူများ ဂျပန်များအတွက်သော်လည်းကောင်း မှတ်မှတ်သားသားဖြစ်၍ ကျန်ရစ်ခဲ့စေ ချင်သည်။

အမှတ်(၁၁၁) တပ်မဟာမှ လာရောက်တိုက်ခိုက်ခဲ့လျှင် ပြန်လည်ခုခံရန် ကြံစည်ခြင်းသည် အချည်းနှီးတည်းဟူသော သင်ခန်းစာကို ရန်သူ ဂျပန်များ ကသော်လည်းကောင်း၊ ကျွန်တော်တို့ စစ်သည်တော်များကသော်လည်းကောင်း၊ မှတ်မှတ်ရရ ဖြစ်စေချင်သော ဆန္ဒပင်တည်း။

အမှတ်(၄၁) နှင့် (၄၆)မှ စစ်သည်တော်များသည် မီးခိုးမှိုင်းကို အကာ အကွယ်ယူ၍ ကျောင်းကလေးရွာသို့ မြောက်ဘက်မှ ဝင်ရောက်စီးနင်းတိုက်ခိုက် ကြ၏။

အတွဲလိုက်ဆွဲလိုက်သော စက်သေနတ်သံများ။ တအုံးအုံးထနေသော လက်ပစ်ဗုံးသံများက ရေရွတ်သလို ဆူညံနေ၏။

ရန်သူသည် ကျွန်တော်တို့စစ်ကြောင်းဘက်မှ ရဲဘော်သုံးယောက်ကိုသာ ထိခိုက်ဒဏ်ရာရအောင် ပစ်ခတ်နိုင်ပြီး ရွာတောင်ဘက်သို့ ပြေးထွက်ကြ၏။

ရွာတောင်ဘက်မှ အသင့်စောင့်နေသော ကင်မရွန်းစစ်ကြောင်းက ရန်သူ တစ်ဒါဇင်ကျော်ကျော်ကို သုတ်သင်ပစ်လိုက်နိုင်သည်။

တပ်မှူးဖြစ်သူ တော်မီက အနီရောင်မီးကျည်ကို ကောင်းကင်သို့ ပစ်ဖောက်၍ ရွာမြောက်ဘက်တွက် အောင်ပွဲရနေပြီဖြစ်ကြောင်း တောင်ဘက်ရှိ တပ်များကို အချက်ပြလိုက်၏။

ဤအချိန်တွင်ပင် ဗုံးကြဲလေယာဉ်များ ရောက်လာကာ ကျောင်းကလေး ရွာလယ်ကို ဗုံးကြဲတိုက်ခိုက်သည်။

ရွာလယ်မှ မီးခိုးလုံးကြီးများနှင့် ဖုန်လုံးကြီးများ ကောင်းကင်သို့ လွင့်တက်လာ၏။ အိုးအိမ်အဆောက်အအုံများလည်း မီးတောက်မီးလျှံအကြားသို့ ရောက်နေပေပြီ။

ရွာလယ်သို့ရောက်နေနှင့်သော ကင်မရွန်းတပ်သားများသည် ဂျပန်များ တူးထားခဲ့သော ပုန်းကျင်းများတွင် ဝင်ရောက်ပုန်းအောင်းနိုင်ခဲ့၍သာ ဗုံးဒဏ်မှ လွတ်မြောက်ခဲ့ကြရ၏။

ကျွန်တော်တို့သည် ရွာထဲတွင် အစောင့်စစ်သားအချို့ကို ထားခဲ့ပြီးနောက် ရွာနှင့် အတန်ငယ်လှမ်းသည့်နေရာသို့ တပ်ဆုတ်လာခဲ့သည်။ ထို့နောက် အပေါ့စားလေယာဉ်များ ဆင်းရန် လေယာဉ်ပြေးလမ်းကြောင်း ပြုလုပ်ပြီး ဗိုလ်ကြီးဟာန်လေနှင့်တကွ ထိခိုက်ဒဏ်ရာရသူများကို အိန္ဒိယသို့ တင်ပို့ပေးလိုက်၏။ ထိုနေရာတွင်ပင် ကျွန်တော်တို့အတွက် ရိက္ခာနှင့် ခဲယမ်းမီးကျောက်များ အများအပြားချပေးသည်။ ကျောင်းကလေးတိုက်ပွဲတွင် ကုန်ခန်းခဲ့သော ခဲယမ်းများကို အစားထိုးရန်တည်း။

ရိက္ခာလည်း အပြည့်အစုံ၊ ခဲယမ်းလည်း အပြည့်အစုံရရှိနေပြီးဖြစ်သော ကျွန်တော်တို့သည် နောက်တိုက်ပွဲတစ်ပွဲအတွက် စီစဉ်ကြပြန်၏။

ဤအချိန်တွင် ခြင်းဒစ်ဌာနချုပ်မှ အရေးကြီးသောသတင်းတစ်ရပ် ရောက်ရှိလာသည်။ ဘုရင့်လေတပ်မတော် လေယာဉ်များက ကျောင်းကလေး အနောက်ဘက် ၁၅ မိုင်ကွာရှိ ဆီးဖြူတောင်တန်းမှ မော်တော်ကားလမ်း ဖြတ်သန်းသွားရာ တောင်ပေါ်လမ်းကို လုံးဝဖြိုခွဲဖျက်ဆီးပြီးပြီဟူသော သတင်းတည်း။

သို့သော် ရွာသားများ၊ ကျေးရွာသူလျှိုများ၏ အစီရင်ခံချက်အရ တောင်ပေါ်လမ်း သုံးမရအောင် ပျက်စီးသွားသည်ဆိုသောသတင်းမှာ မမှန်ကန်ကြောင်း၊ ထိုလမ်းပေါ်တွင် ဂျပန်မော်တော်ကားများ ဖြတ်သန်းသွားလာနေကြောင်း သိရှိရသည်။

ကျွန်တော်သည် ဦးစီးအဖွဲ့မှ ထောက်လှမ်းရေးအရာရှိ ဖွန်ဟယ်ဒလီအား ဌာနချုပ်မှ ရဲဘော်အချို့ကို ခေါ်၍ တောင်ပေါ်လမ်းရှိရာသို့ တိုက်ကင်းထွက်ပြီး အခြေအနေကို စုံစမ်းရန် အမိန့်ပေးလိုက်၏။

ဟယ်ဒလီက ကျွန်တော်တို့စစ်ကြောင်းနှင့် မည်သည့်နေရာ၊ မည်သည့်

အချိန်တွင် ပြန်လည်ဆုံတွေ့ရပါမည်နည်းဟု မေးသည်။

''ကျုပ်တို့ကို ဘယ်အချိန် ဘယ်မှာတွေ့နိုင်မယ်ဆိုတာ ဂျပန်တွေကို မေးကြည့်ပေါ့ဗျာ''ဟု ကျွန်တော်က ရယ်ရယ်မောမောနှင့် ပြောလိုက်၏။

အရေးကြီးသော၊ အန္တရာယ်များသော တာဝန်တစ်ရပ်ကို ပေးအပ်ခြင်းခံရသော ့ဟယ်ဒလီသည် ဂုဏ်ယူဝင့်ကြွားသော အမူအရာဖြင့် ကျွန်တော့် အနားမှ ထွက်ခွာသွားလေသည်။

ကျောင်းကလေးမှ အသက်မသေ လွတ်မြောက်၍သွားလေသော ဂျပန်စစ်သားအချို့သည် ကျွန်တော်တို့စစ်တပ်အကြောင်းကို ပင်လယ်ဘူးရှိ ဌာနချုပ်တွင် သတင်းပို့မည်မှာ သေချာလှ၏။

ရန်သူသည် ပင်ဘယ်ဘူးတွင် အစောင့်အနေ အနည်းငယ်မျှသာ ချန်ထားခဲ့ကာ ကျွန်တော်တို့လောက်ပင် အင်အားရှိသော တပ်ဖြင့် ကျွန်တော်တို့အား တွေ့ရာသင်္ချိုင်း ဓားမဆိုင်းဘဲ လိုက်ရှာတော့မည်သာမက နောက်ထပ်၍ စစ်ကူတပ်များ ပေးပို့ရန်လည်း သက်ဆိုင်ရာသို့ သတင်းပို့ပြီး ဖြစ်နေပေတော့မည်။

ကျွန်တော်တို့ စခန်းချနေသောနေရာနှင့် ပင်ဘယ်ဘူးသည် ၂၅ မိုင်မျှသာ ကွာသည်။

ကျွန်တော့်အကြံမှာ ရန်သူက ကျွန်တော်တို့ကို လာမတိုက်မီ ကျွန်တော်တို့ကပင် ပင်ဘယ်ဘူးသို့ သွားရောက်တိုက်ခိုက်ရန်တည်း။

ကျွန်တော်သည် အမှတ်(၃၀) စစ်ကြောင်းအား ကျောင်းကလေးတွင် ထားခဲ့မည်ဟု စိတ်ကူးသည်။ ဤစစ်ကြောင်းသည် ဖြတိသျှစစ်တပ်ကြီး တစ်တပ် ကျောင်းကလေးတွင် တပ်စွဲထားသကဲ့သို့ သရုပ်ဆောင်ထားရမည်။ ထို့နောက် အခြားတပ်ရင်း ၂ ရင်းကို တောထဲ,တောင်ထဲမှ ဖြတ်၍ ခရီးပြင်းချီတက်စေရမည်။ ပင်လယ်ဘူးသို့ ချဉ်းကပ်မိသည်နှင့်တစ်ပြိုင်နက် လေကြောင်းအကူအညီယူ၍ ရန်သူတို့အား ချေမှုန်းရေးတိုက်ပွဲဆင်ရန်တည်း။

ဤအစီအစဉ်အတိုင်း သက်ဆိုင်ရာ တပ်မှူးများသို့ အမိန့်ပေးလိုက်၏။

ပင်လယ်ဘူးသို့ ချီတက်ရန် ပြင်ဆင်နေစဉ်မှာပင် အိန္ဒိယရှိ ခြင်းဒစ်ဌာနချုပ်မှ အလွန်အရေးကြီးသော သတင်းတစ်ခု ရောက်ရှိလာ၏။

ကျွန်တော်တို့၏ အမှတ်(၁၁၁) တပ်မဟာသည် 'အဘာဒင်'သို့ ချက်ချင်းချီတက်ပြီးနောက် ထိုစခန်းမှနေ၍ နောက်ထပ်ပြုလုပ်မည့် စစ်ဆင်ရေးအစီအစဉ်ကို ရေးဆွဲရန်နှင့် 'အဘာဒင်'မြောက်ဘက်တွင် ခံတပ်တစ်ခု ထပ်မံ

တည်ဆောက်ရမည်ဟူသော အမိန့်တည်း။

'အဘာဒင်'မှာ မဲဇာမြစ် အရှေ့ဘက် မိုင် ၃၀ ကွာရှိ ထူထပ်သော တောထဲ, တောင်ထဲတွင် အမှတ်(၁၆) တပ်မဟာမှ တည်ဆောက်ထားသော 'ခံတပ်'တည်း။

အမှတ်(ရရ) တပ်မဟာမှ တပ်မှူး'မိုက်'ကလည်း အင်းတော်မြို့ မြောက်ဘက်တွင် 'ခံတပ်'တစ်ခု တည်ဆောက်ထားသည်။

'မိုက်'၏ ခံတပ်မှာ မန္တလေး-မြစ်ကြီးနား ရထားလမ်းနှင့် ကားလမ်းကို စီး၍မြင်နေရသော တောင်ကုန်းပေါ်တွင် တည်ဆောက်ထားသည်။

ရန်သူများသည် ဤခံတပ်ကို အကြိမ်ကြိမ်အဖန်ဖန် လာရောက်ဝိုင်းဝန်း တိုက်ခိုက်နေသည့်တိုင်အောင် 'မိုက်'၏ အမှတ်(ရရ) တပ်မဟာက ယခုအထိ အောင်ပွဲခံလျက်ပင်ရှိသည်။

ခြင်းဒစ်ဌာနချုပ်မှ ပေးလိုက်သော အမိန့်ကို ကျွန်တော် နည်းနည်းမှ မလိုက်နာလို။

မလိုက်နာလိုသည်မှာလည်း အကြောင်းရှိသည်။

ဤဒေသတစ်ဝိုက်တွင် ကျွန်တော်တို့က လိုက်၍ တိုက်ပွဲဆင်နေခြင်းအား ဖြင့် သူသေကိုယ်သေ အကြိတ်အနယ်တိုက်နေသော အင်ဖာတိုက်ပွဲကြီးကို တစ်နည်းတစ်လမ်း အထောက်အကူပြုနေသည်ဟု ကျွန်တော်ယုံကြည်သည်။

အင်ဖာသို့ချီတက်သွားစဉ်က မိမိတို့ရိက္ခာကို မိမိတို့ကိုယ်ပေါ်တွင် သယ်၍ သွားခဲ့ရသော ဂျပန်စစ်သည်တော်များသည် ယခုအချိန်၌ ရိက္ခာများ ပြတ်လပ် နေပေတော့မည်။ ကျောင်းကလေးတွင် ကျွန်တော်တို့ ဖောက်ခွဲဖျက်ဆီးခဲ့သော ထရပ်ကားတာယာအစုံ ၂၀၀၊ ဓါတ်ဆီဂါလံ ၂၀၀၀၊ စစ်ဝတ်စုံ တန်ချိန်ပေါင်း များစွာနှင့် ဆန်တန်ချိန် ၃၀ တို့မှာ ယခုအချိန်တွင် ဂျပန်စစ်သည်တော်များ အတွက် များစွာတန်ဖိုးရှိသော ပစ္စည်းရိက္ခာများ ဖြစ်နေပေပြီ။

ထို့ပြင် ဗိုလ်ချုပ်ဝင်းဂိတ်၏ 'ခံတပ်ဖြင့် စစ်ဆင်ရေး' အစီအစဉ်မှာလည်း ခြင်းဒစ်တပ်ဖွဲ့၏ မူလအစီအစဉ်ဖြစ်သော 'တောထဲတွင် လှည့်လည်တိုက်ခိုက် ရေး'ကို ပြောင်းပြန်လှန်ပစ်လိုက်သော အစီအစဉ်သာဖြစ်သည်ဟု ကျွန်တော်က ယူဆနေခြင်းကြောင့်ဖြစ်၏။

ယခု ကျွန်တော်တို့ တိုက်ခိုက်နေသော 'နည်း'ဖြင့် ကျွန်တော်တို့သည် ရန်သူ့ရိက္ခာပစ္စည်း တန်ချိန် ၂၀၀ ခန့်နှင့် ရန်သူ့ထရပ်ကား အစီး ၂၀ ကို ဖျက်ဆီးနိုင်ခဲ့သည်သာမက ကျွန်တော်တို့ဘက်မှ လူ ၄၀ လောက်

ထိခိုက်ဒဏ်ရာရရှိနှင့် ရန်သူတို့ဘက်မှ လူ ၄၃၀ ကို ကျဆုံးထိခိုက်ဒဏ်ရာ ရခဲ့စေ၏။

ဤအပျက်အစီးနှင့် ဤအကျအဆုံးမှာ ရက်သတ္တပတ် ၂ ပတ်အတွင်း ကျွန်တော်တို့က ရန်သူအပေါ်တွင် အနိုင်ရခဲ့သော အောင်မြင်ချက်များတည်း။

ဤအကြောင်းအချက် နှစ်ချက်သည်ပင်လျှင် ဌာနချုပ်မှပေးသော အမိန့်ကို ကျွန်တော် လိုက်နာရန် တွန့်ဆုတ်နေစေသော အကြောင်းများတည်း။

သို့သော် ဌာနချုပ်မှပေးသော အမိန့်ကို ပြန်လည်ဆန့်ကျင်ရန်အတွက် ကျွန်တော့်တွင် အားနည်းချက် ၂ ချက် ရှိနေလေသည်။

ကျွန်တော့်တွင် တပ်မှူးတစ်ယောက်အနေဖြင့် အထူးသဖြင့် တပ်မဟာ တစ်ခု၏ တပ်မှူးတစ်ယောက်အနေဖြင့် တိုက်ပွဲအတွေ့အကြုံ မရင့်ကျက်လှ သေးသည့်အပြင် ကျွန်တော့်အား ပေးထားသော ရာထူးအဆင့်မှာ တပ်မဟာ တစ်ခု၏ တပ်မှူးအဆင့်နှင့် မညီမျှဖြစ်နေသော အားနည်းချက်ပင်တည်း။

တိုက်ပွဲအတွေ့အကြုံ မရင့်ကျက်လှသေးသည့်တိုင် ကျွန်တော့်တွင် တပ်မဟာတစ်ခု၏ တပ်မှူးတစ်ယောက်နှင့် ညီမျှသော ရာထူးအဆင့်သာ ရှိခဲ့လျှင် ကျွန်တော်သည် ဌာနချုပ်မှ ဗိုလ်ချုပ်'ဂျီ'ထံသို့ ပေးထားသော အမိန့်ကို ပြန်လည်စဉ်းစားပါဟု ကန့်ကွက်ချက်ပို့မည်ဖြစ်၏။

ဤကဲ့သို့သော ကန့်ကွက်ချက်မျိုးကိုလည်း ပို့သင့်သည်ဟု ကျွန်တော် ထင်သည်။

သို့သော် ကျွန်တော် မပို့ခဲ့။

အကယ်၍ ကျွန်တော်က ကန့်ကွက်ချက် ပို့ခဲ့သည့်တိုင်အောင် ထိုကန့် ကွက်ချက်သည် မည်သို့မျှ အရာရောက်မည် မဟုတ်ကြောင်းကို နောက်မှ သိလာရ၏။

အဘယ်ကြောင့်ဆိုသော် ကျွန်တော်တို့အား ပင်ဘယ်ဘူးမှ 'အဘာဒင်' သို့ ဆွဲယူလိုက်သော 'လက်'မှာ ဗိုလ်ချုပ်'ဂျီ'၏လက် မဟုတ်ဘဲ ဗိုလ်ချုပ်ကြီး 'စတီးဝဲလ်'၏ တောင်းဆိုချက်ဖြင့် ထွက်လာရသော အမှတ်(၁၄) တပ်မတော်မှ ဗိုလ်ချုပ်ကြီးဆလင်း၏'လက်' ဖြစ်နေသောကြောင့်တည်း။

ခြင်းဒစ်ဌာနချုပ်မှ အရေးတကြီးပေးလိုက်သောအမိန့်ကို လိုက်နာရန် တွန့်ဆုတ်နေသည့်အမှုအရာ မပေါ်အောင် ကျွန်တော်သည် အတော်ကြိုးစား၍ မျက်နှာကို ပြင်လိုက်ပြီးနောက် တပ်မှူးများကိုခေါ်၍ ကျွန်တော်တို့ တပ်မဟာ သည် အောင်ပွဲရနေသော 'မိုက်'၏ အမှတ်(၇၇) တပ်မဟာထက် ပို၍

အစွမ်းပြရန် အခွင့်ရလာပြီဖြစ်ကြောင်း။ ပင်လယ်ဘူးသို့ သွားရောက်တိုက်ခိုက်ခြင်းမပြုတော့ဘဲ 'အဘာဒင်'သို့ ချီတက်ရတော့မည်ဖြစ်ကြောင်း ရှင်းလင်းပြောပြလိုက်၏။

'အဘာဒင်'သို့ ရှေးရှုချီတက်ပြီးနောက် ၂ ရက်မြောက်သည့်နေ့တွင် မန်စီအရှေ့ဘက်ရှိ လှပသောချောင်းကလေးတစ်ခုဘေးတွင် ညအိပ်စခန်းချကြ၏။ အရှေ့ဘက်သို့ကြည့်လိုက်သောအခါ တောင်များသည် တဖြည်းဖြည်းမြင့်တက်၍သွားသည်ကို တွေ့ရ၏။ မြောက်ဘက်တွင် ပေ ၅၆၀၀ ခန့်မြင့်သော တောင်သုံးလုံးတောင်တန်းကြီးသည် မိုးကုပ်စက်ဝိုင်းကို ထက်ပိုင်းပိုင်း၍ထားသကဲ့သို့ ရှိနေလေသည်။

စစ်ဦးစီးအဖွဲ့မှ ထောက်လှမ်းရေးအရာရှိ 'ဟယ်ဒလီ'သည် ခြေလှမ်းကျဲကြီးများဖြင့် ကျွန်တော်တို့ စခန်းချရပ်နားရာနေရာသို့ ချွေးတဖြိုင်ဖြိုင်စီးကျရင်း ဝင်လာသည်။ သူနှင့်အတူ လူ ၆ ယောက်မှာ များစွာ ခရီးပန်းနေသည်ကို တွေ့ရ၏။

ဆီးဖြူတောင်တန်းရှိ တောင်ပေါက်လမ်းကို သွားရောက်ထောက်လှမ်းစုံစမ်းပြီးနောက် ကျွန်တော့်ထံသို့ ရောက်လာခြင်းပင်တည်း။

ဟယ်ဒလီသည် သူ၏ ရိုင်ဖယ်သေနတ်အပြင် သူ့လူ ၃ ယောက်၏ သေနတ် ၃ လက်ကိုလည်း လွယ်၍ထားသေး၏။ ကျွန်တော်က အမောပြေအောင် ရမ်ကလေးတစ်ခွက်လောက် သောက်ပါဟု ပြောသောအခါ သူက ခေါင်းခါပြသည်။

သူသည် မန္တလေးသို့မရောက်မချင်း အရက်မသောက်ဟု သန္နိဋ္ဌာန်ပြုထားသည်ဟု သိရ၏။ ဂျပန်များသည် သူနှင့်တကွ သူ၏အိမ်သားများကို မန္တလေးမှ မောင်းထုတ်ခဲ့ရာ သူက ဂျပန်များအား မန္တလေးမှ မောင်းထုတ်၍ မပြီးမချင်း အရက်မသောက်ဟု ဆုံးဖြတ်ထားခြင်းဖြစ်သည်။

ဟယ်ဒလီသည် သူ့ကိုယ်ခန္ဓာပေါ်ရှိ လွယ်၍တစ်မျိုး၊ သိုင်း၍တစ်ဖုံ၊ ချိတ်၍တစ်နည်း အသီးသီးထားရှိသော လက်နက်ပစ္စည်းများကို ကျွန်တော်နှင့် ပထမဆုံးတွေ့စဉ်ကကဲ့သို့ တစ်ခုစီ တစ်ခုစီ ချွတ်ချလိုက်သည်။ ပြီးမှ ကျွန်တော့်ကို တောင်ပေါက်လမ်းအကြောင်းနှင့် ပတ်သတ်၍ သတင်းပို့ခဲ့သည်။

ဆီးဖြူတောင်တန်းရှိ တောင်ပေါက်လမ်းသို့သွားသော တောလမ်းခရီးမှာ ခက်ခဲပင်ပန်းလှချေ၏။

တောင်ချပ်ကြားများ၊ ကျောက်ဆောင်များ၊ ကျောက်တောင်များနှင့်

ထူထပ်သော သစ်တော၊ ဝါးတောကြီးများက လမ်းခရီးကို တားဆီးနေကြ၏။ အပ်ဖျားကဲ့သို့ ချွန်သော ကြခတ်ဝါးများမှာ ရှေ့သို့တိုး၍ မတက်နိုင်အောင် အန္တရာယ်ပေးနေကြ၏။

ဒုတိယမြောက်နေ့တွင် ဟယ်ဒလီ ခေါင်းဆောင်သော ကင်းထောက်အဖွဲ့သည် တောင်ပေါက်လမ်းရှိရာသို့ ရောက်လာခဲ့ကြ၏။

ဘုရင့်လေတပ်မတော်မှ ဗုံးကြဲဖျက်ဆီးထားခဲ့ပြီဟုဆိုသော တောင်ပေါက်လမ်းပေါ်တွင် ဂျပန်ထရပ်ကားများ ပြေးလွှားလျက်ရှိသည်ကို မြင်ရ၏။ ဤမျှမြင်ရလျှင်ပင် ဟယ်ဒလီအဖို့ တာဝန်ပြီးဆုံးပြီဖြစ်၏။

သို့သော် ဟယ်ဒလီကား ဤမျှနှင့် ကျေနပ်သောလူစားမျိုး မဟုတ်။

ထိုနေ့ည သန်းခေါင်အချိန်တွင် ဟယ်ဒလီသည် သူ၏ အကူရဲဘော်ကို ခေါ်၍ တောင်ပေါက်လမ်းပေါ်တွင် သတိထား၍လျှောက်ရင်း လမ်းမှာ မည်ကဲ့သို့သော လမ်းမျိုးဖြစ်သည်ကို လက်နှင့်ကိုင်၍ စမ်းကြည့်သည်။ လေတပ်က ဗုံးကြဲ၍ မည်သည့်နေရာတွင် ပျက်စီးသည်၊ မည်သို့ပြုပြင်ထားသည်၊ ဗုံးမှန်၍ ထရပ်ကား မည်သို့ပျက်စီးသည် စသောအချက်များကို အသေးစိတ်စုံစမ်းသည်။

ဤသို့ တစ်ခုစီ တစ်ခုစီ လိုက်၍စုံစမ်းနေစဉ်အတွင်း လမ်းဘေးတွင် ရပ်ထားသော ထရပ်ကားတစ်စီးကို တွေ့ရ၏။ ကားရှေ့အခန်းထဲတွင် ဂျပန်ဒရိုင်ဘာယောက်သည် တခေါခေါနှင့် အိပ်ပျော်နေလေသည်။

ဟယ်ဒလီသည် ဂျပန်ဒရိုင်ဘာအား ပစ်သတ်လိုက်ပြီးနောက် ကားထဲတွင် စိပ်ပြေနပြေထိုင်ရင်း ကားထဲတွင်ပါရှိလာသော ပစ္စည်းများကို အတိအကျ စာရင်းလုပ်၍ ယူလာခဲ့၏။ ပြီးမှ ကျွန်တော်တို့စခန်းသို့ လာခဲ့ခြင်းဖြစ်သည်။

ဟယ်ဒလီ ပြန်၍ရောက်လာသည့်အတွက် ကျွန်တော်သည် ဝမ်းသာအားတက်နေလေသည်။ ကျွန်တော်နှင့် ကျွန်တော့်တပ်မဟာမှ ရဲဘော်များမှာ တစ်အူထုံ့ဆင်းသည့် ညီအစ်ကိုအရင်းသဖွယ် ရှိနေကြပေသည်။ အမှတ် (၃၀) စစ်ကြောင်းမှ ဂေါ်ရခါးများသော ကျွန်တော်နှင့် ခပ်စိမ်းစိမ်းဖြစ်နေကြသေးသည်။ တပ်မဟာတစ်ခုလုံးမှာ ကျွန်တော်က တိုက်ဆိုလျှင် တကယ်တိုက်၍ ကျွန်တော်က သေဆိုလျှင် ဝမ်းမြောက်ဝမ်းသာဖြင့် သေကြမည့်သူချည်းတည်း။

ကျွန်တော်က ရန်သူသည် ကျွန်တော်တို့ အနီးအနားတွင် ရှိနေမည်ဟု မထင်။ အကယ်၍ ရှိနေခဲ့လျှင်လည်း ရန်သူသည် သားကောင်ဖြစ်ကာ ကျွန်တော်တို့က မုဆိုးဖြစ်ရပေမည်။

ကျွန်တော်သည် တပ်မှူးများကိုခေါ်ကာ ကင်းများကို အရပ်ရှစ်မျက်နှာသို့ ၂ ဖာလုံကွာထိ ဖြန့်ချထားရန် အမိန့်ပေးလိုက်သည်။ ထို့နောက် မီးပုံကြီးများကို ထိန်ထိန်လင်းအောင်ဖိုကာ ပျော်သလိုနေကြရန် အခွင့်ပေးလိုက်၏။ ကျောင်းကလေးတိုက်ပွဲတွင် အနိုင်ရခဲ့သည့်အတွက် အောင်ပွဲခံသည့်အနေဖြင့် ရိက္ခာချပေးစဉ်က ရထားသော ရမ်ပုလင်းများကို ထုတ်ပေးလိုက်၏။

ကျွန်တော်တို့သည် စကားမပြောတတ်သည့် သတ္တဝါများပမာ အချိန်အတော်ကြာအောင် နေထိုင်သွားလာနေကြရသောအခါ အသံကျယ်ကျယ်နှင့် စကားပြောရမည်ကိုပင် ကြောက်နေကြတော့၏။ ထို့ကြောင့် ဗိုလ်မှူးတစ်ဦးက ကျွန်တော့်အနားသို့ ချဉ်းကပ်၍ ကျောင်းကလေးတိုက်ပွဲအတွက် ယခုကဲ့သို့သော အချိန်တွင် အောင်ပွဲခံမည်ဆိုသည်မှာ တကယ်ပင်ပြောဆိုသောစကား ဖြစ်လေသလားဟု စူးစမ်းသည်။

ထိုဗိုလ်မှူး၏အကြည့်မှာ ကျွန်တော့်အပေါ်တွင် ယုံမှားသံသယဖြစ်နေသော အကြည့်မျိုးပင် ဖြစ်၏။

တိုက်ပွဲတွင် အာရုံစိုက်ရလွန်းသဖြင့် ဦးနှောက်ချောင်သွားပြီဟု ကျွန်တော့်ကို ထင်နေဟန်တူသည်။ ကျွန်တော်က ဆေးလေးတည်ငြိမ်သော အမူအရာဖြင့် အောင်ပွဲခံမည် ဆိုသည်မှာ တပ်သားတိုင်း မီးဖိုများ ဖို၍ အရက်သောက်ကာ သီချင်းဆိုကြရမည်ဖြစ်ကြောင်း၊ ဤသည်ပင်လျှင် အမိန့်ဖြစ်ကြောင်း ပြောလိုက်၏။

ကျွန်တော်သည် ဒေါက်တာပိုက်တို့လူစုနှင့် အတူထိုင်၍ အရက်သောက်နေစဉ် စစ်သည်တော်များ၏ မီးပုံပွဲက တဖြည်းဖြည်း အရှိန်ရစေကာ ပြောသံဆိုသံ၊ ရယ်သံမောသံများ ချောင်းအထက်သို့ လျှံ၍တက်လာ၏။ များမကြာမီ အစုလိုက် အစုလိုက် တွဲ၍ စခန်းအတွင်း လှည့်လည်ရင်း သီချင်းသီဆိုသူများ၊ မူးချင်ယောင်ဆောင်သူများဖြင့် စည်ကားလာသည်။

ကျွန်တော်တို့ ရထားသော 'ရမ်'မှာ ကျွန်တော်တို့လူစုအတွက် တကယ်မူးလောက်သည်မဟုတ်။ သို့သော် ထိန်းချုပ်ထားခဲ့ရသမျှကို ယခုလို ဖြေ၍ လွှတ်လိုက်ရသောအခါ ရဲဘော်တိုင်းပင် အူမြူးကာ အပျော်မူး မူး၍နေကြတော့၏။

ကျွန်တော်က ထိုင်နေရာမှ ထ၍ မီးပုံပွဲများရှိရာသို့ ဟိုဝင် သည်ထွက် လှည့်လည်သွားလာရင်း စကားစမြည်ပြောလိုက်သောအခါ ရဲဘော်တိုင်းကပင် သူတို့အတွက် အလွန်တန်ဖိုးရှိလှသောရမ်ကို ကျွန်တော့်အား စေတနာဗရပွ

နှင့် ပေးနေကြတော့၏။

ညဘက်တွင် တစ်ရေးနိုး၍ ကြည့်လိုက်သောအခါလည်း ရဲဘော် အတော်များများမှာ မီးပုံဘေးတွင် ကွေးနေအောင် ကကြသေးသည်ကို တွေ့ရသေး၏။

နောက်တစ်နေ့ နံနက်တွင် အဘာဒင်သို့ ခရီးဆက်၍ထွက်ခဲ့၏။ ထုံးစံအတိုင်း တိတ်ဆိတ်ငြိမ်သက်စွာ ချီလာခဲ့၏။

ကျွန်တော့်တပ်မဟာလောက် တိုက်ပွဲတွင် ရဲရဲနှင့် ပျော်ပျော်ကြီးနွှဲနိုင်သော တပ်များ ရှိပါလေသေးစဟု ကျွန်တော်ထင်နေမိသည်။

မြန်မာပြည်ရှိ ဂျပန်စစ်ကြောင်းများနောက်တွင် ကျွန်တော်တို့ တပ်မဟာ တိုက်ခိုက်လှုပ်ရှား၍ နေခဲ့သည်မှာ ၄၅ ရက် ရှိနေပေပြီ။



## အခန်း ( ၁၁ )

မဲဇာမြစ်သို့မရောက်မီ မီးလောင်နေသော တဲပျက်တစ်ခုအနီး၌ ဝေဝေဆာဆာ ဖူးပွင့်နေကြသော တောနှင်းဆီပင်များကို အများအပြားတွေ့ရ၏။

ကျွန်တော်သည် နှင်းဆီပွင့် လေးငါးပွင့်ကို ခူးပြီး ဦးထုပ်တွင် ထိုးထားလိုက်၏။

ဧပြီလ ၂၃ ရက်နေ့တည်း…။

ကျွန်တော်တို့သည် အဘာဒင်ခံတပ်သို့ ရောက်လာပြီးနောက် ဌာနချုပ်မှ ညွှန်ကြားချက်များ ထပ်၍ရရှိခဲ့၏။

ခြင်းဒစ်တပ်ဖွဲ့မှန်သမျှ မြောက်ဘက်သို့ ချီတက်ရန်တည်း။

ဗိုလ်ချုပ်ကြီး စတီးဝဲလ်က ခြင်းဒစ်တပ်များ အင်းတော်တစ်ဝိုက်တွင် လှုပ်ရှားတိုက်ခိုက်နေခြင်းမှာ ခြင်းဒစ်တပ်များတွင်ရှိသော လူအင်အားနှင့် စာလျှင် သူ့အား ဘာကမှ အထောက်အကူပြုရာမရောက်ဟု ယူဆသည်။

စတီးဝဲလ်က ကျွန်တော်တို့ ခြင်းဒစ်တပ်များအား သူ ကွပ်ကဲတိုက်ခိုက်နေသော မြစ်ကြီးနားတိုက်ပွဲတွင် ပို၍ ထိကပ်စွာ ပါဝင်တိုက်ခိုက်စေချင်သည်။

ကွိဘက်ကွန်ဖရင့်မှ ချမှတ်လိုက်သော ဆုံးဖြတ်ချက်အရ ခြင်းဒစ်တပ်ဖွဲ့နှင့် ခြင်းဒစ်တပ်ဖွဲ့ကို လေကြောင်းမှ အထောက်အကူပြုနေသော အမေရိကန်ကွန်မန်ဒိုလေတပ်သည် ဗိုလ်ချုပ်ကြီးစတီးဝဲလ်အား ကူ၍တိုက်ပေးရမည်ဖြစ်၏။

ကျွန်တော်တို့၏ အမှတ်(၁၁၁) တပ်မဟာသည် ဌာနချုပ်မှ ညွှန်ကြားချက်အရ မြောက်ဘက်သို့ ချီတက်ပြီး ဟိုပင်မြို့အလွန် မီးရထားလမ်းဘေးနှင့်

ပလှမ်းမကမ်းတွင် 'ခံတပ်'တစ်ခု တည်ဆောက်၍ ဆက်လက်လှုပ်ရှား တိုက်ခိုက်ရမည် ဖြစ်သည်။

အမှတ်(၁၄) တပ်မဟာသည် ကျွန်တော်တို့နောက်မှ မြန်နိုင်သမျှ ပြန်မြန် လိုက်ပါချီတက်လာပြီး ကျွန်တော်တို့၏ လှုပ်ရှားမှုကို စစ်ကူပေးရမည် ဖြစ်၏။

'မိုက်' ဦးစီးသော အမှတ်(၇၇) တပ်မဟာကမူ မိုးကောင်းကို တက် ရောက် တိုက်ခိုက်သိမ်းပိုက်ရမည်။ အနောက်အာဖရိကတပ်များက မြို့ဖြူတော် ခံတပ်ကို ဆက်လက်ထိန်းထားရမည်ဖြစ်သည်။ ကျွန်တော်က ဟိုပင် မြောက် ဘက်တွင် ခံတပ်အသစ်တစ်ခု တည်ဆောက်ပြီး တပ်စွဲနိုင်သောအခါ အနောက် အာဖရိကတပ်များက မြို့ဖြူတော်ခံတပ်ကို စွန့်လွှတ်၍ မြောက်ဘက်သို့ တက်လာရန် တာဝန်ပေးထားသည်။

အင်ဖာမှ မြန်မာပြည်အတွင်းသို့ ရောက်သည်အထိ တောများ၊ တောင် များ၊ မြစ်များကို ဖြတ်သန်း၍ ခရီးကြမ်းချည်း ချီတက်လာရပြီးနောက် အင်းတော်ကို အကြိမ်ကြိမ် အဖန်ဖန် တိုက်ရသဖြင့် မောဟိုက်နေသော အမှတ်(၁၆) တပ်မဟာကိုမူ မြန်မာပြည်မှ လေကြောင်းဖြင့် ပြန်၍ခေါ်ယူသွား မည်ဖြစ်၏။

ကျွန်တော်သည် အဘာဒင်မှ ဆက်လက်မချီတက်မီ ကျွန်တော် တည် ဆောက်ရမည့် ခံတပ်အတွက် သင့်လျော်မည့်နေရာကို အမေရိကန်လေယာဉ် ကလေးတစ်စင်းဖြင့် ရှာဖွေကြည့်ရှုသည်။ မြို့ဖြူတော်ခံတပ်သို့လည်း သွား ရောက်ကာ စာတွေ့နှင့် လက်တွေ့ မည်သို့ကွာခြားသည်ကို လေ့လာစစ်ဆေး ကြည့်ရှုသည်။

အဘာဒင်မှ လေယာဉ်ပျံတက်သည် ဆိုလျှင်ပင် မြို့ဖြူတော်ခံတပ်ကို အထင်းသား မြင်နေရတော့၏။

ခံတပ်နှင့် ခံတပ် ပတ်ဝန်းကျင်ရှိ သစ်ပင်ပေါ်တွင် လေထီးများသည် ဖွေးဖွေးလှုပ်နေလေသည်။ ခံတပ်၏ သင်္ကေတများသာတည်း။

ခံတပ် ပတ်ပတ်လည်ရှိ အတွင်းကြိုးဝိုင်း၊ အပြင်ကြိုးဝိုင်းများပေါ်တွင် ရှုမကောင်း မြင်မကောင်းအောင်ဖြစ်နေသော ရန်သူ့အလောင်းများကို အတိုင်း သား မြင်နေရ၏။ ဤအလောင်းကောင်များကို လောင်မီးလက်နက်များဖြင့် ဖျက်ဆီးကာ ထုံးများထူထူပက်ဖြန်းထားသော်လည်း ကျေပျောက်သွားခြင်း မရှိဘဲ အနံ့အသက်များမှာ ကောင်းကင်မှပင် မခံမရပ်နိုင်လောက်အောင်

တခေါင်းထောင်းထနေလေသည်။

ရှိသမျှသစ်ပင်များတွင်လည်း အရွက်ဟူ၍ တစ်ရွက်မျှမရှိတော့။

ဂျပန်များသည် ညနေ ၆ နာရီထိုးသည်နှင့်တစ်ပြိုင်နက် မြို့ဖျူတော် ခံတပ်ကို အမြောက်ဖြင့် ဆက်၍ ဆက်၍ပစ်ပြီး အလုံးအရင်းဖြင့် သဲသဲမဲမဲ လာရောက်တိုက်ခိုက်ကြသည်မှာ ညတိုင်းပင်ဖြစ်တော့၏။

ခံတပ်အတွင်းရှိ ခံစစ်အစီအမံများကို သေချာစွာလေ့လာပြီးနောက် ကျွန်တော်သည် စဉ်းစားရင်း အဘာဒင်ခံတပ်သို့ ပြန်လာခဲ့၏။

နောက်တစ်နေ့ နံနက်တွင် ကျွန်တော်တို့တပ်မဟာသည် စစ်ကြောင်း ၂ ကြောင်းခွဲ၍ မျဉ်းပြိုင်ပြေးနေသော လမ်း ၂ လမ်းမှ မြောက်ဘက်သို့ စတင်ချီတက်လာခဲ့၏။

ကျွန်တော်တို့သည် ကချင်အမျိုးသားများ နေထိုင်သည့် တောတောင် များကို ဖြတ်သန်း၍သွားကြရမည် ဖြစ်လေသည်။

လမ်းသည် မဲဇာမြစ်ဝှမ်းအတိုင်း မြောက်ဘက်သို့ ရှေးရှုလျက်ရှိ၏။ မကြာမီပင် လမ်းသည် ပို၍ကျဉ်းလာလေသည်။ တစ်နာရီခန့် ချီတက်ခဲ့ပြီး နောက် ကျွန်တော်တို့သည် မဲဇာတစ်ဖက်ကမ်းသို့ ကူးကြရ၏။

၁၀ မိနစ်ခန့်အကြာတွင် တောထူသောတောင်များက ရှေ့မှ ဆီးနေပြန် သဖြင့် မဲဇာမြစ်ကို ပြန်၍ ဖြတ်ကူးရပြန်သည်။

နောက်ထပ် ၅ မိနစ်ကြာလာပြန်သောအခါ မဲဇာမြစ်ကိုပင် ပြန်၍ ကူးရပြန်၏။

'လမ်းမှ မှန်ရဲ့လား'ဟု ကျွန်တော်က ထောက်လှမ်းရေးအရာရှိဖြစ်သူ ဟယ်ဒလီအား မသက်သာသောမျက်နှာဖြင့် မေးလိုက်မိသည်။

'မှန်ပါတယ် ခင်ဗျာ' ဟု ဟယ်ဒလီက မကျေမနပ်သံကြီးနှင့်ပြောရင်း ရှေ့သို့ လက်ညှိုးညွှန်လိုက်ကာ...

''ဟိုမှာကြည့်စမ်း။ ဖြတ်ကူးရမယ့်နေရာတစ်ခု ရောက်လာပြန်ပြီ''ဟု ထပ်၍ဆိုလိုက်သည်။

ကျွန်တော်တို့သည် မဲဇာကို ပြန်၍ကူးကြရပြန်၏။ စစ်သည်တော်တိုင်း ချုံသံပါအောင် ညည်းလာကြ၏။

မဲဇာသည် မြစ်ကူးနေရာများ၌ ပျမ်းမျှခြင်းအားဖြင့် ၂ ပေနက်၍ ၉ ပေခန့် ကျယ်သည်။ တောင်ချပ်ကြားများ ညပ်နေသည့် နေရာများတွင် ရေက ပို၍နက်ကာ အစီးလည်း ပို၍မြန်သည်။

ကျွန်တော်တွေ့ခဲ့ရသော မြစ်ကလေးများအနက် မဲဇာသည် အလှဆုံးလှပသော မြစ်ကလေးတစ်စင်းပင် ဖြစ်၏။

သို့သော် ကျွန်တော်တို့သည် ဧပြီလ ၂၅ ရက်နေ့ တစ်နေ့တည်းတွင်ပင် မဲဇာကို ၄၅ ကြိမ်တိုင်တိုင် ဖြတ်ကူးပြီး မဲဇာမြစ်ထဲတွင်ပင် ဆယ်မိနစ်ခန့်စီ ထိုင်၍ အမောဖြေကြရသောအခါ စိတ်သည်တော်တိုင်း မဲဇာကို ဆဲ၍လာကြတော့၏။ ခြေချစရာဆို၍ ဆင်ခြေရာကွက်လောက်မှ မြေမာမာနေရာကို မတွေ့ရ၊ ကျွန်တော်တို့သည် ရေထဲတွင်သာ တစ်လျှောက်တည်း၊ လျှောက်နေရသဖြင့် ရေဘဲခန်းကြီးများနှင့် တူနေလေသည်။

ကျွန်တော့်မှာ မဲဇာ၏ သဘာဝအလှကို ဓိမ်ခံ၍ ကြည့်နေမိသည်။ ကမ်းတစ်ဖက်တစ်ချက်တွင် တစ်ခါ တစ်ခါ တွေ့ရသော ချောက်ကမ်းပါးကြီးများကို ကြည့်၍လည်း ရန်သူများ အကယ်၍ ချုံခိုတိုက်ခိုက်ခဲ့သော် မည်သို့ လုပ်ရပါ့ဟု တွေးနေမိသည်။

ထို့နေ့ညတွင် နားနေအိပ်စက်ရန်အတွက် စခန်းရှာရသည်မှာ ဖတ်ဖတ်မောနေရတော့၏။ လွင်-ကြည်းဟူ၍ တစ်ခုမျှမတွေ့၊ ကြည့်လေရာရာတွင် ရေချည်းသာ ဖြစ်နေလေသည်။ အတော်ညဉ့်နက်မှ ကိုက် ၃၀၀ ခန့် တစ်ဆက်တည်းရှိနေသော မြေနေရာတစ်ကွက်ကို တောင်ဘက်ကမ်းပါးပေါ်တွင် တွေ့ရ၏။

လူတစ်ထောင်လောက်နှင့် လား ၂၀၀ လောက်မှာ ကိုက် ၃၀၀ ခန့် ကျယ်သော ကွက်လပ်တွင် တစ်ယောက်နှင့်တစ်ယောက် ထပ်၍အိပ်ကြရပြီး ကင်းများကို မြစ်အထက်နှင့် အောက်တွင် သစ်ပင်ခွကြားများပေါ်၌ ချ၍ ထားရသည်။

နောက်တစ်နေ့တွင် မဲဇာမြစ်ကို နောက်ထပ်၍ အကြိမ် ၂၀ တိတိ ဖြတ်ကူးရပြန်သည်။ မြစ်တစ်ခုလုံးကို အရွက်များ ဖားဖားဝေနေသော သစ်ပင်များက ဖုံးထားသည်။ ရေက အေးမြနေလေသည်။ အတန်ကြာ ချီတက်မိသောအခါ ကျွန်တော်တို့သည် မဲဇာမြစ်ကို နောက်တွင် ချန်ထားခဲ့ရပြီး လှိုင်းလုံးကြီးများကဲ့သို့ မြင့်ချည်နိမ့်ချည်ဖြစ်နေသော တောင်ကုန်းများကို တစ်ခုပြီးတစ်ခု ဖြတ်ကျော်ရပြန်၏။ နေစောင်းလာသောအခါ တစ်ခုသော တောင်ကမူကလေးပေါ်၌ နတ်စင်တစ်စင်ကို တွေ့ရ၏။ ကချင်တို့၏ နတ်စင်တည်း။

ကျွန်တော်တို့သည် ရွာသို့ ရောက်ပေတော့မည်။

ကချင်အမျိုးသားများသည် ရွာအဝင်အဝများ၌ပင် ဤကဲ့သို့သော နတ်စင်များ ဆောက်ထားလေ့ရှိသည်မှာ ဓမ္မတာပင်ဖြစ်၏။ ဝါးဖြင့်ဆောက်ထား သောနတ်စင်သည် ၅ ပေခန့်မြင့်သည်။ ကျွဲခေါင်း၊ နွားခေါင်းများ ချိတ်ဆွဲထား သည်ကို မြင်ရ၏။

ကျွန်တော်တို့သည် ကချင်ရွာထဲသို့ ဝင်လာခဲ့ကြ၏။ ကချင်အမျိုးသား များသည် ကျွန်တော်တို့ ဗြိတိသျှတပ်များအား ၁၉၄၂ ခုနှစ် စစ်ဆုတ်စဉ်က လည်းကောင်း၊ ၁၉၄၃ ခုနှစ် ဝင်းဂိတ်တပ်များ ဝင်ရောက်လာစဉ်က လည်း ကောင်း အမျိုးမျိုး အကူအညီပေးခဲ့ကြ၏။

ကျွန်တော်တို့ရောက်ရှိလာသော ရွာမှာ ကရှမ်းဂါးဟု ခေါ်သောရွာတည်း။

ရွာသူရွာသားများသည် ကျွန်တော်တို့အား ခေါင်ရည်ဖြင့် ညှော်ခံကြသည်။ ကချင်သူကြီးများမှာ များစွာဖော်ရွေလှ၏။ သေနတ်ကိုင်ထားသော ရန်သူကို သာ တွေ့နေခဲ့ရသော ကျွန်တော်သည် ခေါင်ရည်ဘူးဖြင့် အသင့်စောင့်ကြို နေသော ကချင်မိတ်ဆွေများကို တွေ့ရသောအခါ မိမိတို့တိုင်းပြည်၊ မိမိတို့ အိုးအိမ်သို့ ရောက်လာရသလို စိတ်အေးလက်အေး ပျော်ပျော်ရွှင်ရွှင် ဖြစ်လာ ကြ၏။

လုပသောမျက်နှာနှင့် တောင့်တင်းသော ကိုယ်ခန္ဓာရှိသည့် ကချင်လုံမ ပျိုများသည် ကျွန်တော်တို့အား အခန်းတံခါးဝမှ ပြုံးတစ်ပြုံးတစ်လုပ်၍ ကြည့်နေကြ၏။ ကလေးလေးတစ်ယောက်က ကျွန်တော်တို့ရှိရာသို့ လေးဘက် တွား၍ လာနေသည်။ ကျွန်တော်သည် နှလုံးမွေ့လျော်၍နေလေသည်။

ကျွန်တော်တို့သည် တစ်ချက်မျှ ကောင်းစွာ နားနေအိပ်စက်ကြပြီးနောက် မြောက်ဘက်သို့ ဆက်လက်ချီတက်ခဲ့၏။ နေက ခြစ်ခြစ်တောက်ပူကာ ခရီးက ကြမ်းလွန်းသဖြင့် စစ်သည်တော်များမှာ ပန်းဟိုက်လျက်ရှိကြ၏။

နေ့လယ်ဘက်တွင် ကျယ်သောနပ့်စံချောင်း၏ ကမ်းဘေး၌ ခေတ္တရပ်နား နေစဉ် အပေါ်စားလေယာဉ်ကလေးတစ်စင်း ရောက်လာပြီး ကျွန်တော်တို့ အတွက် လေကြောင်းမှ ရိုက်ကူးထားသည့် ဓာတ်ပုံများကို လေထီးဖြင့် ပစ်ချ၍ ပေးသွားသည်။

ဟိုပင်မြို့မြောက်ဘက်တွင် ကျွန်တော်တို့ တည်ဆောက်ရမည့် ခံတပ် နေရာကို လေကြောင်းမှ ဓာတ်ပုံရိုက်ယူပြီးနောက် ကျွန်တော့်ထံ လာရောက် ပေးသွားခြင်းပင်ဖြစ်၏။

ကျွန်တော်တို့သည် နပ့်စံချောင်းဝမှ ဆက်၍ ထွက်ခဲ့ကြ၏။ လမ်းမှာ

တောင်ဆင်းတောင်တက်များပြီး ဝါးရုံတောများရှေ့မှ ပိတ်ဆီးနေသဖြင့် နာရီဝက်ကြာတိုင်း ရှေ့ပြေးချိတပ်စုကို လူလဲပေးနေရသည်။ လမ်းပေါ်တွင် ဖုံးအုပ်နေသော ဝါးရွက်များ၊ ဝါးကိုင်းများကြောင့် ခြေလှမ်း၊ လှမ်းတိုင်း ချော်၍ ချော်၍ထွက်နေ၏။

ခွေးများမှာ ရေချိုးထားသလို စိုရွှဲနေလေသည်။

စစ်သည်တော်များမှာ မောဟိုက်ပင်ပန်းလွန်းသဖြင့် နီးရာဝါးရုံပုတ်တွင် တွဲခိုကာ ခဏခဏနားကြရ၏။ အသက်ရှူရသည်ကပင် ပင်ပန်းသောအလုပ်ကြီးတစ်ခု ဖြစ်နေတော့၏။

ဤကဲ့သို့ ခက်ခဲပင်ပန်းသော ခရီးကြမ်းကို ၂ ရက်တိုင်တိုင် တက်၍ သွားကြရပြီးနောက် ကျွန်တော်တို့သည် တောင်ကုန်းတစ်ခုပေါ်သို့ လေးဘက်ထောက်၍ တက်ခဲ့ကြကာ ချုံပုတ်ကလေးများအောက်တွင် ရပ်နားလိုက်ကြ၏။

စခန်းချရပ်နားသည့်နေရာမှ မြောက်ဘက်သို့ မျှော်ကြည့်လိုက်လျှင် နယ်မြေအနေအထားသည် တဖြည်းဖြည်း ပြေ၍ ပြေ၍ ဆင်းသွားသည်ကို တွေ့ရ၏။ ဤမြေပြန့်၏ အဆုံးတွင် မြန်မာပြည်၌ အကြီးဆုံးကန်ဖြစ်သော အင်းတော်ကြီးကန်သည် ဝင်လုဆဲနေရောင်ခြည်တွင် ရွှေရည်ဖျန်းထားသကဲ့သို့ ရှိနေ၏။

အင်းတော်ကြီးကန်နှင့် မန္တလေး–မြစ်ကြီးနား ရထားလမ်းကို အပန်းတကြီး ကာဆီးလျက်ရှိသော တောင်ကုန်းများပေါ်တွင် မိုးသားတိမ်လိပ်များ တရွေ့ရွေ့တက်နေသည်ကို မြင်ရလေ၏။

အင်းတော်ကြီးကန်သည် ၅ မိုင်ခန့်ကျယ်၍ ၁၄ မိုင်ခန့်ရှည်လျား၏။ ဤကန်ကြီးပတ်ပတ်လည်တွင် လယ်ကွင်းများ၊ ကျေးရွာများ၊ ရှံ့ထူသောချောင်းများနှင့် ကိုင်းတောကြီးများ ရှိနေ၏။ ဤခရီးကြီးကို ဖြတ်သန်း၍ ကျွန်တော်တို့ ချီတက်ရပေဦးမည်။

ကျွန်တော်က ဘယ်တောင်ပံ ညာတောင်ပံဖြန့်၍ ချီတက်ရန် ဆုံးဖြတ်လိုက်သည်။ လေယာဉ်မှ လာရောက်ရိက္ခာချပေးရန် ရှိနေသဖြင့် တော်မီအား ခေတ္တမျှ တာဝန်လွှဲထားပြီး ကျွန်တော်က တည်ဆောက်ရမည့် ခံတပ်အတွက် နေရာကို မြေပုံများ၊ လေကြောင်းဓာတ်ပုံများဖြင့် ညှိနှိုင်း၍ ရှာကြည့်နေသည်။

တစ်နာရီ၊ နှစ်နာရီခန့်မျှအကြာတွင် ခံတပ်တည်ဆောက်မည့်နေရာကို ရွေးချယ်၍ရသည်။

နမ့်ကွင်းရွာနှင့် များစွာမဝေးလှသောနေရာတွင် ချောင်းနှစ်ခုဆုံရာဒေသ

ရှိသည်။ ထိုနေရာတွင် တောင်ကုန်းတောင်တန်းများလည်း ရှိသည်။ ဤနေရာသည် ခံတပ်တည်ဆောက်ရန် ကောင်းမည့်နေရာဟု ထင်ရသောနေရာဟု ယူဆရ၏။ ဤနေရာ၏ တောင်ဘက်နှင့် မြောက်ဘက်တွင် ခံတပ်တည်၍ ရနိုင်မည်ဟု ထင်ရသော နေရာများကိုလည်း တွေ့ရ၏။

သို့သော် ပထမရွေးချယ်ထားသည့်နေရာ 'ဟန်မကျ'မှ အခြားနေရာများကို လိုက်လံကြည့်ရှုတော့မည်ဟု စိတ်ကူးထားသည်။

ကျွန်တော်ရွေးချယ်ထားသော ပထမနေရာမှာလည်း ကျွန်တော့်စိတ်တိုင်းကျ ဖြစ်နေမည် မဟုတ်သည်ကို ကြို၍မြင်ထား၏။ အဘယ်နေရာသည် နတ်ဖန်၍ထားသလို ကျွန်တော့်စိတ်တိုင်းကျ အသင့်ဖြစ်နေပါမည်နည်း။

သို့သော် စိတ်တိုင်းကျနေရာ ရှာ၍မရတိုင်း အချိန်ကို ကြာအောင်လုပ်နေ၍မဖြစ်။ ယခုရွေးချယ်ရန် စိတ်ကူးထားသော နေရာကိုပင် ပထမသွားရောက်ကြည့်ရှုရပေမည်။ အခြားနေရာများသို့ပါ သွားရောက် ကြည့်ရှုနေမည်ဆိုလျှင် ၇ ရက်ခန့် ကြာနေပေဦးမည်။

ဤအချိန်အတွင်း ရန်သူဂျပန်များက မန္တလေး–မြစ်ကြီးနား ရထားလမ်း၏ အနောက်ဘက်ရှိ တောထဲတွင် ကျွန်တော့်တပ်မဟာ ရောက်နေကြောင်း သိရှိသွားပေတော့မည်။

ယခု ကျွန်တော်ရွေးချယ်ထားသော နေရာသည် မြောက်ဘက်တွင် အပြင်းအထန် တိုက်ခိုက်နေသော မြစ်ကြီးနားတိုက်ပွဲနှင့် နီးကပ်နေလေရာ ရန်သူများသည် ကျွန်တော့်ခံတပ်ကိုလည်း ပြင်းပြင်းထန်ထန် လာရောက်တိုက်ခိုက်မည်ဟု ယူဆရသည်။

မြို့ဖြူတော်ခံတပ်တွင် 'မိုက်'၏တပ်များ တွေ့ခဲ့ရသော ဒုက္ခထက်ကြီးကျယ်သောဒုက္ခကို ကျွန်တော်တို့က တွေ့ရမည်ဟု မြင်နေသည်။

ကျွန်တော်ရွေးချယ်ထားသောနေရာမှာ မိုးကောင်းတောင်ဘက် မိုင် ၂၀ ကွာ၊ ကာမိုင်းနှင့် မြစ်ကြီးနားလမ်းတို့ တွေ့ဆုံရာအရပ်တွင် ဖြစ်၏။

ဂျပန်တို့သည် မြစ်ကြီးနားတွင် ခံစစ်ပြုလျက်ရှိပြီး ကာမိုင်းအထက်တွင် ဗိုလ်ချုပ်ကြီးစတီးဝဲလ်၏ တပ်များကို တိုက်စစ်ဆင်လျက်ရှိသည်။

သို့ဖြစ်၍ မိုးကောင်းမှာ ဂျပန်တို့အတွက် ရိက္ခာနှင့် ခဲယမ်းများ သိုလှောင်ရာနေရာ၊ သယ်ယူပို့ဆောင်ရေး မော်တော်ယာဉ်များ စုရုံးနေရာ၊ တိုက်ပွဲမှဒဏ်ရာရသူ စစ်သည်တော်များကို ပြုစုကုသရာနေရာ ဖြစ်ရပေတော့မည်။

ဤသို့ဖြစ်လျှင် ကျွန်တော်၏ ခံတပ်သည် ဂျပန်တို့၏ အချက်အချာ

နေရာဖြစ်သော မိုးကောင်းနယ်နိမိတ်အတွင်းသို့ ရောက်ရှိနေပေတော့မည်။

ကျွန်တော့်ခံတပ်သို့ အမှတ်(၁၄) တပ်မဟာသာ နောက်မှကပ်၍ရောက်လာလျှင် ရန်သူတို့၏ အချက်အချာနေရာဖြစ်သော မိုးကောင်းကို ကျွန်တော်တို့က ကြွက်ကို ကြောင်နိုင်သကဲ့သို့ အနိုင်ပြု၍ ခဏ ခဏ ဒုက္ခပေးနေနိုင်ပေတော့မည်။

သို့သော် အမှတ်(၁၄) တပ်မဟာ ရောက်မလာမီအချိန်နှင့် ကျွန်တော်တို့ခံတပ်ကို တည်ဆောက်၍မပြီးမီအချိန်အတွင်းမှု အခြေအနေသည် ပြောင်းပြန်ဖြစ်နေမည်ကား မှချ။

ရန်သူ့နယ်မြေတွင် လေယာဉ်ပြေးလမ်းကြောင်း တည်ဆောက်၍ ကျွန်တော်တို့ခံတပ်ကို သံဆူးကြိုးထပ်ထပ်ကာရမည့်အလုပ်မှာ လွယ်ကူသောအလုပ် မဟုတ်။ မည်သို့ပင်ဖြစ်စေ ကျွန်တော်တို့သည် မြန်မြန်ထက်ထက်နှင့် သွက်သွက်လက်လက် လုပ်ရပေတော့မည်။

ကျွန်တော်သည် မြေပုံပေါ်ရှိ ခံတပ်တစ်ခုဆောက်လုပ်မည့် နေရာကို ပြန်၍ကြည့်လိုက်၏။

မှဆိုးစခန်းဟုခေါ်သောနေရာမှ တောလမ်းကလေးတစ်လမ်းသည် တောထူသောတောင်များပေါ်မှ ဖြတ်ကာ နမ့်ကွင်းရွာဆီသို့ ပြေးနေသည်ကို တွေ့ရသည်။

မှဆိုးစခန်းသည် အင်းတော်ကြီးကန် တစ်ဖက်အစွန်ရှိ ကိုင်းတောကြီးထဲတွင် ရှိလေသည်။

ကျွန်တော်သည် တပ်မဟာတစ်ခုလုံးကို ဒိုက္ကာများနှင့်တကွ မှဆိုးစခန်းတွင် ခြေကုပ်ယူပြီးနောက် ကျွန်တော်တည်ဆောက်မည့် ခံတပ်ဆီသို့ ဆက်လက်ချီတက်မည်ဟု ဆုံးဖြတ်လိုက်သည်။

နောက်တစ်နေ့နံနက်တွင် ကျွန်တော်တို့သည် အင်းတော်ကြီးလွင်ပြင်ကို ဖြတ်၍ ချီတက်လာခဲ့ကြ၏။ ရွာကလေးတစ်ရွာတွင် တဲကလေးတစ်ခုအတွင်း၌ အိပ်ပျော်နေသော ဂျပန်စစ်သားအချို့ကို တွေ့ရှိသုတ်သင်လိုက်ရ၏။ ဂျပန်စစ်တပ်မှ စစ်ပြေးများ ဖြစ်လေသလားဟု တွေးရသည်။

နေ့လယ်ရပ်နားချိန်တွင် ကျွန်တော်တို့သည် အင်းတော်ကြီးကန်ထဲသို့ ဆင်း၍ အလှည့်ကျ ရေချိုးကြသည်။ ကျွန်တော်သည် ရေထဲတွင် ပက်လက်လှန်၍ ဖြည်းဖြည်းကူးကာ ကောင်းကင်တွင် ရွက်တိုက်နေသော တိမ်ဖြူများကို မှိန်ခံ၍ ကြည့်နေမိ၏။

တိမ်များသည် ကျွန်တော့်စိတ်ကူးထဲတွင် လေယာဉ်များ ဖြစ်လာကြ၏။

ကျွန်တော်တို့ကသာ ကောင်းကင်ကို လေကြောင်းမှ အုပ်စိုး၍မထားနိုင်ခဲ့လျှင် ယခု ကျွန်တော်တို့တိုက်နေသော တိုက်ပွဲမျိုးကို တိုက်မှတိုက်နိုင်ပါမည်လားဟု စဉ်းစားနေမိ၏။

ရပ်နားသည့်စခန်းမှ ဆက်လက်ထွက်ခွာလာကြသောအခါ ရွှံ့ဗွက်အိုင်ကြီးများ၊ ဆင်တစ်ရပ်ခန့်မြင့်သည့် ကိုင်းတောကြီးများသည် ကျွန်တော်တို့ရှေ့မှ တားဆီးနေသည်ကို တွေ့ရ၏။

ကျွန်တော်တို့သည် ကုန်း၍ ရုန်း၍ ခက်ခက်ခဲခဲ ချီတက်ရသည်။

ဒုတိယနေ့ နေ့လယ်ဘက်တွင် အိမ်ခြေ ၅ အိမ်သာရှိသော မှဆိုးစခန်းသို့ ရောက်လာကြ၏။ နောက်တစ်နေ့တွင် ကင်မရွန်းတပ်သားများ ဆိုက်ရောက်လာသည်။

ကျွန်တော်တို့သည် လေကြောင်းမှ လာရောက်ချပေးသော ရိက္ခာခဲယမ်းနှင့် လက်နက်များကို နှစ်ရက် သုံးရက်ဆက်၍ ကောက်ယူကြရ၏။

ခံတပ်တည်ဆောက်မည့် နေရာသို့ ဆက်လက်ချီတက်ရန် အသင့်ဖြစ်နေလေသည်။

မေလ ၅ ရက်နေ့နံ နက်တွင် အမှတ်(၃၀)စစ်ကြောင်းအား မှဆိုးစခန်းတွင် ဆက်လက်၍ ခြေကုပ်ယူထားရာ ချန်ထားခဲ့ပြီးနောက် တပ်ရင်းနှစ်ရင်းဖြင့် ချီတက်လာခဲ့သည်။

မှဆိုးစခန်း၏ တောင်ထွတ်ဖြစ်သော 'နော်ကူ'သို့ တက်ရသည်မှာ ရှည်လျားသလောက် မတ်စောက်လှသည်။

ကျွန်တော်သည် အမှတ် (၃၀) စစ်ကြောင်းမှ တပ်မှူးအား 'နော်ကူ' တောင်ထွတ်တွင်လည်းကောင်း၊ နော်ကူးနှင့် မှဆိုးစခန်းကြားရှိ လမ်းများတွင်လည်းကောင်း ခိုင်ခံ့သော အစောင့်အနေများ ချထားရန် ညွှန်ကြားထားခဲ့၏။

မတ်စောက်သော နော်ကူသည် ကျွန်တော်တို့အား ဒူးများ တဆတ်ဆတ်တုန်လာအောင် ဒုက္ခပေးနေ၏။ နေကလည်း ချစ်ချစ်တောက်ပူနေသည်။ အားကိုးအားထားပြုနေရသော မြေပုံကလည်း ဤနေရာအရောက်မှ ကမောက်ကမ ဖြစ်နေရ၏။ မည်သည့် ကွန်တိုမျဉ်းများကိုကြည့်၍ မည်သို့ဆက်လက်ချီတက်ရမည်ကိုပင် မဆုံးဖြတ်တတ်အောင် ဖြစ်နေရ၏။ ကွန်တိုမျဉ်းကြောင်းတစ်ခုကိုကြည့်ပြီး ခုနစ်ခါလောက် ပြန်၍ စဉ်းစားနေရသည်။

ယနေ့ဆိုက်ရောက်ရမည့်ရွာမှာ 'ပရမ်ကွမ်း'ရွာဟု ကျွန်တော်က သတ်မှတ်ထားသည်။

'ပရမ်ကွမ်းသည် အရှေ့ဘက်သို့ တဖြည်းဖြည်း နိမ့်၍ဆင်းသွားပြီး 'နမ့်ကွင်း'ချောင်းထဲသို့ ပုန်းလျှိုးပျောက်ကွယ်သွားသော တောင်ကြောတစ်ခုပေါ်တွင် တည်ရှိကြောင်း မြေပုံက ထင်ထင်ရှားရှားပြထား၏။

ကျွန်တော်တို့သည် တောင်ကြောချင်း မှား၍တက်မိပြီး တစ်နေ့လုံး တစ်တောင်ဆင်းလိုက် တစ်တောင်တက်လိုက် လုပ်နေရမည့် ဒုက္ခမျိုးနှင့် မတိုးမိစေရန်အတွက် ပရမ်ကွမ်းတောင်ကြောပေါ်တွင် အမြင့်ဆုံးသောနေရာကို ရွေး၍ ချီတက်သည်။ ပရမ်ကွမ်းသည် ကျွန်တော်တို့အတွက် တရုတ်ပဟေဠိလို ဖြစ်လာလေသည်။ ကချင်လူမျိုးများသည် မိမိတို့၏ တောင်ပေါ်ရွာကလေးများကို တည်ထားကြရာ၌ တောင်ယာသည် ရွာ၏ အဓိကမှတ်တိုင်ကြီးအဖြစ် ရှိနေလေသည်။

တောင်ယာမြေဩဇာညှိုး၍လာသည့်အခါတိုင်း ရွာရှိလူများသည် အခြားတစ်နေရာသို့ ရွှေ့ပြောင်းရစမြဲဖြစ်ကာ ထိုရွာကိုလည်း ယခင်အတိုင်းပင် မှည့်ခေါ်လေ့ရှိကြသည်။ ရွာဟောင်းနှင့် ရွာသစ်မှာ တစ်ခါတစ်ခါ တစ်မိုင်ခန့်သာ ကွာတတ်လျက် တစ်ခါတစ်ခါတွင်မူ ဆယ့်လေးငါးမိုင်အထိ ဝေးနေတတ်၏။

ကျွန်တော်တို့ ရှေးရှုချီတက်နေသော 'ပရမ်ကွမ်း'သည် တောပုံးနေသော တောင်ယာအို တောင်ယာပျက်တစ်ခုသာ ဖြစ်ကောင်းဖြစ်နေပေမည်။

နေဝင်မိုးချုပ်လာသည်အထိ ပရမ်ကွမ်းကို ရှာပုံတော်ကြီးဖွင့်ကာ တရှာတည်း ရှာနေခဲ့၏။ လူများသာမက လားများပင် ရေငတ်သည့်ဒဏ်၊ မောဟိုက်သည့်ဒဏ်ကြောင့် ယိမ်းထိုးယိမ်းထိုးဖြစ်နေကြ၏။

ပရမ်ကွမ်းသို့ရောက်လျှင် ရေရရှိမည်မှာ သေချာသည်။ ယခုမူ ပရမ်ကွမ်းကို ရှာမတွေ့နိုင်သောကြောင့် လူရော လားများပါ ခြေကြည်တော်ပြတ်၍ မတ်တတ်က လဲရမလို ဖြစ်နေလေသည်။

မြေပုံအရ ကျွန်တော်တို့သည် ပရမ်ကွမ်းရွာပေါ်သို့ ရောက်နေကြပြီဖြစ်၏။ သို့သော် လူနေအိမ်ခြေ တစ်ခုမှမတွေ့ရ။

ကျွန်တော်သည် တောင်ယာကို ကျိန်ဆဲနေမိတော့၏။ မုဆိုးစခန်းမှ ထွက်မလာမီက ဆားအနည်းငယ်ကို မျိုချ၍ ရေတစ်ဝကြီးသောက်ခဲ့ရသောကြောင့်သာ စစ်သည်တော်တိုင်း ယခုအထိ ထူထူထောင်ထောင်ဖြစ်နေနိုင်

ခြင်းပင်။

ကျွန်တော်တို့သည် ရောက်သည့်နေရာတွင်ပင် စခန်းချ အိပ်စက်ရန် ဆုံးဖြတ်လိုက်၏။

လူများအတွက်ရော လားများအတွက်ပါ ရေတစ်စက်မျှမရှိ။ ကျွန်တော် သည် မျက်စိလည် လမ်းမှားပြီး ချောက်ကမ်းပါးသို့ ကျသူလို ဖြစ်နေလေပြီ လားဟု ထင်မိသည်။

ကျွန်တော်သည် မောမောနှင့် အိပ်ပျော်အောင် အိပ်တော့မည်ဟု စိတ်ကို လျှော့လိုက်၏။ တပ်မဟာမှူးတစ်ယောက်အနေနှင့် လမ်းစပျောက်ရ ခြင်းမှာ ရှက်စရာပင်ဖြစ်လာခဲ့ရသောခရီးကို တစ်ဖန်ပြန်၍နှင်းလျက် နောက် သို့ပြန်ရမည်လည်းအခက်၊ ကျွန်တော်သည် မောဟိုက်နေသော်လည်း အိပ်၍ မရအောင် ဖြစ်နေ၏။

စိတ်တိုနေသော ကျွန်တော်သည် နောက်တစ်နေ့တွင်လည်း ကျွန်လမ်း အတိုင်းပင် ရှေ့သို့ ဆက်၍ ချီတက်ရမည်ဟု အမိန့်ပေးလိုက်၏။ လမ်းစပျောက် နေသည်ကို မပျောက်ဟု ရဲဘော်များ ထင်စေရန်ဖြစ်၏။

နောက်တစ်နေ့နံနက်တွင် ကျွန်တော်တို့သည် ရှေ့သို့ဆက်၍ပင် ချီတက် သည်။ ခြေလှမ်းတစ်ရာမျှပင် မလှမ်းရသေးခင် ထောက်လှမ်းရေးအရာရှိဖြစ်သူ ဟာယ်ဒလီက ''ခဏနေကြပါဦးဗျို့'' ဟု ရုတ်တရက်အော်လိုက်ပြီး တော ငှက်ပျောတောတစ်ခုရှိရာသို့ ပြေးဝင်သွားသည်။

ကျွန်တော်သည် အားတက်၍လာလေသည်။

တောငှက်ပျော ဆိုသည်မှာ မြို့ပေါ်တွင်စားနေသော ငှက်ပျောသီးများ၏ မူလအရင်းခံသာဖြစ်ရာ တောငှက်ပျောတောတစ်ခု တွေ့နေရခြင်းကလည်း မြို့မှလူများ၏ မူလအရင်းခံဖြစ်သော တောမှလူများ ဤနေရာတစ်ဝိုက်တွင် ရှိနေကြောင်း ဖော်ပြသည့် သာဓကပင် ဖြစ်နေပေတော့မည်။

ဟာယ်ဒလီသည် အိမ်ယက်မအဟောင်းတစ်ခုကို ဆွဲရင်း တောထဲမှ ပြေးထွက်လာ၏။ ကျွန်တော်တို့သည် ညက 'ဂရမ်ကွမ်း'ရွာဟောင်းတွင် အိပ်စက်ခဲ့ကြခြင်းပင် ဖြစ်၏။ တောင်ပေါ်မှ တောင်အောင်သို့ အနည်းငယ် ဆင်းလိုက်သောအခါ စမ်းချောင်းကလေးတစ်ခုဘေးရှိ 'ပရမ်ကွမ်း'ရွာသစ်ကို ဝမ်းမြောက်ဝမ်းသာ တွေ့ကြရလေသည်။

ကျွန်တော်တို့သည် စမ်းချောင်းဘေးတွင် စခန်းချကြ၏။ ခံတပ်ဆောက် ရန် ရွေးချယ်ထားသောနေရာနှင့် ၂ မိုင်သာကွာတော့သည်။

ကျွန်တော်သည် နောက်တစ်နေ့နံနက်တွင် ခံတပ်ဆောက်ရန် ရွေးချယ်ထားသောနေရာသို့ အဖွဲ့ကလေးတစ်ဖွဲ့ဖြင့် သွားရောက်ကြည့်ရှုမည်ဟု ဆုံးဖြတ်လိုက်၏။ ကျွန်တော့်အဖွဲ့တွင် လူလေးငါးခြောက်ယောက်သာပါရမည်။ လူများလျှက် ရန်သူအား ချက်ချင်းပင့်ခေါ်လိုက်သကဲ့သို့ ရှိနေပေတော့မည်။

ကျွန်တော်နှင့်အတူ လိုက်ပါမည့် အဖွဲ့သားများတွင် မလိုက်ဘဲနေ၍မဖြစ်သူမှာ လေယာဉ်ပြေးလမ်းကြောင်းဖောက်၍ ဖြစ်နိုင် မဖြစ်နိုင် ဆုံးဖြတ်ပေးရမည့် လေတပ်အရာရှိဖြစ်သည်။ မြန်မာအမျိုးသားများနှင့်တွေ့လျှင် စကားပြန်အဖြစ် ဆောင်ရွက်ရမည့် ဘားမားရိုင်ဖယ်မှ အရာရှိတစ်ယောက်လည်း မှုချလိုသည်။ ဤနှစ်ယောက်အပြင် ကျွန်တော်တို့ကို စောင့်ရှောက်လိုက်ပါမည့် လူခြောက်ယောက် ခုနစ်ယောက်လောက် လိုသည်။

ခြင်းဒစ်စစ်ဆင်ရေးနှင့် ပတ်သက်သော စာရွက်စာတမ်းများ၊ မြေပုံများ၊ မှတ်စုများကို အားလုံးသူပင် ‘ပရမ်ကွမ်း’၌ ထားခဲ့ရမည်ဖြစ်သည်။

ကျွန်တော်သည် ခံတပ်တည်ဆောက်မည့်နေရာကို ရွေးချယ်သတ်မှတ်ရာ၌ အင်္ဂလိပ်စာလုံး ၆ လုံးကို မူတည်၍ ရွေးချယ်ရမည်ဖြစ်၏။

ထိုစာလုံး ၆ လုံးမှာ အက်ဖ်–အို–အေ–ဘီ ဒဗလျူ–အေ ဟူသော အလွန်အမှတ်ရလွယ်သည့် စာလုံးများတည်း။

အက်ဖ်သည် ဖီးလ်အော့ဖ်ဖာရာ...

အိုသည် အော့ဖ်ဇာဗေးရှင်း...

အေသည် ပရိုတက်ရှင်း အဂင့်စ် အာတာလာရီ...

ဘီသည် အဂင့်စ်ဘော့မ်ဗင်း...

ဗေလျူသည် ဝါတား...

နောက်ထပ် အေသည် အဲယားဖီးလ်...

ပို၍ ရှင်းအောင်ဆိုရလျှင် ကျွန်တော်တည်ဆောက်မည့် ခံတပ်နေရာတွင်...

ပစ်ကွင်းကောင်းသည့်နေရာလည်း ရှိသည်။

ကြည့်ကင်းစခန်း ကောင်းသည့်နေရာလည်း ဖြစ်ရမည်။

ရန်သူ့အမြောက်ဒဏ်ကို ကာကွယ်နိုင်ခြင်းလည်း ရှိရမည်။

ရန်သူက ဗုံးကြဲတိုက်ခိုက်သည်ကိုလည်း မဖြုသည့်နေရာ ဖြစ်ရမည်။

ရေရရှိနိုင်သောနေရာလည်း ဖြစ်ရမည်။

လေယာဉ်များ ကောင်းစွာသက်ဆင်းနိုင်မည့် လေယာဉ်ပြေးလမ်းကြောင်း

တည်ဆောက်နိုင်မည့်နေရာလည်း ဖြစ်ရမည်။

ဤကား ခံတပ်တည်ဆောက်ရာ၌ မူအားဖြင့် ရှိရမည့် အခြေခံ ၆ ချက်တည်း။

သို့ရာတွင် ဤအခြေခံ ၆ ချက်နှင့် ပြည့်စုံသောနေရာကို နတ်တို့ဖန်ရောက်အသင့် ကြာအသင့် ဆိုသကဲ့သို့ ရှာဖွေတွေ့ရှိလိမ့်မည်ဟု မျှော်လင့်ထား၍ကား မဖြစ်။

'အက်ဖ်'က ကောင်းသော်လည်း 'ဒဗလျူ'အတွက် အခက်အခဲ တွေ့နိုင်သည်။

ကျွန်တော်သည် တပ်မှူးများကို ခေါ်လိုက်ပြီး အလယ်တွင် ရမ်ပုလင်းတစ်လုံးကို ထောင်လိုက်၏။

တော်မီ၊ ဟီ၊ ဟန့်နှင်း၊ ဘရင်နန်နှင့် ကျွန်တော်တို့သည် ၁ပုလင်းလို ဖြည်းဖြည်းချင်းသောက်ရင်း ခံတပ်တည်ဆောက်မည့်နေရာကို မြေပုံများ၊ လေကြောင်းဓာတ်ပုံများဖြင့် ညှိနှိုင်း၍ ဆွေးနွေးဝေဖန် အကြံပေးကြသည်။

ကျွန်တော်က နက်ဖြန်တွင် ခံတပ်တည်ဆောက်မည့်နေရာသို့ ကျွန်တော်ကိုယ်တိုင် သွား၍ကြည့်မည်ဖြစ်ကြောင်း သန်ဘက်ခါနံနက် အရုဏ်တက်သည့်အချိန်တွင်မှ ကျွန်တော် ပြန်ရောက်မလာလျှင် ကျွန်တော့်ကို လိုက်လံရှာဖွေနေစရာ မလိုတော့ကြောင်း၊ တော်မီက တပ်မှူးအဖြစ် ဆက်လက်အုပ်ချုပ်ရမည်ဖြစ်ကြောင်း၊ တော်မီသည် ခံတပ်တည်ဆောက်မည့်လုပ်ငန်းကို ဆက်လက်လုပ်ကိုင်သွားရမည် ဖြစ်ကြောင်းဖြင့် ကျွန်တော်က မှာကြားထားသည်။

အမှန်ဆိုလျှင် ကျွန်တော်က သည်လိုမှာကြားနေရန်ပင်မလို။ အချိန်တန်၍ ကျွန်တော် ပြန်မရောက်သည်နှင့်တစ်ပြိုင်နက် တော်မီသည် ကျွန်တော့်နေရာကို ဆက်ခံကာ ကျွန်တော်ရည်ရွယ်ခဲ့သောအလုပ်ကို ဆက်၍လုပ်ရမည်သာ ဖြစ်၏။

နောက်တစ်နေ့နံနက် အရုဏ်မတက်မီ လေတပ်ဗိုလ် ချက်စ်တီ၊ ဗိုလ်မှူးမက်ဖာဆင်နှင့် ဂေါ်ရခါးရဲဘော်သုံးယောက်တို့ကို ခေါ်ကာ ပရမ်ကွမ်းမှ ကျွန်တော် ထွက်လာခဲ့၏။

ဆူးပေါသော ဝါးတောကို တစ်နာရီခန့် တိုး၍လာခဲ့ပြီးနောက် ရထားလမ်းရှိရာ ချိုင့်ဝှမ်းကို လှမ်း၍မြင်နေရသော တောင်တစ်လုံးပေါ်သို့ ရောက်လာကြ၏။ သစ်ပင်များအကြားမှ မျှော်ကြည့်လိုက်သောအခါ နမ့်ယန်းနှင့် နမ့်ကွမ်းချောင်း ၂ ခုအကြားတွင် နွားလပို့သဏ္ဌာန် မားမားကြီး တည်ရှိနေသော

တောင်ကုန်းကို တွေ့ရ၏။

ကျွန်တော်တို့ ခံတပ်ဆောက်ရန် ရွေးချယ်ထားသောနေရာတည်း။

ဂေါ်ရခါးသုံးယောက်နှင့် ကျွန်တော်တို့သည် တိုင်းရင်းသားများနှင့် ရုတ်တရက် ရင်ဆိုင်တိုးမိလျှင်၊ သို့မဟုတ် ဂျပန်တိုက်ကင်းအဖွဲ့နှင့် မလုမ်းမကမ်းနေရာသို့ ရောက်နေလျှင် အလွယ်တကူ မသိရှိနိုင်ရန် ရုပ်ဖျက်၍ ထားကြ၏။

ဂေါ်ရခါးသုံးယောက်က စုတ်ပြတ်ပေရေနေသော အင်္ကျီနှင့် ဘောင်းဘီများကို ဝတ်ထားပြီး ကျွန်တော်တို့က အစိမ်းရောင်လေထီးပိတ်စများကို မြန်မာအမျိုးသမီးများ လုံချည်ဝတ်သလို ဘောင်းဘီပေါ်မှ ထပ်၍ ဝတ်ထားကြ၏။

ကျွန်တော်တို့သည် တောင်ပေါ်မှ နမ့်ကွင်းချောင်း ရှိရာသို့ သတိထား၍ တဖြည်းဖြည်းဆင်းလာကြသည်။

နမ့်ကွင်းချောင်းသည် နိမ့်သောချောက်ကမ်းပါးနှစ်ခုအကြားတွင် တသွင်သွင် စီးဆင်းနေလေသည်။

ကျွန်တော်တို့သည် ချောင်းအတိုင်း ၂ ဖာလုံခန့် အောက်သို့စုန်၍ လိုက်သွားကြပြီးနောက် ကမ်းပေါ်သို့တက်လိုက်ကြသောအခါ ခံတပ်တည်ဆောက်မည့်နေရာသို့ ရောက်လာခဲ့ကြတော့၏။

ကျွန်တော်သည် အက်ဖ်-အို-အေ-ဘီ ဒဗလျူ-အေ ဟူသော စကားကြီး ၆ လုံးကို ပုတီးစိပ်သလို စိပ်ရင်း ခံတပ်တည်ဆောက်မည့် နေရာကို စတင်၍ စစ်ဆေးကြည့်ရှုရ၏။

မြောက်ဘက်တွင် တောင်စွယ်၊ တောင်စောင်း၊ တောင်နှာမောင်းတို့သည် ခံတပ် တည်ဆောက်မည့်တောင်နှင့် အလွန်နီးကပ်စွာ တည်ရှိနေသည်ကို သတိထားမိသည်။ ရေကိုမူ ဖောဖောသီသီ ရနိုင်သည်။

ကျွန်တော့်တပ်မဟာတစ်ခုအတွက် တောင်ကုန်းတစ်ခုလုံးသည် နေရာယူ စတည်းချနိုင်လောက်အောင် ကျယ်ဝန်းသည်။ သို့သော် ဗီးရထားလမ်းရှိရာသို့ မျက်နှာမူနေသော တောင်စောင်းများမှာ ရန်သူ့အမြောက်ဒဏ်ကို ကောင်းစွာခံနိုင်လောက်သည့်အနေအထား မရှိ၊ သင့်ရုံသာရှိသည်။

ကျွန်တော်သည် ရထားလမ်းတည်ရှိရာ ချိုင့်ဝှမ်းနှင့် ပတ်ဝန်းကျင်ရှိ တောင်ကုန်းများကို မှန်ပြောင်းဖြင့်ကြည့်၍ မှတ်ချက်ချနေမိသည်။

ကြည့်ကင်းစခန်းအတွက် ကောင်းသည်။

ပစ်ကွင်းမှာ သင့်ရုံသာရှိ၏။

လေကြောင်းဓာတ်ပုံများကို ပြန်၍ကြည့်လိုက်သောအခါလည်း ယခု ကျွန်တော်မြင်နေရသလောက်သာ ဖော်ပြထားနိုင်သည်ကို တွေ့ရ၏။

ကျွန်တော်တို့သည် ဤခံတပ်ကို အမှတ်(၁၄) တပ်မဟာ ရောက်လာသည့် အထိ ဆက်လက်ထိန်းထားရမည်ဖြစ်၏။ (၁၄)တပ်မဟာ ရောက်လာသည့် အချိန်တွင် ကျွန်တော့်ခံတပ်သည် မည်ကဲ့သို့သောရန်သူမျိုးမှ တိုက်၍မပြို နိုင်သော ရဲတိုက်ကြီး ဖြစ်လာပေတော့မည်။

စီ ၄၇ ဒါကိုတာလေယာဉ်ပြေးလမ်းကြောင်း ဖောက်လုပ်ပြီးနောက် မြေပြင်ပစ်အမြောက်များသာ ကျွန်တော်တို့ခံတပ်သို့ ရောက်လာပါက ကျွန်တော်တို့ခံတပ်၏ မြောက်ဘက်မှသော်လည်းကောင်း၊ တောင်ဘက်မှသော် လည်းကောင်း ဝင်ရောက်လာမည့် ရန်သူများကို ကျွန်တော်တို့သည် အစိမ်း လိုက်ပင် ဝါး၍စားပစ်နိုင်ဗေတော့မည်။

အမှတ်(၁၄) တပ်မဟာသည် ကျွန်တော်တို့ခံတပ်သို့ တစ်ပတ် နှစ်ပတ် အတွင်း ရောက်လာမည် မဟုတ်ပါလား။

ခံတပ်ပေါ်မှနေ၍ ကြည့်လိုက်လျှင် မီးရထားလမ်းနှင့် နမ့်ကွင်းရွာကို အထင်းသား မြင်နေရ၏။

ရန်သူဂျပန်များသည် ကျွန်တော်မြင်တွေ့နေရသော မန္တလေး–မြစ်ကြီးနား ရထားလမ်းပေါ်၌ ညအချိန်တွင်သာ လှုပ်ရှားလျက်ရှိရာ ဤခံတပ်သို့ ကျွန် တော်တို့ ရောက်လာခဲ့ခြင်းဖြင့် ရန်သူသည် ညအချိန်တွင်ပင် ရဲရဲတင်းတင်း မလှုပ်ရှားရဲအောင် ဖြစ်လာရပေမည်။

နမ့်ကွင်းရွာတွင် ဂျပန်များ ရှိနေမည်ဟု တွက်ရသော်လည်း ရုံးအမှုထမ်း လောက်သာ ဖြစ်မည်ဟု ထင်ရ၏။

ဤခံတပ်တွင် ကျွန်တော်တို့ လာရောက်တပ်စွဲခြင်းဖြင့် သူတို့အတွက် မည်မျှဘေးအန္တရာယ်များမည်ကို ရန်သူသည် မသိဘဲနေမည်မဟုတ်၊ သိမည် သာဖြစ်၏။

သိလျှင်...ကျွန်တော်တို့ခံတပ်တည်ဆောက်နေစဉ် မုချလာရောက်တိုက်ခိုက် တော့မည်ဖြစ်သည်။

ကျွန်တော်သည် ရန်သူတို့၏ အဖျက်အဆီးကြားမှ ခံတပ်ကို လုံခြုံနိုင် သမျှ လုံခြုံအောင် တည်ဆောက်ရပေတော့မည်။

ခံတပ်ကို လုံခြုံစေသောအရာမှာ လေယာဉ်ပြေးလမ်းကြောင်းပင်ဖြစ်၏။ လေယာဉ်ပြေးလမ်းကြောင်း မရှိဘဲ မည်သည့်သံဆူးကြိုး၊ မည်သည့်အမြောက်၊ .

မည်သည့်လက်နက်ကြီးမှလည်း ကျွန်တော်တို့ထံ ရောက်မလာနိုင်။ ကျွန်တော်တို့တွင် ရှိနေသော မည်သည့်လူနာကိုမှလည်း အိန္ဒိယသို့ ပြန်မပို့နိုင်။

ကျွန်တော်တို့သည် စကားကြီး ၆ လုံးမှ နောက်ဆုံးအရေးကြီးသော 'အော'အဲယားဖီးလ်ကို ရှာဖွေရန်အတွက် တောင်ကုန်းအောက်သို့ ဆင်းလာခဲ့ကြသည်။

ခံတပ်ဆောက်လုပ်မည့် တောင်ကုန်းနှင့် ဆက်နေသော အခြားတောင်ကုန်းကလေးတစ်ခု၏ ခြေရင်းသည် လယ်ကွင်းပြင်များဖြင့် ဆက်၍နေသည်ကို တွေ့ရလေသည်။

ကျွန်တော်တို့သည် တောင်ခြေရှိ တောစပ်တွင် ပုန်း၍ နမ့်ကွင်းဘူတာနှင့် ကျွန်တော်တို့အကြားရှိ လယ်ကွင်းများကို လေ့လာကြ၏။

လယ်သမားအချို့ လယ်ထွန်နေကြသည်ကို တွေ့ရသည်။

လယ်ကွင်း၏ ဟိုမှာဘက်တွင် ကိုင်းပင်များနှင့် သစ်ပင်တောအုပ်များ ရှိနေ၏။

လေတပ်ဗိုလ်ချုက်စ်တီသည် ခေါင်းတွင် လေထီးပိတ်စတစ်ထည်ကို ပေါင်းလိုက်ပြီး ကာဘိုင်ကို ဘောင်းဘီနှင့် လုံချည်အကြားတွင် ဝှက်ထားလိုက်၏။ ရက်ပေါင်းအတော်ကြာအောင် အကျီမဝတ်ဘဲ ချီတက်လာခဲ့သောကြောင့် သူ့ကိုယ်အထက်ပိုင်းမှာ နေလောင်ကာ နီညိုညိုဖြစ်နေ၏။

သို့တိုင်အောင် သူ့ရုပ်သူ့ရည်မှာ မြန်မာတစ်ယောက်နှင့် နည်းနည်းမှ မတူ။

ချက်စ်တီနှင့် ကျွန်တော်တို့က လေယာဉ်ပြေးလမ်းကြောင်း ဖောက်၍ ရ,မရ လယ်ကွင်းပြင်တစ်လျှောက်သို့ လျှောက်၍လေ့လာရန် သွားမည်ဟု နေရာမှ ထလိုက်သည်နှင့်တစ်ပြိုင်နက် ဗိုလ်မှူးမက်ဖာဆင်နှင့် ဂေါ်ရခါးရဲဘော်သုံးယောက်က လိုအပ်လျှင် ကျွန်တော်တို့နှစ်ယောက်အတွက် ကာပစ်ပစ်ပေးရန် နေရာယူပြီး အသင့်ဖြစ်နေကြလေသည်။

ချက်စ်တီနှင့် ကျွန်တော်တို့သည် လယ်ကန်သင်းများပေါ်တွင် လျှောက်ရင်း ကီစွတစ်ခုခုဖြင့် နမ့်ကွင်းရွာသို့ သွားနေသည့် မြန်မာလယ်သမား ၂ ယောက်အသွင် ဆောင်ထားကြ၏။

သို့သော် ကျွန်တော်တို့နှစ်ယောက်သည် သုတ်သုတ်ပျာပျာသွားနေခြင်းကား မဟုတ်။

လယ်ကန်သင်းများကို ဖြတ်၍ ကိုက် ၄၀၀ ခန့် လာမိကြသောအခါ

လယ်ကွင်းပြင်သည် တစ်ညီတည်းပြေးနေရာမှ အောက်သို့ ၅ ပေခန့် နိမ့်ဆင်းသွားသည်ကို တွေ့လိုက်ကြရ၏။

ကျွန်တော်သည် လယ်ကမ်းပါးစောင်းတွင် ပု၍ ထိုင်နေရစ်ပြီး ကာဘိုင်ကို အသင့်ကိုင်ထားသည်။ ချက်စ်တီက ရှေ့သို့ဆက်သွားရင်း လယ်ကွင်းပြင်၏ အခြေအနေကို အကဲခတ်နေ၏။

ချက်စ်တီ၏ ခြေလှမ်းများကို နောက်မှနေ၍ ရေတွက်နေသော ကျွန်တော်က နောက်ထပ် ကိုက် ၄၀၀ အကွာသို့ ချက်စ်ကို ရောက်သွားပြီဟု တွက်မိသည်။

စောစောက ကျွန်တော်တို့တွေ့ခဲ့သော ကိုက် ၄၀၀ နှင့် ယခု ချက်စ်တီ တွေ့နေသော ကိုက် ၄၀၀...။

အကျယ်အဝန်းအနေဖြင့်မူ ဒါကိုတာလေယာဉ်ကြီးများ ဆင်းသက်နိုင်သည့် လေယာဉ်ပြေးလမ်းကြောင်း ဖောက်၍ရနိုင်ပါ၏။

သို့သော် အလယ်တွင် ၅ ပေခန့်နက်သော ကမ်းပါးက လယ်ကွင်းနှစ်ခုကို ခြားနေသဖြင့် လေယာဉ်ပြေးလမ်းကြောင်းဖောက်၍ ရမှရနိုင်ပါ့မလားဟု ကျွန်တော်က စိုးရိမ်နေမိသည်။

ချက်စ်တီသည် လယ်ကွင်းအဆုံးသို့ ရောက်သောအခါ သွားသည့်အတိုင်း ပြန်၍မလာဘဲ လယ်ကွင်းဘေးပတ်ပတ်လည်ရှိ ချုံပုတ်ကလေးများကို နှိုက်၍ ပြန်လာသည်။

ကျွန်တော်နှင့် ဆုံမိကြသည်နှင့်တစ်ပြိုင်နက်...ချက်စ်တီက...

"အလယ်က ငါးပေလောက်နက်တဲ့ ချိုင့်ကြီးကို ညှိပေးလိုက်ရင်တော့ ဖြစ်နိုင်ပါတယ်"ဟု မှတ်ချက်ချလိုက်၏။

"ဖြစ်နိုင်ပါ့မလား..."

ကျွန်တော်သည် ချက်စ်တီအား အလျင်စလို မေးလိုက်ပြီးမှ ကျွန်တော့်အမှားကို ကျွန်တော် နောင်တရနေသည်။

အင်ဂျင်နီယာတစ်ယောက်ကိုပါ ခေါ်လာခဲ့ရန် သင့်သည်မဟုတ်ပါလား...။

အင်ဂျင်နီယာတစ်ယောက် ပါမလာသည်ကို ရှိပါစေတော့။ တပ်မဟာတစ်ခု၏ တပ်မှူးတစ်ယောက် လုပ်နေသော ကျွန်တော်သည် ဤမျှလောက်သောကိစ္စကို အဆုံးအဖြတ်ပေးနိုင်ကောင်းသည် မဟုတ်ပါလား...။

ကျွန်တော်သည် လယ်ကွင်းပြင်ကြီးကို ပြန်၍ကြည့်လိုက်၏။

လယ်ကွင်းပြင်သည် ကိုက် ၄၀၀ အထိ တစ်ညီတည်းပြေးနေပြီးမှ

ရုတ်တရက် ၅ ပေခန့် နိမ့်သွားကာ နောက်ထပ် ကိုက် ၄၀၀ အထိ ညီနေပြန်သည်။

''နှစ်ညလောက် လူ…နှစ်ရာနဲ့…မြေညီစက်ကြီးနဲ့ ညှိလိုက်ရရင်…''

ချက်စ်တီနှင့် ကျွန်တော်တို့သည် ဗိုလ်မှူးမက်ဖာဆင်တို့လူစု နေရာယူ၍ စောင့်နေရာသို့ ပြန်လာခဲ့ကြ၏။

ကျွန်တော့်ခေါင်းထဲတွင် အတွေးများက ဝေနေလေသည်။

''လေယာဉ် အဆင်းအတက် အကွက်ကောင်းရဲ့လား''

ချွေးတလုံးလုံးဖြင့်ရှိနေသော မက်ဖာဆင်က ကျွန်တော့်ကို လှမ်းမေးလိုက်၏။

''သင့်ပါတယ်…''

ကျွန်တော်က အဖြေပေးရင်း စိတ်မောနေမိသည်။ တစ်ကိုယ်လုံး ဖောချွေးများပြန်နေလေသည်။

လေယာဉ်ပြေးလမ်းကြောင်း ဖောက်၍ပြီးသည့်တိုင် ခံတပ်လုပ်ထားရာ တောင်ကုန်းပေါ်မှနေ၍ လေယာဉ်ပြေးလမ်းကြောင်းကို ကာကွယ်ထားရမည့် အရေးမှာ မလွယ်ကူလှ။ ခံတပ်ပတ်ဝန်းကျင်တွင် လှည့်လည်လှုပ်ရှားနေမည့် အမှတ်(၁၀) တပ်မဟာ ရောက်လာမှသာ လုံလုံခြုံခြုံ ကာကွယ်ထားနိုင်ပေတော့မည်။

လယ်ကွင်းထဲမှနေ၍ ခံတပ်လုပ်မည့် တောင်ကုန်းကို အကဲခတ်လေ့လာလိုက်သောအခါလည်း တောင်ကုန်းသည် အပေါ်သို့ အတန်ပင်မြင့်စွာ ထိုးထွက်နေသည်ကို သတိပြုမိ၏။

မြင့်ရန်လိုသည်ထက် ပို၍မြင့်နေသည်ဟု ထင်နေမိသည်။

တောင်ကုန်းက မြင့်ရန်လိုသည်ထက် ပို၍မြင့်သောအခါ တောင်ထိပ်သည် ကျဉ်းလာရတော့မည်ဖြစ်၏။

တောင်ထိပ်ကျဉ်းလာသောအခါ ကျွန်တော်တို့စစ်သည်တော်များအဖို့ ခံစစ်အတွက် နေရာယူရန် ကျဉ်းမြောင်းလာပေတော့မည်။ တောင်ထိပ်တွင် နေရာမယူဘဲ ဂတောင်စောင်းတွင် နေရာယူဗိုင်းပြန်လျှင်လည်း စစ်သည်တော်များသည် ရန်သူ့ဘက်မှ ပစ်ခတ်လိုက်မည့် အမြောက်ဒဏ်ကို အကာအကွယ်မရှိဘဲ ခံနေရမည့်အန္တရာယ်က ရှိလာနိုင်သည်။

ဤတောင်တွင် ခံတပ်မလုပ်ဘဲ အခြားတောင်တစ်ခုခုသို့ ရွှေ့ပြောင်းမည် ဆိုတော့လည်း အချိန်က ထပ်၍ကြာနေပေဦးမည်။ အချိန်ကြာသလောက်

...ဤတောင်လောက်မှ အနေအထားမကောင်းသည့် တောင်များကို တွေ့နေရလျှင်...ဒုက္ခ။

ကျွန်တော်သည် တပ်မှူးတစ်ယောက်ပီပီ ဆုံးဖြတ်ချက်တွေကို မြန်မြန်ထက်ထက်ချရပေတော့မည်။

ဒီမှာပဲ...ကျုပ်တို့ ခံတပ်ဆောက်မယ်..."

ကျွန်တော်သည် ယတိပြတ် ဆုံးဖြတ်ချက်ပေးလိုက်ရင်း 'ပရမ်ကွမ်း'သို့ ပြန်ရန် ခြေလှမ်းပြင်လိုက်၏။

ကျွန်တော်သည် သက်ပြင်းတစ်ချက်ကို ပြင်းပြင်းပင် မှုတ်ထုတ်မိလိုက်လေသည်။

နေ့လယ်ဘက်တွင် 'ပရမ်ကွမ်း'သို့ ပြန်ရောက်လာခဲ့ပြီးနောက် ကျွန်တော်သည် ခံတပ်နှင့် လေယာဉ်ကွင်း တည်ရှိနေပုံကို မြေပုံကြမ်းတစ်ခု ရေးဆွဲပြီး မည်သည့်တပ်ကို မည်သည့်နေရာတွင် ထားမည်ကို အစီအစဉ်ရေးဆွဲသည်။ တပ်မှူးများကိုလည်း အခြေအနေကို ရှင်းပြသည်။

နေဝင်ရန် ၂ နာရီခန့်အလိုတွင် ကျွန်တော်တို့သည် တရုတ်ပဟေဠိလို ဖြစ်နေခဲ့ရသော 'ပရမ်ကွမ်း'မှ နမ့်ယန်းနှင့် နမ့်ကွင်း ချောင်း ၂ သွယ်အကြားရှိ ကျွန်တော်တို့ခံတပ်ဆောက်လုပ်မည့်နေရာသို့ ချီတက်ခဲ့ကြသည်။

အနောက်ဘက် မိုးကုပ်စက်ဝိုင်းတွင် နေလုံးပျောက်သွားသည့်အချိန်၌ ကျွန်တော်တို့သည် နမ့်ကွင်းချောင်းသို့ ရောက်ခဲ့ကြပြီဖြစ်၏။ ဗိုလ်မှူးမက်ဖာဆင် ဦးစီးသော တပ်မဟာလုံခြုံရေးတပ်စုနှင့် ဘားမားရိုင်ဖယ် တပ်ဦးမှချီပြီး ကျွန်တော်နှင့် အမိန့်ပေးအဖွဲ့က အလယ်မှလိုက်ပါကာ တပ်ရင်း ၂ ရင်းနှင့် တပ်မဟာဌာနချုပ်က နောက်မှလိုက်ပါခဲ့ကြ၏။

ကျွန်တော်တို့အမိန့်ပေးအဖွဲ့ ခံတပ်တည်ဆောက်မည့် တောင်ကုန်းပေါ်သို့ ရောက်သည့်အချိန်တွင် တစ်ချက်တည်း အတွဲလိုက်ဆွဲလိုက်သော အပေါ့စား စက်သေနတ်ကလေးတစ်လက်အသံက တောင်အောက်ဘက် နမ့်ကွမ်းချောင်းတစ်လျှောက်တွင်သော်လည်းကောင်း၊ သို့မဟုတ် ခပ်လှမ်းလှမ်းရှိ မှောင်နှင့်မည်းမည်းဖြစ်နေသော တောင်တန်းတစ်လျှောက်တွင်သော်လည်းကောင်း ပေါ်ထွက်လာသည်ဟု ထင်လိုက်ရ၏။

ရန်သူများ ကျွန်တော်တို့ရောက်လာသည်ကို သိနှင့်ကာ အချက်ပေးသည့် သေနတ်သံလေလားဟု စိုးရိမ်စိတ်ပွားမိ၏။

ယနေ့နံနက် ကျွန်တော်တို့ ကင်းထောက်လာသည်ကို ရန်သူ့အထောက်

တော်များ သိရှိသွားပြီး ရန်သူ့ထံ သတင်းပို့လိုက်သောကြောင့် ဂျပန်တပ်ကြီး တစ်ခုလုံး ကျွန်တော်တို့ကို ချုံခိုတိုက်ခိုက်ရန် အသင့်စောင့်ဆိုင်းနေလေပြီလားဟု သောကများမိသည်။

ဤသို့ သောကများလျက်နှင့်ပင် တဖွဲဖွဲရောက်၍လာသော စစ်သည်တော်များကို သူ့နေရာနှင့်သူ ခန့်ခွဲနေရာချပေးနေရ၏။

မိုးစုံးစုံးချုပ်ပြီးနောက် ၁ နာရီခန့်အကြာတွင် တပ်မဟာ၏ နောက်ရံတပ်အဖြစ် လိုက်ပါသောတပ်က ခံတပ်တည်ရှိရာသို့ ရောက်လာလေသည်။

စစ်သည်တော်များသည် ခရီးရောက်မဆိုက်ပင် ကတုတ်ကျင်းတူးသူကတူး၊ ဘန်ကာဆောက်သူများကဆောက်၊ လယ်ကွင်းပြင်မှ ကန်သင်းများကို ဖြိုသူကဖြိုဖြင့် တစ်ညလုံး အလုပ်လုပ်ကြရပြန်သည်။

နောက်တစ်နေ့ညတွင် စက်မဲ့လေယာဉ်များဖြင့် ခံတပ်တည်ဆောက်ရာတွင်လည်းကောင်း၊ လေယာဉ်ပြေးလမ်းကြောင်း တည်ဆောက်ရာတွင်လည်းကောင်း လိုအပ်မည့် မြေညှိစက်ကြီးများ၊ သံဆူးကြိုးခွေများ၊ လက်နက်ကိရိယာများ၊ မော်တာပုံးများကို တင်ဆောင်လာမည်ဖြစ်ရာ လတ်တလောချင်းအားဖြင့် စက်မဲ့လေယာဉ်များ ဆင်းသက်နိုင်မည့် လေယာဉ်ပြေးလမ်းကြောင်းကို ညတွင်းချင်း ဖောက်လုပ်တော့၏။

တောင်ကုန်းပေါ်တွင် တပ်မဟာဌာနချုပ်က မြောက်ဘက်သို့ မျက်နှာမူနေသော တောင်ထိပ်၌ ကျင်းတူး၍ နေရာယူထားသည်။

အချက်ပြဆက်သွယ်ရေးအရာရှိ 'ဘရစ်'က ရေဒီယိုအသံဖမ်းတိုင်များကို ထောင်ကာ မုဆိုးစခန်းရှိ အမှတ်(၃၀) စစ်ကြောင်းနှင့်လည်းကောင်း၊ အိန္ဒိယရှိ ခြင်းဒစ်တပ်ဖွဲ့ဌာနချုပ်နှင့်လည်းကောင်း၊ လေတပ်ဌာနချုပ်နှင့်လည်းကောင်း အဆက်အသွယ်ယူလိုက်၏။

ကျွန်တော်တို့ခံတပ်စခန်း၏ လျှို့ဝှက်ချက်အမည်မှာ 'ဘလက်ပူးလ်' ဖြစ်လေသည်။

◆

## အခန်း ( ၁၂ )

ဘလက်ပူးလ်တောင်ကုန်းသည် ရှေ့ခြေနှစ်ဖက်ကို ရှေ့သို့ဆန့်ထုတ်ကာ ခေါင်းကို အောက်သို့ငုံ့လျက် အမြီးကို နောက်သို့ဆန့်ထုတ်ထားသော ဝက်ကြီးတစ်ကောင်နှင့် တူနေလေသည်။

ဘလက်ပူးနှင့်ဆက်လျက် အခြားတောင်ဆွယ်ကလေးများလည်း ရှိနေ၏။

ဝက်ကြီး၏ရှေ့သို့ ဆန့်ထုတ်ထားသော ခြေနှစ်ဖက်အောက်တွင် လှိုဏ်ကလေးတစ်ခု ရှိသည်။ ရန်သူ့ထံမှ ပစ်ခတ်လိုက်သော အမြောက်သေနတ်များကို ရှောင်ရန်ကောင်းသောနေရာတည်း။ သုံးဘက်သုံးတန်မှ ပစ်နေသည်ကိုပင် ဤလှိုဏ်ကလေးအတွင်းမှ ရှောင်ရင်း ပြန်လည်ပစ်ခတ်နိုင်၏။

နမ့်ကွမ်းချောင်းသည် ဝက်ကြီးရှေ့ ဘယ်ခြေထောက်အနားမှ ဖြတ်၍ စီးဆင်းကာ ဝက်ကြီး၏ နာပေါက်ကို ဖြတ်၍သွားသည်။ ကျွန်တော်တို့သည် ဝက်ကြီး၏ရှေ့ ဘယ်ခြေထောက်အောက်သို့ ဆင်းကာ ရေများကို သယ်ယူနိုင်သည်။

ကျွန်တော်တို့၏ လေယာဉ်ပြေးလမ်းကြောင်းသည် ဝက်ကြီး၏ရှေ့ ညာခြေမှနေ၍ နောက်ညာခြေအထိ ပြေးလျက်ရှိသည်။ ဝက်ကြီး၏ အမြီးသည် အခြားတောင်ကလေးတစ်လုံးနှင့် သွား၍ယှက်နေလျက်ရှိ၏။

ဝက်ကြီး၏ အရှေ့ဘက်နှင့် မျက်နှာတည့်တည့်တွင် စမ်းချောင်းများ၊ တောင်ကျပ်ကြားများဖြင့် ကာဆီးနေသော တောထူသည့် တောင်ကုန်းများ ရှိနေလေသည်။

ဘလက်ပူးလ်ခံတပ်တွင် တပ်အသီးသီး နေရာယူပြီးသောအခါ မုဆိုးစခန်းမှ လား ၂၅ ကောင်ကို ခေါ်ယူလိုက်၏။ မြို့ဖြူတော်ခံတပ်တွင် လားများကို လူများနှင့်အတူ ရောနှောထားခဲ့ကြရာ လားများသည် ရန်သူ့အမြောက်ဒဏ်ကြောင့် အများအပြား ဒဏ်ရာရခဲ့သည်ကို ကျွန်တော် သင်ခန်းစာယူခဲ့၏။ ထို့ကြောင့် လား ၂၅ ကောင်ကိုသာ တိုက်ကင်းထွက်ရန်အတွက်လည်းကောင်း၊ လေယာဉ်ကွင်းမှ ခဲယမ်းနှင့် ရိက္ခာသေတ္တာများကို တောင်ပေါ်သို့ သယ်ယူရန်လည်းကောင်း ခေါ်ယူခဲ့ခြင်းဖြစ်၏။

နောက်တစ်နေ့နံနက် အရုဏ်တက်လာသည်နှင့်တစ်ပြိုင်နက် ကျွန်တော်သည် သက်ဆိုင်ရာ တပ်မှူးများကို ခေါ်ကာ ခံတပ်တစ်ခုလုံးကို လှည့်လည်ကြည့်ရှုရင်း ဟာနေသည့် အကွက်များကို ထပ်မံဖြည့်စွက်ပေးသည်။

ထိုနေ့တစ်နေ့လုံး ကျွန်တော်သည် လေယာဉ်ကွင်းဖြစ်လာမည့် လယ်ကွက်များဆီသို့လည်းကောင်း၊ ခိုင်ခံ့သော ခံတပ်အဖြစ်သို့ ရောက်ရှိလာမည့် တောင်ကုန်းပေါ်သို့လည်းကောင်း တက်လိုက် ဆင်းလိုက်လုပ်ရင်း စီမံခန့်ခွဲနေရတော့၏။

ကျွန်တော်သည် တောင်ကုန်းတစ်ဖက်နှင့် လယ်ကွင်းပြင်များအကြားတွင် တပ်အခိုင်အမာချထားသည်။ နမ့်ကွင်းရွာမှ ကျွန်တော်တို့ တောင်ကုန်းဆီသို့ ရှေးရှုနေသော တောလမ်းတွင် ကတုတ်ကျင်းများတူး၍ နေရာယူထားစေသည်။ လယ်ကွင်းထဲတွင်မူ လူ ၂၀၀ ခန့်သည် သေနတ်ကို ကျောတွင်လွယ်လျက် ပူပြင်းလှသောနေရာကို အာခံကာ၊ လယ်ကန်သင်းများကို ရှင်းလင်းဖြိုဖျက်နေကြ၏။

ဘလက်ပူးလ်တောင်ကုန်းပေါ်သို့ ကျွန်တော်တို့ ရောက်ရှိတပ်စွဲနေသည်ကို ရန်သူဂျပန်များ အမှန်ပင်သိနေပေတော့မည်။

လယ်ကန်သင်းများသည် တစ်ခုပြီးတစ်ခု ပျောက်၍ ပျောက်၍သွားကြ၏။ လူများမှာ ချွေးနှင့် ရွှံ့များလိမ်းကျံကာ ရုပ်ပင်မပေါ်နိုင်တော့။ နေ့လယ် ၁၁ နာရီလောက်တွင် လေတပ်ဗိုလ်'ချက်စ်တီ'က လယ်ကွင်းပြင်ကြီး၊ မြောက်ဘက်ပိုင်းတွင် စက်မဲ့လေယာဉ်များ ဆင်းနိုင်လောက်သည့်အခြေသို့ ရောက်ပြီဟု သတင်းပို့သည်။

မှောင်ရီပျိုးစအချိန်တွင် ဒါကိုတာလေယာဉ်များဖြင့် တွဲခေါ်လာသော စက်မဲ့လေယာဉ်များ တစ်စင်းပြီးတစ်စင်း ရောက်လာလေသည်။

ကျွန်တော်သည် မော်တာအဖွဲ့အား နမ့်ကွင်းရွာဘက်ဆီသို့ မိုင်းဗုံးများဖြင့်

ပစ်စေပြီး ကျွန်တော်တို့ စက်မဲ့လေယာဉ်များ ဆင်းသက်မှုကို တတ်နိုင်သမျှ အကာအကွယ်ပေးစေသည်။

စက်မဲ့လေယာဉ်တစ်စင်းသည် နမ့်ကွင်းချောင်းတစ်လျှောက်တွင် ပျံဝဲနေလေသည်။

နမ့်ကွင်းရွာဆီမှ အပေါ်စားစက်သေနတ်သံကလေးများ ပေါ်ထွက်လာ၏။ ကျွန်တော်တို့၏ မိုက်ကား စက်သေနတ်များက အသံလာရာဆီသို့ အနေးပစ် ပစ်ပေးနေ၏။

စက်မဲ့လေယာဉ်သည် လေယာဉ်ပြေးလမ်းကြောင်းပေါ်တွင် ပေ ၃၀၀ ခန့်အမြင့်မှနေ၍ ထိုးဆင်းလာသည်။ မြေပြင်နှင့်လေယာဉ် အရှိန်ပြင်းစွာ ထိခိုက်လိုက်သော အသံကြီးမှာ တိုက်အိမ်ကြီးတစ်အိမ် ရုတ်တရက်ပြိုကျသွား သလို ကျယ်လောင်လှ၏။ ခံတပ်ပတ်ဝန်းကျင်တွင် အတန်ကြာအောင်ပင် ပဲ့တင်ရိုက်နေ၏။

လေတပ်ဗိုလ်ချုက်စ်တီက ကောင်းကင်တွင် ပျံဝဲလျက်ရှိသော ဒါကိုတာ လေယာဉ်မှ လေယာဉ်မှူးဆီသို့ မြေပြင်မှနေ၍ ညွှန်ကြားချက်များ ပေးနေ သည်။

"ညာဘက်ကို ဝဲပြီးမှ စက်မဲ့လေယာဉ်ကို ဖြုတ်ချလိုက်ပါ"

လေယာဉ်မှူးက ချုက်စ်တီ၏ ညွှန်ကြားချက်ကို လိုက်နာပြီး ညာဘက်သို့ ဝဲသည်။ ပြီးမှ စက်မဲ့လေယာဉ်ကို ဖြုတ်ချလိုက်၏။

ဒုတိယမြောက် စက်မဲ့လေယာဉ်သည် တောင်ကုန်းများပေါ်မှကျော်ကာ လေယာဉ်ပြေးလမ်းကြောင်းပေါ်သို့ ရောက်လာပြီးနောက် ကောင်းစွာဆင်းသက် နိုင်သည်။ နောက်ထပ် စက်မဲ့လေယာဉ်လေးစင်းလည်း ဘေးမသီရန်မခဘဲ ဆင်းသက်နိုင်ကြသည်။

ဆင်းသက်ရာတွင် မြေပြင်နှင့် ထိခိုက်ကာ ပျက်စီးသွားသော စက်မဲ့ လေယာဉ်ဆီသို့ အကူအညီပေးရန် ပြေးသွားသော လူစုမှာ လေယာဉ်အတွင်း တွင် အသက်ပျောက်နေပြီဖြစ်သော လေယာဉ်အဖွဲ့သားများကိုသာ တွေ့ရ တော့၏။ စက်မဲ့လေယာဉ်ဦးခေါင်းက မြေထဲတွင်စိုက်နေပြီး အမြီးက အပေါ် တွင် ထောင်နေလေသည်။

ပန်းလျှနေပြီဖြစ်သော စစ်သည်တော်များသည် လေးလံသော စက်မဲ့ လေယာဉ်ပျက်ကြီးကို ကွင်းစပ်တစ်ဖက်သို့ ရောက်သည်အထိ ဆွဲ၍ထုတ်ကြ ရပြန်၏။

၂ နာရီခန့်အတောအတွင်းတွင်ပင် အငယ်စားမြေညှိစက် နှစ်လုံးနှင့် မြေတူးစက်တစ်လုံးသည် စတင်၍ အလုပ်လုပ်နေနိုင်ပြီဖြစ်၏။

လေတပ်ဗိုလ်ချုပ်စ်တီသည် စက်မဲ့လေယာဉ်တစ်စင်းကို လေကြောင်းမျှော်စင်တစ်ခုအဖြစ်သို့ ပြောင်းလဲကာ လေယာဉ်ပြေးလမ်းကြောင်းပေါ်တွင် အချက်ပြမီးများ တပ်ဆင်နေသည်။

အရေးပေါ်အလုပ်သမားတပ်ဖွဲ့အဖြစ် သတ်မှတ်ထားသော စစ်သည်တော်များက လားအား လူအားကို သုံး၍ လေးလံသော သံဆူးကြိုးခွေများ၊ မော်တာဗုံးများ၊ တည်ဆောက်ရေး လက်နက်ကိရိယာများ၊ ခဲယမ်းသေတ္တာများကို တောင်ပေါ်သို့ တရွေ့ရွေ့ပြောင်းနေကြ၏။

ထိုနေ့ည တစ်ညလုံးနှင့် နောက်နေ့ တစ်နေ့လုံး စစ်သည်တော်များသည် မနားမနေ အလုပ်လုပ်ကြရ၏။ အတွင်းအဖြစ် သံဆူးကြိုးများ ကာရံကာ တယ်လီဖုန်းကြိုးများကိုလည်း နေရာအနှံ့ ဆက်သွယ်တပ်ဆင်ရသည်။ ကတုတ်ကျင်းများ ထပ်မံ၍တူးကာ ပစ်ကွင်းရှေ့မှ ကာဆီးနေသည့် သစ်ပင် သစ်ကိုင်းများကိုလည်း ခုတ်ထွင်ရှင်းလင်းရသည်။

စိန်ပြောင်းများကိုလည်း ယမ်းအားမှတ်ဒုတ်ချိန်တိုင် အသင့်ဆင်၍ထားရသည်။ လယ်ကွင်းထဲတွင်လည်း ၅ ပေလောက်နက်သော ချောက်ကမ်းပါးကို လေယာဉ်ပြေးလမ်းကြောင်းနှင့် တစ်ညီတည်းဖြစ်အောင် ညှိနေရသည်။ စီ ၄၇ ဒါကိုတာလေယာဉ်များ အောက်သို့ဆင်းလာစဉ် တစ်နာရီလျှင် မိုင် ၅၀ မှ ၆၀ နှုန်းဖြင့် ပြေးနိုင်ရန်ဖြစ်သည်။

ညနေ ၄ နာရီခန့်တွင် ကျွန်တော်သည် တောင်ကုန်းပေါ်မှ လေယာဉ်ပြေးလမ်းကြောင်းကို စစ်ဆေးရန် ဆင်းလာခဲ့၏။ ၅ ပေလောက်နက်သော ချောက်ကမ်းပါးမှာ ယခုတိုင် ညှိ၍မရနိုင်သေး။ လေတပ်ဗိုလ် ချုပ်စ်တီက ''သိပ်တော့မကောင်းသေးဘူး၊ ဒါပေမယ့် ဒီအတိုင်းဆိုရင်လည်း ဖြစ်နိုင်ပါတယ်...''ဟု ကျွန်တော့်ကို အားနာသည့်မျက်နှာဖြင့် ကြည့်၍ပြောလိုက်သည်။

''လေယာဉ်က ဒီနေ့ည ဆင်းမှဖြစ်မယ်''ဟု ကျွန်တော်က ညည်းညည်းညူညူ ပြောလိုက်၏။

ရန်သူများသည် မြို့ဖြူတော်ခံတပ်ကို တင့်ကားများဖြင့် တိုက်ခိုက်ခဲ့သည့်သာကေ ရှိနေသည်။ ကျွန်တော့်ခံတပ်ကိုလည်း တင့်ကားများဖြင့် လာရောက်တိုက်မည်ကို စိုးရိမ်နေရ၏။ မြေပြင်ပစ်အမြောက်များ ကျွန်တော့်ထံ မြန်နိုင်သမျှ မြန်မြန်ရောက်လာရန် အရေးကြီးနေ၏။

ကျွန်တော်နှင့် ချက်စ်တီတို့ စကားတပြောပြောနှင့် လျှောက်လာစဉ်မှာပင် မြောက်ဘက်မှလာသော အမြောက်ကျည်ဆန်တစ်ခုသည် ကျွန်တော်တို့ ခံတပ်ပြုလုပ်ထားသော တောင်ကုန်းပေါ်မှ ကျော်၍ အနောက်ဘက်တွင် ကျရောက်ပေါက်ကွဲသည်ကို မြင်လိုက်ရ၏။

မကြာမီပင် နောက်ထပ် အမြောက်ကျည်ဆန်တစ်ခုက ခံတပ်ပြုလုပ်ထားသော တောင်ကုန်းပေါ်သို့ မရောက်မီ လမ်းခုလတ်တွင် ကျရောက်ပေါက်ကွဲသည်ကို တွေ့ရပြန်သည်။

ရန်သူသည် ကျွန်တော်တို့အား အမြောက်ဖြင့် ခြေမှုန်းရန်အတွက် နိဒါန်းပျိုးကာ လက်တည့်စမ်းနေခြင်းဖြစ်သည်။

ကျွန်တော်က ချက်စ်တီအား လေယာဉ်ပြေးလမ်းကြောင်း အခြေအနေကို အိန္ဒိယရှိ လေတပ်ဌာနချုပ်သို့ အမှန်အတိုင်း သတင်းပို့ပါ။ ယခုညလည်း တတ်နိုင်သမျှ ကြိုးစား၍ဆင်းပါဟု အကြောင်းကြားရန် အမိန့်ပေးလိုက်၏။

ထိုနေ့ညတွင်ပင် လေယာဉ်များ ရောက်လာသည်။ ရှေ့ဆုံးမှ ခေါင်းဆောင်၍လာသော လေယာဉ်သည် နမ့်ကွင်းချောင်းဝှမ်းပေါ်၌ ပျံဝဲနေသည်ကို မြင်ရ၏။ ဩဂါကလေးတစ်ခုကို မည်းမှောင်သောကောင်းကင်ပြင်တွင် ကပ်၍ထားသည်နှင့် တူနေတော့၏။

လေတပ်ဗိုလ်ချက်စ်တီက လေယာဉ်ပြေးလမ်းကြောင်း ပတ်ပတ်လည်တွင် တပ်ဆင်ထားသော မီးများကို ခလုတ်နှိပ်၍ ဖွင့်ပေးလိုက်၏။ နမ့်ကွင်းချောင်းဘက်မှ ရိုင်ဖယ်သေနတ်ပစ်သံများ ပေါ်ထွက်လာသည်။ မော်တာသံများလည်း ပို၍ကျယ်လာသည်။

လေတပ်ဗိုလ် ချက်စ်တီက မြေပြင်မှနေ၍ အပေါ်ရှိ လေယာဉ်မှူးအား ညွှန်ကြားချက်များပေးနေ၏။

"မြင့်လွန်းတယ် အောက်ကိုနည်းနည်းဆင်းဦး"

အပေါ်မှလေယာဉ်မှူးက ချက်စ်တီ၏ ညွှန်ကြားချက်အတိုင်း လိုက်နာကာ လေယာဉ်ပြေးလမ်းကြောင်းပေါ်သို့ ဆင်းလိုက်၏။

လေယာဉ်သည် အလယ်တည့်တည့်ရှိ မြေညှိ၍မရနိုင်သေးသော ချောက်ကမ်းပါးပေါ်သို့ ဆင်းမိလျက်သား ဖြစ်နေပြီ။ လေယာဉ်သည် အပေါ်သို့ မြောက်၍ ခုန်တက်သွားကာ မထိန်းနိုင်မသိမ်းနိုင် ဖြစ်နေတော့၏။ ခဏအတွင်းတွင်ပင် လေယာဉ်သည် ဘယ်ဘက်သို့ ချာခနဲ လွတ်ထွက်သွားပြီး လေယာဉ်ပြေးလမ်းကြောင်းကိုကျော်ကာ တောစပ်ရှိ သစ်ပင်များကို ဝင်ရောက်

တိုက်မိတော့သည်။ ပြင်းထန်သော ပေါက်ကွဲသံကြီးနှင့်အတူ မီးတောက် မီးလျှံများ တဟုန်းဟုန်းတောက်လာသည်ကို တွေ့ရ၏။

လေယာဉ်ထဲမှ ရဲဘော်အချို့ တံခါးပေါက်မှ ခုန်ဆင်းလာသည်ကို လည်းကောင်း၊ ထိုနေရာတွင် အစောင့်ချထားသော ကင်မရွန်စစ်သားများက လေယာဉ်ရှိရာသို့ ပြေးလွှားလာကြသည်ကိုလည်းကောင်း တောက်လောင်နေသော မီးရောင်ဖြင့် မြင်ရ၏။

ဒုတိယလေယာဉ်မှာ ကွင်းအလယ်ကောင်တွင် အပေါ်သို့ ပေ ၂၀ ခန့် မြောက်တက်သွားသော်လည်း ကောင်းစွာထိန်းသိမ်း၍ရသည်။ တတိယ လေယာဉ်မှာ ကောင်းစွာဆင်းသက်လာနိုင်သော်လည်း လိုအပ်သည့်အရှိန်တွင် ရပ်တန့်၍မရနိုင်ဘဲ လေယာဉ်ပြေးလမ်းကြောင်း အစွန်ရှိ ဂန်သင်းတစ်ခုဖြင့် ဝင်တိုက်မိကာ အောက်မှလေယာဉ်ဘီးများ ပြုတ်ထွက်ကုန်ပြီး တောစပ်တွင် မေးတင်နေတော့၏။

စတုတ္ထလေယာဉ်မှာ ဘေးမသီရန်မခဘဲ ကောင်းစွာဆင်းသက်နိုင်သည်။

ကျွန်တော့်နောက်ဘက်ရှိ ခံတပ်တစ်နေရာမှ ပစ်သံခတ်သံများ ဆူညံစွာ ပေါ်ထွက်လာ၏။

ကျွန်တော်သည် ဘရိဂိတ်မေဂျာအဖြစ် ဆောင်ရွက်နေသော အင်ဂျင်နီယာ'ဘတ်'အား သူကျွမ်းကျင်သည့်အလုပ်သို့ ပြောင်းပေးလိုက်ပြီး အသစ်ရောက်လာသော ဗိုလ်မှူးဟန်ဖရေကို ဘရိဂိတ်မေဂျာအဖြစ် ခန့်ထားလိုက်၏။

ဗိုလ်မှူး'ဘတ်'သည် လေယာဉ်ဖြင့် ရောက်ရှိလာသော ယမ်းဘီလူးများ၊ အင်ဂျင်နီယာပစ္စည်းများကို ဝန်ထမ်းတပ်သားများဖြင့် အောက်သို့ချရန် အစီအစဉ်များ လုပ်နေသည်။

ဗိုလ်မှူး'ဘတ်'သည် အောက်မှလေယာဉ်ဘီးများ ပြုတ်ထွက်ပြီး တောစပ်တွင် မေးတင်နေသော တတိယလေယာဉ်ပေါ်ရှိ ပစ္စည်းများကို စစ်ဆေးရန် အတွက် လေယာဉ်အတောင်ပံအောက်သို့ ဝင်လိုက်၏။ သူ့နောက်မှ တစ်စုံတစ်ယောက်က လက်ပစ်ဗုံးတစ်လုံး ပစ်သွင်းလိုက်သံကို သူ ကြားလိုက်ရသည်။ သူသည် ချက်ချင်းပင် ပြားပြားမှောက်၍ ချလိုက်သည်။ လက်ပစ်ဗုံးသည် သူနှင့် ပေအနည်းငယ်အကွာတွင် ဝုန်းခနဲ ထပေါက်ပြီး လေယာဉ်ကို မီးစဉ်၍ စွဲတော့၏။

အစောင့်ကျနေသော ကင်မရွန်းစစ်သားများ၏ တော်မီသေနတ်သံများ ပေါ်ထွက်လာသည်။

ပဌမမြောက်လေယာဉ်က အောက်သို့ဆင်းသက်ရန် ဟန်ပြင်လျက်ရှိသည်။ သို့သော် တတိယလေယာဉ်သည် မီးစွဲလောင်နေရုံမျှမက လေယာဉ်ပြေးလမ်းကြောင်းကို အချက်ပြထားသော မီးများကိုပါ ရုတ်တရက်ငြိမ်းသွားအောင် ပြုလုပ်လိုက်ရသည်။ ထို့ကြောင့် ပဌမမြောက်လေယာဉ်မှာ ကွင်းပေါ်သို့ မဆင်းနိုင်ဘဲ အိန္ဒိယသို့ ပြန်၍သွားခဲ့ရသည်။

စတုတ္ထလေယာဉ်မှ ရဲဘော်များသည် မီးတဟုန်းဟုန်းတောက်လောင်နေသော တတိယမြောက်လေယာဉ်ကို မြင်နေပြီး လက်ပစ်ဗုံးပေါက်ကွဲသံ၊ တော်မီသေနတ်ပစ်ခတ်သံများကို ကြားရသောအခါ ရန်သူက အတွင်းဝင်၍ တိုက်ခိုက်လာမည်ဟု ယူဆပြီး လေယာဉ်တံခါးကို ပြန်ပိတ်၍ လေယာဉ်ကို မှောင်နှင့်မည်းမည်းထဲတွင်ပင် လေယာဉ်ပြေးလမ်းကြောင်း အောက်ဘက်သို့ တွန်းထုတ်လာခဲ့ကြ၏။

လေယာဉ်က အရှိန်များစွာမရမီ လေယာဉ်တောင်ပံသည် မပျက်စီးဘဲ ကောင်းစွာရပ်နားထားသည်။ ဒုတိယမြောက်လေယာဉ်နှင့် ဝင်၍တိုက်မိပြီး ရပ်တန့်သွားတော့သည်။

ဤညတွင် လေယာဉ် ၂ စင်းက သုံးမရလောက်အောင် ပျက်စီးသွားပြီး နောက်ထပ် လေယာဉ် ၂ စင်းက လတ်တလော ပြန်လည်အသုံးပြုမရနိုင်လောက်အောင် ဖြစ်နေ၏။

ကျွန်တော်နှင့် လေတပ်ဗိုလ် ချက်စ်တီက နောက်ထပ်လာမည့် လေယာဉ် ၂ စင်းကို နက်ဖြန်မှလာရန် ညွှန်ကြားနေစဉ် ခံတပ်ဆီမှ စစ်သားတစ်ယောက် မောကြီးပန်းကြီးဖြင့် ရောက်လာသည်။

ခံတပ်မှ 'လွှိုကလေးကို ရန်သူများ လာရောက်တိုက်ခိုက်ပြီ ဟူသော သတင်းကို ကြားရ၏။ ကျွန်တော်သည် စိတ်မောလူမော ဖြစ်နေပါလေ၏။

'လွှိုကလေးမှာ တောဝက်ကြီး၏ နှာသီးဖျားနှင့်တူသည့် ခံတပ်မြောက်ဘက်အစွန်ဆုံးမှာ ရှိ၏။

ကျွန်တော်သည် ခံတပ်ပေါ်သို့ တက်လာခဲ့ပြီးနောက် ဗိုလ်မှူးကြီးတော်မီနှင့်အတူ ပစ်သံခတ်သံများကို အကဲခတ်နေ၏။

ည ၁ နာရီအချိန်လောက်တွင် အသံဗလံများ ရုတ်တရက် တိတ်ဆိတ်သွား၏။

ရန်သူများသည် 'လွှို'ကလေးအတွင်း၌ ကျွန်တော်တို့ အင်အား မည်မျှရှိသည်ကို လာရောက်အကဲစမ်းခြင်းပင်တည်း။ မည်သည့်နေရာတွင် စက်

သေနတ်များဆင်ထားကာ မည်သည့်နေရာတွင် ကျည်ပစ်အားကောင်းသည်ကို လာရောက်စုံစမ်းခြင်းပင်ဖြစ်၏။

ရန်သူ ဂျပန်များက ကျွန်တော်တို့ခံတပ်အား အလုံးအရင်းဖြင့် တိုက်ခိုက်ရန် တာစူလိုက်ခြင်းပင်တည်း။

ကျွန်တော့်စခန်းသို့ ပြန်ရောက်ပြီးနောက် အိပ်တော့မည်ဟု စိတ်ကို ဒုံးဒုံးချလိုက်စဉ် ခြေထောက်တစ်ဖက်တွင် ပတ်တီးထူထူကြီး စည်းထားသော ထောက်လှမ်းရေးအရာရှိ ဟာယ်ဒလီ ရောက်လာသည်။ ကျွန်တော်သည် သူ့အား ရန်သူက ရထားလမ်းနှင့် ကားလမ်းတွင် မည်သို့လှုပ်ရှားနေသည်ကို ထောက်လှမ်းရန် အဖွဲ့လေးတစ်ဖွဲ့ဖြင့် စေလွှတ်ထားခဲ့၏။

ရန်သူသည် ရထားလမ်းကိုသော်လည်းကောင်း၊ ကားလမ်းကိုသော်လည်းကောင်း မည်သို့မျှ အသုံးမပြုသေးဘဲ လှုပ်ရှားမှုကို အဓိကအတန့်အားဖြင့် ရပ်တန့်ထားကြောင်း ဟာယ်ဒလီ တွေ့ရှိရ၏။ သူခေါင်းဆောင်သော အဖွဲ့ကလေးသည် ရန်သူ၏ အလားတူ ထောက်လှမ်းရေးအဖွဲ့တစ်ဖွဲ့နှင့် ရင်ဆိုင်တိုးမိပြီး တိုက်ပွဲဖြစ်ပွားခဲ့၏။

ဟာယ်ဒလီသည် ရန်သူအချို့ကို ပစ်သတ်နိုင်ခဲ့သော်လည်း သူ့ဒူးတွင် ရန်သူဘက်မှ ပစ်ခတ်လိုက်သော ဖုံးဆန်ထိမှန်ကာ ဒဏ်ရာရရှိခဲ့ခြင်းဖြစ်၏။

ဟာယ်ဒလီနောက်မှ ထက်ကြပ်မကွာ လိုက်ပါလာသော ဒေါက်တာဝိုက်သည် ကျွန်တော့်အား တည်ငြိမ်သောအမူအရာဖြင့် ကြည့်လိုက်ပြီး...

"ဟာယ်ဒလီကို အိန္ဒိယပြန်ပို့မှဖြစ်မယ် မပို့လို့ကို မဖြစ်ဘူး"ဟု ပြောလိုက်၏။

ထောက်လှမ်းရေးအရာရှိဖြစ်သူ ဟာယ်ဒလီက သူ့ဒဏ်ရာမှာ ကြီးကျယ်လှခြင်းမရှိသောကြောင့် ရှေ့တန်းစစ်မျက်နှာတွင်ပင် ဆက်လက် တာဝန်ထမ်းဆောင်ခွင့်ပေးပါဟု ကျွန်တော့်ကို တောင်းပန်သည်။

သို့သော် ဒေါက်တာဝိုက်က မည်သည့်နည်းနှင့်မျှ ခွင့်မပြုသောကြောင့် ဟာယ်ဒလီအား အိန္ဒိယသို့ ပို့ပေးလိုက်ရသည်။

နောက်တစ်နေ့နံနက်တွင် ရန်သူသည် ၁၀၅ မီလီမီတာ အမြောက်များဖြင့် ကျွန်တော်တို့ခံတပ်ကို နမ့်ကွင်းချောင်းဝှမ်းမှနေ၍ စတင်ပစ်ခတ်လာသည်။

ကျွန်တော်သည် ဝက်ပေါင်ခြောက်တစ်ပွဲနှင့် ကြက်ဥကြော်ကို ကျွန်တော့်ပါးစပ်တွင်းသို့ သွင်းအံ့ဆဲဆဲအချိန်ပင်တည်း...။

တဟီးဟီးမြည်ဟည်း၍လာသော ရန်သူ့အမြောက်သံက စားတော့မည့်

ဆဲဆဲ ဝက်ပေါင်ခြောက်ပန်းကန်ကို အောက်သို့ရောက်သွားအောင် ဖန်တီးလာ၏။ ကျွန်တော်သည် မြေပုံလိပ်ကို လက်ကကိုင်ကာ ဝက်ပေါင်ခြောက်ပန်းကန်ကို အခြားတစ်ဖက်မှကိုင်ရင်း ကျွန်တော်တို့နောက်ဘက်ရှိ ပုန်းကျင်းထဲသို့ ပြေး၍ဝပ်လိုက်သည်။

အသစ်ရောက်ရှိလာသော ဘရိဂိတ်မေဂျာဟန်ဖာရေမှာ ကျွန်တော့်လိုပင် လျင်မြန်သူဖြစ်၏။ ကျွန်တော်နှင့်အတူတူပင် ပုန်းကျင်းထဲသို့ ရောက်လာသည်။ သို့သော် ဟယ်ဒလီ၏နေရာတွင် အသစ်ရောက်လာသော ထောက်လှမ်းရေးအရာရှိ 'ပက်'မှာ အနည်းငယ်နောက်ကျနေ၏။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော အမြောက်ဆန်သည် ကျွန်တော်တို့ခေါင်းပေါ်မှ နိမ့်နိမ့်ကလေးကျော်သွားပြီးနောက် ကျွန်တော်တို့ပုန်းကျင်းနှင့် ၁၀ ပေလောက်အကွာတွင် ဝုန်းခနဲ ကျရောက်ပေါက်ကွဲသွားသည်။ အမြောက်ဆန်တစ်ခုက ကျွန်တော်တို့ပုန်းကျင်းအရှေ့တွင်ကျပြီး နောက်ထပ်တစ်ခုက အနောက်ဘက်တွင် နီးကပ်စွာကျလာပြန်သည်။

ကျွန်တော်သည် ပုန်းကျင်းထဲတွင် ထိုင်ရင်း ကျွန်တော့်နံနက်စာကို စားသည်။ ကျွန်တော့်ပေါင်ပေါ်မှ မြေပုံကို ထပ်၍လှေ့လာသည်။

''ပက်တော့ ထိပြီထင်တယ် တပ်မှူး...''ဟု ဘရိဂိတ်မေဂျာဖြစ်သူ ဟန်ဖရေက ကျွန်တော့်ကို ပြောလိုက်၏။ ကျွန်တော် လှည့်ကြည့်လိုက်သောအခါ ကျွန်တော်နှင့် ဟန်ဖရေတို့အကြား ပုန်းကျင်းအောက်ခံမြေသားနှင့် ကပ်ကာ ဝပ်နေသော ထောက်လှမ်းရေးအရာရှိ'ပက်'ကို တွေ့ရ၏။ သတိလစ်နေသည့် အခြေအနေကို မြင်ရသည်။

အမှန်အားဖြင့် အမြောက်ကျည်ဆန်တစ်ခုက ပက်၏ခေါင်းခွံကို တိုက်ရိုက်ထိမှန်ခြင်းမရှိဘဲ ပွတ်တိုက်သွားခြင်းသာ ဖြစ်၏။ သို့သော် ထိုပွတ်တိုက်သည့်ဒဏ်ရာမှာ ပက်အား ခဏအဖို့ လောကကြီးကို မေ့သွားစေခဲ့သည်။ လုံးဝသတိလစ်မသွားအောင်ကား ပြုလုပ်နိုင်ခြင်း မရှိခဲ့။

'ပက်'သည် ကျွန်တော်တို့ပြောနေသော စကားများကို နားထဲတွင် ကြားနေရသည်။ သို့သော် ပြန်၍ပြောနိုင်သည့်အင်အားမရှိ၊ ပုန်းကျင်းပတ်ပတ်လည်တွင်လည်း ပေါက်ကွဲသံများက တဟုန်းဟုန်းဆူညံနေသည်။

ကျွန်တော်ပြောလိုက်သော 'သေပြီထင်တယ်'ဟူသော စကားနှင့် ဟန်ဖရေက ပြောလိုက်သော 'ဟုတ်တယ် သေပြီထင်တယ်''ဟူသော စကားနှစ်ခွန်းမှာ သူ့ကိုယ်ကိုယ်သူ မသေသေးဟု သိနေသော 'ပက်'အား သေပြီဟု

တကယ်ထင်အောင်ပြောလိုက်သောစကားများ ဖြစ်နေတော့၏။

ဗိုလ်မှူးဟန်ဖရေသည် ပက်၏မျက်နှာကို သူ့ဘက်သို့ ဆွဲယူ၍ ငုံ့ကြည့်လိုက်သည်။ ဤအခါမှပင် ပက်သည် သတိပြန်၍ဝင်လာကာ အသက်ရှူနိုင်လာတော့သည်။

''သူ မသေသေးဘူး တပ်မှူး''ဟု ဟန်ဖရေက ဝမ်းသာအားရနှင့် ပြောလိုက်၏။

''ဒီစကား ကြားလိုက်ရတော့မှပဲ ကျွန်တော့်ကိုယ်ကို ကျွန်တော် ငါ မသေဘူးဆိုပြီး အားပေးလိုက်မိတယ်...''

ပက်က သူခံစားရပုံကို ကျွန်တော်တို့အား ဝမ်းသာအားရဖြင့် ပြောနေလေသည်။

ရန်သူ့ဘက်မှ အမြောက်ဖြင့် ပစ်ခတ်တိုက်ခတ်၍ မပြီးမီပင် ကျွန်တော်တို့ဘက်တွင် ထိခိုက်ဒဏ်ရာရသူများ အတော်ပင်များပြားနေတော့၏။ လွန်ခဲ့သော ၁၀ နာရီခန့်ကမှ ကျွန်တော်တို့ခံတပ်ကို ရောက်လာခဲ့သည့် အမြောက်တပ်မှ ဗိုလ်မှူးတစ်ဦးမှာ ကျောရိုးတွင် အမြောက်ဆန် ထိမှန်ခံရပြီး ပွဲချင်းပြီးခဲ့ရသည်။

ရန်သူသည် ၂ နာရီခန့်ကြာအောင် အမြောက်ဖြင့် ပစ်ခတ်တိုက်ခိုက်ပြီးနောက် ချက်ချင်းလိုပင် ရပ်ပစ်လိုက်၏။

ပို၍ကြီးကျယ်သော၊ ပို၍ပြင်းထန်သော တိုက်ပွဲကို ဆင်နွှဲရန် ရန်သူသည် ပြင်ဆင်နေကြောင်း ထင်ရှားနေပေသည်။

ယခုအချိန်၌ ရန်သူသည် မည်သည့်နေရာတွင် တပ်စွဲကာ ကျွန်တော်တို့အား အမြောက်ဖြင့် တိုက်ခိုက်နေသည်ကို ကျွန်တော် သိလာပြီဖြစ်၏။ ကျွန်တော်သည် ခံတပ်မြောက်ဘက်များတွင်ရှိသော တပ်မဟာဌာနချုပ်နှင့် စစ်မြေပြင်သူနာပြုစခန်းကို ပို၍လုံခြုံသောနေရာသို့ ရွှေ့ပြောင်းရန် အမိန့်ပေးလိုက်၏။

ကျွန်တော်၏ အမိန့်ပေး စခန်းသစ်သည် တောဝက်ကြီး၏ ဝဲဘက်လက်မောင်းကြားရှိ တောင်ကုန်းမြင့်မြင့်ပေါ်တွင် ရောက်နေပေပြီ။

မှောင်စပြုမီ တစ်နာရီခန့်အလိုတွင် ရန်သူတို့ဘက်မှ ပတ်မကြီး တီးသလိုပြန်၍ကြားရ၏။ ပွဲကမည်ဟု အချိန်းအချက်ပေးလိုက်သော ပတ်မသံတည်း...။

ယနေ့ညတွင် ရန်သူသည် အာဠဝကဇာတ်ကို ခင်းတော့မည်ဟု ထင်နေရတော့သည်။

အမြောက်ဆန်များသည် လျှိုကလေးအတွင်းသို့လည်းကောင်း၊ ထိုလျှိုကလေးအား ဘေးနှစ်ဖက်မှ ညှပ်၍ ကာကွယ်ထားသော ကမူလေးပေါ်သို့လည်းကောင်း တဖွဲဖွဲကျရောက်ပေါက်ကွဲလာသည်။ ရန်သူ့ခြေလျင်တပ်များတက်လာရန်အတွက် အမြောက်တပ်က ကာပစ် ပစ်နေခြင်းပေတည်း။

မိုးစုံးစုံးချုပ်သွားသည်နှင့်တစ်ပြိုင်နက် ညာသံပေး၍ ပြေးတက်လာသော ရန်သူများ၏ အသံကို ကြားရ၏။ အိုးကို မှောက်ထားသည်နှင့်တူသော သံခမောက်များ၊ တုတ်ရှည်ရှည်တစ်ခုတွင် ဝါးတပ်ထားသည်နှင့်တူသော လှံစွပ်သေနတ်များကို အရေးရေး အထွေးထွေး မြင်လိုက်ရပြီးနောက် ပစ်သံခတ်သံများကို စ၍ကြားရတော့သည်။

ရန်သူ့ဘက်မှ စတင်တိုက်ခိုက်၍ တစ်နာရီခန့်အကြာတွင် ကျွန်တော်တို့ဘက်မှ လေယာဉ်များ ရောက်လာ၏။

ကျွန်တော်တို့လေယာဉ်များက ရန်သူ့တပ်မှူး ရှိနေမည်ဟု ကျွန်တော်တို့က ညွှန်ပြသော နေရာကို တည့်တည့်ကြီးကျအောင် တိုက်ခိုက်ပုံးကြဲတိုက်ခိုက်သည်။

ကျွန်တော်သည် ခံတပ်မြောက်ဘက်ဖျားတွင် နေရာယူထားသော ဗိုလ်မှူးကြီးတော်မိ၏ ခံကတုတ်နှင့် ကျွန်တော့်ဌာနချုပ်အကြားတွင် ပြေးလိုက်လွှားလိုက်လုပ်ရင်း အခြေအနေကို ထိန်းနေရတော့၏။

ည ၂ နာရီအချိန်တွင် တက်ရောက်တိုက်ခိုက်လာသော ရန်သူများ ဆုတ်ခွာသွားသည်။

ကျွန်တော်တို့အား ၇ နာရီတိုင်တိုင် အဆက်မပြတ် တရစပ်တိုက်ခိုက်သွားခြင်းပင်တည်း။

ကျွန်တော်သည် တစ်ရေးလောက်မှေးပြီးနောက် လေယာဉ်ပြေးလမ်းကြောင်း ရှိရာသို့ ဆင်းလာခဲ့၏။

စစ်သည်တော်များမှာ ရက်ကြာသည်နှင့်အမျှ မောပန်းလာကြပြီဖြစ်၍ အလုပ်မှာ စေစောကလောက် မတွင်ကျယ်တော့...။

လေယာဉ်ပြေးလမ်းကြောင်းဘေးတွင် စုပုံထားသော လက်နက်ခဲယမ်းများ၊ စစ်သုံးပစ္စည်းများမှာ တန်ပေါင်းများစွာ ရှိနေသည်။

သို့သော် စစ်တိုက်နေသူက တိုက်ရပြီး အရံတပ်အဖြစ် အသင့်ရှိနေသူကလည်း ရှိနေရကာ ကတုတ်ကျင်း ဘန်ကာများကို အသစ်တူးကတူး၊ အဟောင်းပြင်သူက ပြင်နေကြလျက် အတွင်းအပြင် သံဆူးကြိုးများ ထပ်မံ

ကာသူက ကာ၊ တိုက်ကင်းထွက်သူက ထွက်၊ လေယာဉ်ပြေးလမ်းကြောင်းကို စောင့်သူက စောင့်နေကြရသောကြောင့် တန်ပေါင်းများစွာသော ခဲယမ်းများနှင့် စစ်ပစ္စည်းများကို ခံတပ်တွင်းသို့ အရောက် သယ်ယူပို့ဆောင်မည့်သူများ အလွန်နည်းပါးနေလေသည်။

ကျွန်တော်သည် တပ်ရင်းများသို့ ခွဲဝေပေးထားသော ၃ လက်မ စိန်ပြောင်းများကို ပြန်လည်စုစည်း၍ စိန်ပြောင်းတပ်ဖွဲ့တစ်ဖွဲ့အဖြစ် အသုံးပြုရမည်ဟု ဆုံးဖြတ်ထားသည်။ ရန်သူက တစ်နေရာရာကို ဖိ၍တိုက်လာလျှင် ထိုနေရာသို့ စိန်ပြောင်းတပ်ဖွဲ့ကို အလွယ်တကူ ပြောင်းရွှေ့ခေါ်ယူနိုင်ရန် တည်း...။

တပ်ဆင်ပြီးဖြစ်သော မြေပြင်ပစ် အမြောက်များက နမ့်ကွင်းရွာဆီသို့ ပစ်ခတ်ရင်း ချိန်တိုင် မှန်,မမှန် စတင်စမ်းသပ်နေကြ၏။

မိုးဥတုသို့ ရောက်လာခဲ့ပြီဖြစ်၍ ကောင်းကင်မှ အမြဲလိုလို ညိုမှိုင်းနေပြီး ကျွန်တော်တို့ တိုက်လေယာဉ်များမှာလည်း ယခင်ကလို မကြာခဏရောက် လာနိုင်ခြင်း မရှိတော့။

ကာမိုင်းတွင် တိုက်ပွဲပြင်းထန်သောကြောင့်တစ်ကြောင်း၊ အင်ဖာတွင် အရှုံးအနိုင်ကို အဆုံးအဖြတ်ပေးမည့် တိုက်ပွဲကြီးသည် အထွတ်အထိပ်သို့ ရောက်နေသောကြောင့်တစ်ကြောင်း ကျွန်တော်တို့လေယာဉ်ပျံများ ခါတိုင်းလို ရောက်မလာနိုင်ခြင်းလည်း ဖြစ်သည်။

ကျွန်တော်တို့ဘက်မှ လေကြောင်းအကူအညီ အားနည်းလာသောကြောင့် ရန်သူ့အမြောက်တပ်က ဖိ၍ အတင့်ရဲလာသည်။ သူတို့သည် အမြောက်ကို ရိုင်ဖယ်ပစ်သကဲ့သို့ ဖောဖောသီသီကြီး ပစ်နေကြ၏။

ကျွန်တော်တို့က ကျဆုံးသူများကို မြှုပ်နှံကာ ထိခိုက်သူများကို ပြုစုနေရ၏။ ရန်သူ့အမြောက်ဆန်များက မိုးရွာသလို တဖွဲဖွဲ။

စစ်ဦးစီး ၂ ဖြစ်သူ ဗိုလ်မှူးဟာန်ဖရေသည် လက်ကိုင်တုတ်ကလေးကို ချိုင်းကြားတွင်ညှပ်ပြီး ရန်သူ့အမြောက်ဆန်များ အများဆုံးကျသည့် နေရာ တစ်ဝိုက်တွင် လှည့်လည်ကြည့်ရှုရင်း ကတုတ်ကျင်းထဲမှ စစ်သည်တော်များကို စကားစမြည် ပြောဆိုနေ၏။ စစ်သည်တော်များ စိတ်ဓာတ်မကျဆင်းအောင် ပြုလုပ်နေခြင်းပင်တည်း...။

ဗိုလ်မှူးကြီးတော်မီက လွန်ခဲ့သည့်ညက ရန်သူများ လာရောက်တိုက်ခိုက် ရာတွင် အချို့သောရန်သူများသည် သူ့ရှေ့ရှိ အပြင်သံဆူးကြိုးနှင့် ကိုက်

၁၀ မှ ၂၀ အတွင်း ကျင်းတူး၍ ကျန်နေရစ်ခဲ့ကြောင်း၊ သစ်ပင်များပေါ်တွင်လည်း လက်ဖြောင့်တပ်သားများကို ပုန်းကွယ်၍နေစေခဲ့ကြောင်းဖြင့် ကျွန်တော့်ကို သတင်းပို့သည်။

ဗိုလ်မှူးကြီးတော်မီ တာဝန်ယူထားသည့်အပိုင်းမှ နေရာတစ်ခုတွင် ကျွန်တော်တို့၏ စစ်သည်တော်များသည် ကျင်းတစ်ခုမှ တစ်ခုသို့ ကူးလေတိုင်း ရန်သူ့လက်ဖြောင့်တပ်သားများ၏ ပစ်ခတ်ခြင်းကို ခံနေရသည်။

ကျွန်တော်သည် တော်မီနှင့်အတူ တောင်ထွတ်ပေါ်သို့ တက်၍ အခြေအနေကို အကဲခတ်သည်။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော အမြောက်ကျည်ဆန်များသည် ခံတပ်နောက်ပိုင်းကို လာရောက်ထိမှန်နေကြ၏။ ဗိုလ်မှူးကြီးတော်မီ၏ ရဲဘော်များသည် ရန်သူ့အမြောက်ဆန်ကြောင့် ပင်စည်လောက်နီးနီးသာ ကျန်တော့သော သစ်ပင်များပေါ်သို့တက်ကာ အောက်မှ ဘရင်းသမားများအား ရန်သူ့လှုပ်ရှားမှုကို သတင်းပို့နေကြ၏။

ခံတပ်မြောက်ဘက်အစွန်တွင် နေရာယူထားရသော ဗိုလ်မှူးကြီးတော်မီ၏ တပ်ဖွဲ့သည် တစ်နေ့လုံး ကတုတ်ကျင်းများထဲတွင် ဝပ်၍နေကြရသည်။ ရန်သူ့အမြောက်ဆန်ကလည်း မိုးရွာသလိုကျနေပြီး သစ်ပင်များထက်မှ ရန်သူ့လက်ဖြောင့်တပ်သားများ၏ ၎င်းသေနတ်ကျည်ဆန်က မလှုပ်သာမလူးသာအောင် မှန်မှန်ကြီး လာရောက်ထိမှန်နေသည်။

ကျွန်တော်သည် ဤကဲ့သို့ဖြစ်လာနိုင်မည့် အခြေအနေကို ကြိုတင်၍မြင်ထားခဲ့သင့်သည်။ မြို့ဖြူတော်ခံတပ်ကို ရန်သူများ လာရောက်တိုက်ခိုက်စဉ်က ရန်သူသည် ညအချိန်တွင် ခံတပ် သံဆူးကြိုးအထိ တက်ရောက်တိုက်ခိုက်ပြီး နေ့အချိန်တွင် ခံတပ်နှင့် ကိုက် ၂၀၀–၃၀၀ အကွာသို့ ဆုတ်၍နေတတ်သည်။ ထို့ကြောင့်လည်း ကျွန်တော်တို့၏ လေယာဉ်များက ရန်သူများကို လွတ်လွတ်ကင်းကင်း တိုက်ခိုက်နိုင်ခဲ့ခြင်းဖြစ်သည်။ မြို့ဖြူတော်ခံတပ်မှ သင်ခန်းစာရခဲ့သော ဂျပန်တို့သည် ယခုအကြိမ်၌ နေ့လယ်ဘက်တွင် ခံတပ်နှင့် ဝေးရာသို့ ဆုတ်မသွားကြတော့ဘဲ ခံတပ်နှင့်ကပ်၍ နေရာယူထားကြတော့သည်။ ကျွန်တော်တို့က လေကြောင်းမှ တိုက်ခိုက်မည်ဆိုလျှင် ကျွန်တော့်ဘက်မှ စစ်သည်တော်များကိုပါ အများအပြား ထိခိုက်နိုင်စရာရှိနေ၏။

ဗိုလ်မှူးကြီးတော်မီက ရန်သူ့အမြောက်ဆန်ကို လိုမ့်၍ခံနေရသော တပ်သားများအား မောင်စပျိုးလာသည်နှင့်တစ်ပြိုင်နက် အရံတပ်မှ လူများဖြင့်

အစားထိုးပေးရန် စီစဉ်ထားသည်။ ဤအတောအတွင်းတွင် တပ်စု ၂ စု က ကာပစ် ပစ်နေသေးသော ရဲဘော်များ၏ အကူအညီကို ယူ၍ လှိုကလေး ကို ခုခံပေးနေသော ရန်သူများအား သွားရောက်ရှင်းလင်းတိုက် ခိုက်သည်။

သို့သော် တပ်စု ၂ စုသည် ရန်သူ၏ ပစ်ခတ်ခြင်းကို အလူးအလဲခံရပြီး နောက် ပြန်၍ဆုတ်လာရ၏။ တပ်စုနှစ်စုကို ခေါင်းဆောင်၍သွားသော စွမ်းရည် သတ္တိနှင့် ပြည့်စုံသည့် စစ်ဗိုလ်ကလေးမှာလည်း တိုက်ပွဲတွင် ကျဆုံးခဲ့ရလေ သည်။

ကျွန်တော်သည် စစ်၏ ဆိုးရွားပုံကို တုန်လှုပ်စွာဖြင့် မှတ်သားမိလိုက် သည်။

ကျွန်တော်က တော်မီအား လှိုကလေးတစ်ဝိုက်ရှိ ရန်သူအား ရှင်းလင်း ရေးမှာ အရေးအကြီးဆုံးဖြစ်ရာ အတော်ဆုံးလူကို ရွေးချယ်၍ လွှတ်ပါဟု ညွှန်ကြားထားခဲ့သည်။ ကျွန်တော်၏ ညွှန်ကြားချက်ကြောင့်ပင် စွမ်းရည်သတ္တိ နှင့် ပြည့်စုံသော စစ်ဗိုလ်ကလေးမှာ မသေသင့်ဘဲ သေဆုံးခဲ့ရရှာသည်။

ညနေဘက်တွင် လေယာဉ်အတော်များများ ရောက်လာနိုင်သည်။ မိုး ကလည်း ဖြိုင်ဖြိုင်ကျတော့မည်ဖြစ်ရာ ကျွန်တော့်ခံတပ်အနီးသို့ ရန်သူ့တပ် များ ချဉ်းကပ်၍မလာနိုင်အောင် တစ်ခုခုတော့ လုပ်ထားမှဖြစ်မည်ဟု ဆုံးဖြတ် လိုက်သည်။

ကျွန်တော့်တွင် ၃ လက်မစိန်ပြောင်း ၈ လက်နှင့် ဘရင်းအလက်ပေါင်း ရာနှင့်ချီ၍ရှိနေရာ ၃ လက်မစိန်ပြောင်းများအတွက်ပင် တစ်မိနစ်လျှင် ခဲယမ်း ပေါင်ချိန် ၁၆၀၀ လိုနေ၏။ ဘရင်း၊ လက်ပစ်ဗုံး၊ ရိုင်ဖယ်၊ အမြောက် များအတွက်ပါဆိုလျှင် တစ်မိနစ်တွင်လိုသော ခဲယမ်းပေါင်ချိန်မှာ အလွန် များပြားလှချေသည်။ ရိက္ခာပစ္စည်းများနှင့်ဆိုလျှင်ကား ကျွန်တော့်ခံတပ်၌ အရာရာ လိုအပ်သောတန်ချိန်မှာ မရေမတွက်နိုင်လောက်အောင် ရှိနေ၏။

ဤမျှ များပြားသော ရိက္ခာခဲယမ်းများအား လေယာဉ်ပြေးလမ်းကြောင်း မှ ခံတပ်တွင်းသို့အရောက် သယ်ယူရန် လူအမြောက်အမြားလိုသည်။ စစ်သည် တော်များမှာ နေ့ရောညပါ လာရောက်တိုက်ခိုက်ကြသော ရန်သူများအား ပြန်လှန်ခုခံတိုက်ခိုက်နေရသည်နှင့်ပင် မအားနိုင်အောင် ဖြစ်နေကြရ၏။ ရန်သူ က အတိုက်နည်းမှ ဤပစ္စည်းများကို သယ်၍ ပြီးပေတော့မည်။ ထို့ပြင် နေ့ရောညပါ တိုက်ခိုက်နေရသော စစ်သည်တော်များအတွက်လည်း လို သလောက် ခဲယမ်းကို ထောက်ပံ့နိုင်ပေတော့မည်။

ကျွန်တော်သည် လျှိုကလေးတစ်ပိုက်ကိုသာ ကျွန်တော်တို့၏ သံဆူးကြိုး အပြင်ဘက်မှနေ၍ သဲသဲမဲမဲတိုက်ခိုက်နေသော ရန်သူများအား နောက်ထပ် လာ၍ မတိုက်ရဲအောင် ရက်ရက်စက်စက် သင်ခန်းစာပေးတော့မည်ဟု ဆုံးဖြတ် လိုက်၏။

ကျွန်တော်သည် တော်မီ တာဝန်ယူထားရသော တောင်ကုန်းမြောက် ဘက်တွင် လျှိုကလေးမှအပ နေရာတိုင်းတွင် တပ်စုတစ်စုလျှင် တပ်စိတ် တစ်စိတ်သာ နေရာယူထားပြီး ကျန်လူများက အရံတပ်များ ရုံးစုနေသည့် နေရာတွင် အမိန့်ပေးလိုက်သည်။

မှောင်စပျိုးလာသည်နှင့်တစ်ပြိုင်နက် ရန်သူသည် လျှိုကလေးကို ၁၀ ကိုက်၊ ကိုက် ၂၀ အကွာမှနေ၍ ခါတိုင်းလိုပင် သဲသဲမဲမဲ တိုက်ခိုက်လာ တော့၏။

သဲသဲမဲမဲတိုက်ပွဲဖြစ်ပွားနေသည့်နေရာနှင့် ကိုက် ၃၀၀ ခန့်သာ ကွာ သော လက်ဝဲဘက်ကျသည့်နေရာတွင် မီးများထိန်လင်းအောင် ထွန်းညှိထား သည့် လေယာဉ်ပြေးလမ်းကြောင်း ရှိနေ၏။ ဤလေယာဉ်ပြေးလမ်းကြောင်း ပေါ်တွင် ကျွန်တော်တို့၏ ဒါကိုတာလေယာဉ်များသည် ပါလာသည့် ဝန်စည် စလှယ်များကိုချကာ ကျွန်တော်တို့ထံမှ လူနာများကို တင်ယူနေကြသည်ကို အတိုင်းသား မြင်နေရသည်။

သဲသဲမဲမဲအတိုက်ခံနေရသော လျှိုကလေးနှင့် လေယာဉ်ပြေးလမ်းကြောင်း အကြားတွင် ကျွန်တော်တို့ဘက်မှ စစ်သည်တော်များ များများစားစားမရှိ။ စက်သေနတ်သမားအချို့နှင့် စိန်ပြောင်းသမားအချို့က ရှိနေသည်။ ရန်သူသည် လေယာဉ်ပြေးလမ်းကြောင်းကိုသော်လည်းကောင်း၊ လျှိုကလေးနှင့် လေယာဉ် ပြေးလမ်းကြောင်းအကြားရှိ နေရာကိုသော်လည်းကောင်း တစ်ခါမျှ လာရောက် တိုက်ခိုက်ခြင်းမရှိဘဲ လျှိုကလေးကိုသာ သဲသဲမဲမဲ ဆက်၍ဆက်၍ တိုက်ခိုက် နေသည်။

မှောင်ရီပျိုးစမှ ည ၂ နာရီ မှ ၃ နာရီအထိ တိုက်ခိုက်တတ်ကြသည် မှာ ရန်သူတို့၏အကျင့်တည်း။ ဤသို့ တိုက်ခိုက်နေခဲ့သည်မှာလည်း လေးငါး ရက် ရှိနေပေပြီ။

ကျွန်တော်သည် လျှိုကလေးပတ်ပတ်လည်မှ နေရာယူ၍ တိုက်ခိုက်နေ သော ရန်သူများအား လေကြောင်းမှ ပုံးကြဲတိုက်ခိုက်ရန် အမိန့်ပေးလိုက်၏။ ကျွန်တော်တို့၏ ပုံးကြဲတိုက်လေယာဉ်များသည် ကျွန်တော်တို့ခံတပ် အပြင်

သံဆူးကြိုးအနီးတွင် ကပ်၍ ဗုံးများကို တအုံးအုံးဖြုတ်ချကြ၏။

လေတပ်ဗိုလ် ချက်စတီသည် လျိုကလေးအထက်တွင်ရှိသော ကမူလေးပေါ်၌ ရေဒီယိုတစ်လုံးဖြင့်ထိုင်ကာ အောက်မှနေ၍ ညွှန်ကြားချက်များ ပေးနေသည်။

လေယာဉ်များသည် အရှေ့မှ အနောက်သို့ ပျံဝဲရင်း ကျွန်တော်တို့ခံတပ် အပြင်သံဆူးကြိုးအနားတွင် ကပ်၍တိုက်ခိုက်နေလေသည်။

အောက်မှ စက်သေနတ်သမားများနှင့် စိန်ပြောင်းသမားများကို အပြင်ဘက်ရှိ ရန်သူများအား အမြန်ပစ်နှုန်းဖြင့် ပစ်ရန် အမိန့်ပေးထားသည်။

ခံတပ်တစ်ခုလုံးနှင့် တောင်ကုန်းကြီး တစ်လုံးပါ ကုန်း၍ထလာသော ရောမသတ္တဝါကြီးတစ်ကောင်လို ဖြစ်နေသည်ဟု ထင်ရ၏။ စိန်ပြောင်းသံ၊ အမြောက်သံ၊ စက်သေနတ်သံ၊ လက်ပစ်ဗုံးသံများမှာ နမ့်ကွင်းချောင်းဝှမ်း တစ်လျှောက်တွင် ရဲပွက်သလို ပွက်နေပြီး ကျွန်တော်တို့ လေယာဉ်များက ဗုံးကြဲပစ်ချလိုက်သော ဗုံးသံများမှာလည်း ကောင်းကင်ကြီး ပြိုကျလာသကဲ့သို့ ဖြစ်နေတော့သည်။

ကျွန်တော်တို့လေယာဉ်များ အနောက်ဘက်သို့ ဦးတည်၍ ပြန်လည်ထွက်ခွာသွားကြသောအခါ ခံတပ်နှင့် ခံတပ်ပတ်ဝန်းကျင်တစ်ခုလုံးမှာ အပ်ကျသည်ကိုပင် ကြားနိုင်လောက်အောင် တိတ်ဆိတ်နေ၏။

ရန်သူများ တပ်စွဲထားသည့် အပြင်ဘက်တွင်မူ သုသာန်တစပြင် သချိုင်းဝကဲ့သို့ ဖြစ်နေလေတော့၏။

သေနတ်သံလည်း တစ်ချက်မှမကြား၊ လှုပ်ရှားသံလည်း တစ်ချက်မှ မပေါ်လာ။

တိတ်ဆိတ်ခြင်းသည် ကမ္ဘာတစ်ခုလုံးကို လွှမ်းမိုး၍ပင်နေသည်ဟု ထင်ရ၏။

ကျွန်တော်တို့သည် လျိုကလေးအတွင်းမှ ကျွန်တော်တို့၏ ဗုံးကြဲ တိုက်လေယာဉ်များ လက်ချက်ကြောင့် ထိခိုက်ဒဏ်ရာရရှိနေမည့်သူများကို ကယ်ဆယ်ရန် ပြေးဆင်းလာခဲ့ကြသည်။

သို့သော် တစ်ယောက်မှ ထိခိုက်ဒဏ်ရာရရှိခြင်းမရှိ။ ရန်သူ့ဘက်တွင်မူ လက်ဖြောင့်တပ်သားတစ်ယောက်က မသေမပျောက်ဘဲ ကျန်နေရစ်ခဲ့သည်ကို သူပစ်လိုက်သော ကျည်ဆန်အရ သိရ၏။ ကျွန်တော်တို့သည် တစ်ဦးတည်းသာ ကျန်တော့သော ရန်သူကို သုတ်သင်နိုင်ကြ၏။

ညအချိန်တွင် ရန်သူသည် ခါတိုင်းလို လာရောက်တိုက်ခိုက်သော်လည်း၊ နောက်တစ်နေ့နံနက်တွင်ကား လှိုကလေးအပြင်ဘက်ရှိ သံဆူးကြိုးနားတွင် နေရာယူ၍ ကျန်ရစ်သော ရန်သူဟူ၍ တစ်ယောက်မျှမရှိတော့။

ရန်သူသည် ကျွန်တော်တို့ခံတပ်နှင့် ကိုက် ၂၀၀– ၃၀၀ အကွာတွင်လည်း တပ်စွဲ၍မနေတော့ပေ။

သို့သော် ရန်သူသည် အကြီးစားစိန်ပြောင်းကိုသုံး၍ ကျွန်တော်တို့ကို ဒုက္ခပေးလာပြန်သည်။

ကျွန်တော်တို့တွင်ရှိသော ၃ လက်မ စိန်ပြောင်းမှ ကျည်ဆန်မှာ ၁၀ ပေါင်သာ အလေးချိန်စီးသည်။ ရန်သူ့ဘက်မှ စတင်အသုံးပြုလာသော ကျည်ဆန်မှာ ပေါင် ၆၀ လေးသည်ကို တွေ့ရ၏။

ဤစိန်ပြောင်း ကျည်ဆန်တည့်တည့် ထိမှန်ခံရသောကျင်းမှာ လူရော ကျင်းပါ ဖုံးပြီးသားဖြစ်နေတော့၏။ ရန်သူ့စိန်ပြောင်းကြိုးဖြင့် အများဆုံး 'အတီးခံရသော 'လှို'ကလေးအတွင်းရှိ မြင်ကွင်းမှာ သချိုင်းအဟောင်းတစ်ခု ကို တူးဖော်ထားသကဲ့သို့ ဖြစ်နေလေသည်။

ရေထက်ဝက်ခန့်ဝင်နေသော ကျင်းများတွင် သေနတ်ကို ရွံ့မဝင်အောင် သတိထားနေရသော စစ်သည်တော်များမှာလည်း ကမ္ဘာ့ခြာန်းရုပ် ပေါက်နေကြတော့၏။

မေလ ၁၇ ရက်နေ့ မှောင်စပျိုးလာသည့်အချိန်တွင် ရန်သူသည် 'လှို'ကလေးကို မြေပြင်ပစ်အမြောက်ကြီးများဖြင့် ဆယ်မိနစ်ခန့်မျှ ဆက်၍ ဆက်၍ ပစ်နေသည်။

''ရန်သူ့အမြောက်ဆန်တွေဟာ ကျွန်တော်တို့ စက်သေနတ်ဆင်ထားတဲ့ နေရာတွေကို တိုက်ရိုက်ထိနေတယ် တပ်မှူး''

'လှို'ကလေးအတွင်းရှိ ဒုတပ်မှူးက ကျွန်တော့်ထံ တယ်လီဖုန်းဖြင့် သတင်းပို့သည်။

ရန်သူသည် မြေပြင်ပစ် အမြောက်ကြီး ၁၂ လက်ကို တစ်ပြိုင်နက် ပစ်နေခြင်းပင်တည်း။

ရန်သူ့ဘက်မှ အပစ်ရပ်သွားလျှင်သွားချင်း အမှတ်(၂၆) စစ်ကြောင်းမှ စစ်သည်တော်များကို 'လှို'ကလေးတွင် နေရာယူရန် အမိန့်ပေးလိုက်ပြီး စောစောက ရှိနေသူများကို ခံတပ်နောက်ပိုင်းသို့ ရွှေ့ပြောင်းစေသည်။ ရန်သူ အမြောက်ဒဏ်ကြောင့် ရဲဘော်အတော်များများပင် ထိခိုက်ဒဏ်ရာရသည်ကို

စိတ်မကောင်းစွာတွေ့ရ၏။

မေလ ၁၇ ရက်နေ့ည တစ်ညလုံးပင် မိုးတစိမ့်စိမ့်ရွာနေသည်။ အမှတ်(၂၆) စစ်ကြောင်းမှ စစ်သည်တော်များနှင့် ရန်သူ၏ အမှတ်(၅၃) တပ်မမှ စစ်သားများသည် မိုးထဲရေထဲ မှောင်ထဲမည်းထဲတွင် တစ်ညလုံး တိုက်ခိုက်နေကြတော့၏။

ရန်သူသည် ဘန်ဂလိုတော်ပီတိုများကို အသုံးပြု၍ ကျွန်တော်တို့၏ သံဆူးကြိုး အတားအဆီးကို ၂ ကြိမ်တိုင်တိုင် ထိုးဖောက်ဝင်ရောက်ရန် ကြိုးစားသည်။ ကင်မရွန်း စစ်သည်တော်များက ၃ လက်မ စိန်ပြောင်းကို ပေါက်ပေါက်ကြွသလို တရစပ်ပစ်၍ မောင်းထုတ်လိုက်ကြ၏။

နံနက် ၄ နာရီတွင် ရန်သူသည် ကျဆုံးကျန်ရစ်သူများ၏ အလောင်းကို ကောက်ရန်အတွက် နောက်ဆုံးအကြိမ် လာရောက်တိုက်ခိုက်ပြန်သည်။

သို့သော် အကျအဆုံးများစွာနှင့်ပင် ဆုတ်ခွာသွားသည်။

၁၈ ရက်နေ့တွင် မိုးက ပို၍ရွာလာသည်။

မိုးရေထဲတွင် တိုက်ကင်းထွက်ခဲ့ကြသော ကျွန်တော်တို့ရဲဘော်များသည် ရန်သူများ 'လျှို'ကလေးပတ်ဝန်းကျင်မှ ဆုတ်ခွာသွားကြောင်း တွေ့ရှိရလေသည်။

ရန်သူသည် အနောက်ဘက်ယွန်းယွန်းရှိ တောင်တန်းပေါ်တွင် ဆင်ထားသော သူတို့၏ စိန်ပြောင်းကြီးစခန်းကို စွန့်လွှတ်သွားသည်သာမက ထောင်ပေါင်းများစွာသော ကျည်ဆန်သေတ္တာများကိုလည်း သည်အတိုင်း ထားပစ်ခဲ့သည်။ ရန်သူများ နေရာယူထားခဲ့သည့် တောတစ်ပိုင်တွင် သေ့ကျွက်ကြီးများ။ အသားတုံး အသားတစ်ကြီးများနှင့် စုပြုံ၍မြုပ်ထားသော သချိုင်းရာအသစ်များကို တွေ့ရ၏။

ကျွန်တော်တို့၏ 'ဘလက်ပူးလ်' ခံတပ်တိုက်ပွဲတွင် ရန်သူ့ဘက်မှ မည်မျှ ထိခိုက်ကျဆုံးသည်ကို အတိအကျသိနိုင်ရန် ခဲယဉ်းသော်လည်း စစ်ပြီး၍ သက်ဆိုင်ရာဌာနက သက်ဆိုင်ရာ ဂျပန်အရာရှိအား စုံစမ်းမေးမြန်းသောအခါ ...

ဂျပန်တို့၏ အမှတ်(၅၃) တပ်မသည် ခြင်းခတ်တပ်ဖွဲ့များနှင့် တစ်ခါသာ ပြင်းပြင်းထန်ထန် ရင်ဆိုင်ခဲ့ရကြောင်း၊ 'တစ်ခါ'မှာလည်း ဟိုပင်အနီးတွင် တိုက်ခိုက်ရသော တိုက်ပွဲဖြစ်ကြောင်း။ လူ ၈၀၀ မှ ၁၀၀၀ အထိ ပါဝင်သော တပ်တစ်တပ်မှာ တပ်လုံးပျောက်သည်အထိ ခံလိုက်ရကြောင်းဖြင့်

ထိုဂျပန်အရာရှိက ထွက်ဆိုခဲ့သည်။

ထိုတပ်နှင့် တိုက်ခဲ့သူများမှာ ကျွန်တော်တို့ပင် ဖြစ်၏။ ကျွန်တော်တို့ဘက်တွင် လူ ၂၀၀ သာ ထိခိုက်ကျဆုံးခဲ့လေသည်။

မေလ ၁၉ ရက်နေ့ နံနက်သို့ ရောက်လာသည့်အချိန်တွင် ကျွန်တော်တို့သည် ခံတပ်နှင့်တကွ ခံတပ်ပတ်ပတ်လည်ကို ၁ မိုင်ခရီးအထိ မင်းမူနိုင်ခဲ့ပေပြီ။

ယခင်က စီစဉ်ထားခဲ့သည့်အတိုင်း ခံတပ်ပတ်ဝန်းကျင်တွင် လှည့်လည်လှုပ်ရှားနေမည့် အမှတ်(၁၄) တပ်မဟာ ကျွန်တော်တို့ထံသို့ ရောက်လာရန်လိုတော့သည်။

မီးရထားလမ်း တစ်ဖက်မှနေ၍ မြောက်ဘက်သို့ ချီတက်နေသော အမှတ်(၇၇) တပ်မဟာသည်လည်း ကျွန်တော်တို့နှင့် လာရောက်ပူးပေါင်းရန်သင့်နေပေပြီ။

ကျွန်တော်တို့ 'ဘလက်ပူးလ်' ခံတပ် တည်ဆောက်ထားသောနေရာကို ရန်သူသည် နောက်ထပ်၍ တိုက်ဦးမည်မှာ သေချာလျက်ရှိရာ ရန်သူက ကျွန်တော်တို့ကို မဲ၍တိုက်နေခိုက် နောက်မှ တပ်မဟာတစ်ခုခု ဘွားခနဲပေါ်ပေါက်လာလျှင် ကျွန်တော်တို့သည် ဟိုပင်ဒေသတစ်ဝိုက်ရှိ ရန်သူကို အလဲထိုးနိုင်သည်သာမက မြစ်ကြီးနားသို့ ပေးပို့နေသော ရန်သူစစ်ကူတပ်များနှင့် ရိက္ခာပို့ဆောင်ရေးတပ်များကိုလည်း လုံးဝအဆက်မပြတ်အောင် ဖြတ်တောက်ထားနိုင်မည်ဖြစ်၏။

အဘယ်ကြောင့်ဆိုသော် 'ဘလက်ပူးလ်'ခံတပ် ရှိနေသော ရထားလမ်းချိုင့်ဝှမ်းသည် 'မြို့ဖြူတော်'ခံတပ်ရှိနေသော ရထားလမ်းချိုင့်ဝှမ်းထက်ပို၍ကျဉ်းသောနေရာ ဖြစ်သောကြောင့်တည်း။

အကယ်၍သာ ယခင်က စီစဉ်ထားသည့်အတိုင်း အမှတ်(၁၄) တပ်မဟာက ကျွန်တော်တို့ထံသို့ ရောက်မလာခဲ့လျှင် ကျွန်တော်တို့ အခြေအနေသည် ရန်သူ့လက်ခုပ်ထဲမှ 'ရေ'အဖြစ်သို့ ရောက်ရပေတော့မည်။

ကျွန်တော်နှင့် တပ်ရင်း ၂ ရင်းစာမျှရှိသော စစ်သည်တော်များသည် 'ချောင်ရင်ဂီ'မှ 'ဘလက်ပူးလ်'သို့အရောက်၊ ၁၄ ရက်တိုင် ခရီးပြင်းချီတက်၍ လာခဲ့ပြီးနောက် နောက်ထပ်၍ ၁၀ ရက်တိုင်တိုင် နေ့ရောညပါ အင်ကြီးအားကြီးဖြင့် တိုက်ခိုက်လာသော ရန်သူကို ဆက်လက်တွန်းလှန်နေရသည်။

ရဲဘော်များသည် တစ်နေ့လျှင် သုံးနာရီခန့်သာ အိပ်စက်ခွင့်ရကြတော့

သည်။

'ဘရော့ဒ်ဝေး'ခံတပ်ကို ခုခံကာကွယ်နေသော တပ်ရင်း ၂ ရင်းက မီးရထားချိုင့်ဝှမ်းကို ကျော်ကာ ကျွန်တော့်ထံ ရောက်လာသည် ဆိုသည်မှာ မှန်ပါ၏။

သို့သော် ထိုတပ်ရင်း ၂ ရင်းလုံးပင် စစ်ပန်းနေကြပြီဖြစ်၏။

ကျွန်တော်က ဒုဗိုလ်မှူးကြီး 'စကော့' ဦးစီးသော တပ်ရင်းကို ခံတပ်မြောက်ဘက်ဖျားရှိ ရန်သူများကို ရှင်းလ[illegible]န် တာဝန်ပေးလိုက်သည်။ ရန်သူ့အမြောက်စခန်းကို ရှာဖွေ၍ သုတ်သင်ရန်[illegible]ည်း ညွှန်ကြားလိုက်သည်။

သို့သော် မအောင်မြင်။

ဒုဗိုလ်မှူးကြီး 'ဟပ်ပါး'ဦးစီးသော တပ်ရင်းကို ခံတပ်စောင့်ရန် တာဝန်ပေးပြီး တော်မီ၏ စစ်သည်များကို ခေတ္တအနားယူစေသည်။

မိုးမှာ လေယာဉ်ပြေးလမ်းကြောင်းကို ပျက်အောင် မဖျက်နိုင်သေးသဖြင့် ဒါကိုတာလေယာဉ်များ နေ့ဘက်တွင် ဆင်းသက်နေကြသေး၏။

သို့သော် ရန်သူ့အမြောက်များက အတင့်ရဲနေသဖြင့် တိုက်လေယာဉ်က အမြဲတမ်း စစ်ကူလိုက်ပါနေရသည်။

ကျွန်တော်သည် ထိမိုက်ဒဏ်ရာ ရသူများအား သွက်သွက်ကြီးပင် အိန္ဒိယသို့ ပို့နေရလေသည်။

ဤအတွင်း ချစ်သော 'ဘာဘရာ'ထံမှ စာတစ်စောင် ရောက်လာသည်။

သူရော သမီးကလေးပါ ကျန်းမာကြောင်း။ မကြာမီ ကက်ရှမီးသို့ပြောင်းရန် စိတ်ကူးထားကြောင်း။ ပြေလ အလယ်လောက်တွင် ဘုံဘေဆိပ်ကမ်း၌ ဆိုက်ကပ်နေသော သင်္ဘောတစ်စင်းကို မီးစလောင်ကြောင်း။ ယိုသင်္ဘောပေါ်တွင် လက်နက်ခဲယမ်းများ အပြည့်ပါရှိသဖြင့် မီးမှာ နီးစပ်ရာ သင်္ဘောများသို့ကူးစက်ပေါက်ကွဲတော့ကြောင်း။ လူသေကောင်များမှ ပေါက်ထွက်လာသော အသားတစ် အသားစိုင်များမှာ တစ်မိုင်ခန့်အကွာသို့ပင် လွင့်ပါလာပြီး အိမ်ပြတင်းပေါက်များမှ အထဲသို့ ရောက်လာကြောင်း စသည်ဖြင့် ပါရှိသည်။

ကျွန်တော်သည် 'ဘာဘရာ'ထံမှ ရောက်လာသော စာကို ခေါက်ထားလိုက်ပြီးနောက် သတင်းပို့သည့် စာရွက်တွင် ပြန်စာတစ်စောင် ရေးသည်။ ပြီးနောက် ထိုစာကိုလည်း ခေါက်ထားလိုက်သည်။ ပြီးနောက် ဇနီးနှင့် သမီးအကြောင်းကို ကျွန်တော့်စိတ်ထဲတွင် 'ခေါက်'ထားလိုက်၏။

သို့သော် ကျွန်တော့်စိတ်အစဉ်သည် ဇနီးနှင့် သမီးထံသို့သာ ရောက်နေ

လေသည်။

စာရသော ရဲဘော်သည်လည်းကောင်း၊ စာမရသောရဲဘော်သည် လည်းကောင်း အိမ်သို့ စိတ်ရောက်နေကြမည်ပင်ဖြစ်၏။ ကျွန်တော်တို့သည် ပုထုဇဉ် လူသားများသာဖြစ်ရာ အဘယ်မှာလျှင် သံယောဇဉ်နှင့် ကင်းနိုင်ပါမည်နည်း...။

ရန်သူသည် ကျွန်တော်တို့ခံတပ်ကို သုံးရက်တိုင်တိုင် ဆက်၍မတိုက်ဘဲ နေသည်။ ခံတပ်နှင့် ခံတပ်ပတ်ဝန်းကျင်တစ်ခုလုံးမှာ ငြိမ်ချက်သားကောင်းလှ၏။

မုန်းတိုင်းမလာမီ ငြိမ်သက်ခြင်းမျိုးသာ ဖြစ်ပေမည်တကား။

ကျွန်တော်သည် စစ်သည်တော်များအား ဤသုံးရက်အတွင်း သံဆူးကြိုးအကာအရံများကို ထပ်မံပြုလုပ်စေသည်။ ကတုတ်ကျင်းများ ထပ်၍တူးစေသည်။ ရန်သူ့အခြေအနေကို သိရှိရန် တိုက်ကင်းများ အဖွဲ့ခွဲ၍ နေရာအနှံ့အပြား ထွက်စေသည်။

ရန်သူ့ဘက်မှ ဆင်းလာမည့် မုန်တိုင်းဒဏ်ကို တတ်နိုင်သမျှ ပြန်လှန်ခုခံရန်တည်း။

မေလ ၂၂ ရက်နေ့တွင် ရန်သူ့ဘက်မှ မုန်တိုင်းကြီးသည် စတင်တိုက်ခတ်လာသည်။

ခံတပ်အရှေ့တောင်ဘက်ဆီမှ စ၍ တိုက်လာခြင်းတည်း။

ရန်သူ့ခြေလျင်တပ်များက ခံတပ်အရှေ့တောင်ဘက်သို့ ဦးတည်ချီတက်လာစဉ် ရန်သူ့အမြောက်ကြီး လေးလက်ကလည်း အရှေ့တောင်ဘက်မှနေ၍ ကျွန်တော်တို့၏ လေယာဉ်ပြေးလမ်းကြောင်းကို တဝုန်းဝုန်းနှင့် ပစ်ပေးနေ၏။

လေယာဉ်ပြေးလမ်းကြောင်းပေါ်တွင် ရှိနေသော အဲပေါ့စားလေယာဉ် ၂ စင်းနှင့် ဒါကိုတာလေယာဉ်ကြီးတစ်စင်းမှာ ကသုတ်ကရက်နှင့် ရုတ်တရက် အပေါ်သို့ တက်ပြေးကြရတော့သည်။

'ဘလက်ပူးလ်' ခံတပ် တိုက်ပွဲ၏ တတိယကဏ္ဍသည် မေလ ၂၂ ရက်နေ့တွင် 'စ' နေပေပြီ။

ကျွန်တော်သည် ကင်မရွန်းစစ်သားများ ပါဝင်သော တပ်ရင်းတစ်ရင်းကို အရှေ့တောင်ဘက်မှ ချီတက်လာသည့် ရန်သူများအား ခုခံတိုက်ခိုက်ရန် စေလွှတ်လိုက်သည်။ နောက်တပ်ရင်းတစ်ရင်းကို တောင်ဘက်သို့ ထပ်မံစေလွှတ်၍ တက်လာသော ရန်သူများအား ချုံခိုတိုက်ခိုက်ရန် နိုင်းသင့်မနိုင်းသင့် ကျွန်တော်သည် တစ်ယောက်တည်း စဉ်းစားနေမိ၏။

ရန်သူသည် တောဝက်ကြီးနှင့်တူသော ကျွန်တော်တို့ခံတပ်၏ နောက်ပြီး ဖျားကို တောင်ပံအဖြစ်ထား၍ ချီတက်လာခဲ့ခြင်းဖြစ်ရာ ကျွန်တော်သည် နောက်ထပ် ထပ်ရင်းတစ်ရင်းကို တောင်ဘက်သို့ ချုံခိုတိုက်ခိုက်ရန် စေလွှတ်သင့်သည်မှာ အမှန်ပင်ဖြစ်၏။

သို့သော် ကျွန်တော့်ခံတပ်အတွင်းတွင် အင်အား လျော့နည်းနေမည်ကိုလည်း တစ်ဖက်မှ စိုးရိမ်မိသေး၏။

နောက်ထပ် တပ်ရင်းတစ်ရင်းအား တောင်ဘက်သို့ စေလွှတ်ရန် ဆန္ဒပြင်းပြလျက်နှင့်ပင် ထိုဆန္ဒကို ကျွန်တော် စဉ်းစားဉာဏ်ဖြင့် ပယ်ဖျက်ကာ စေလွှတ်ခြင်းမပြုဘဲ ထားလိုက်၏။ ဤသို့ စေလွှတ်ခြင်းမပြုဘဲထားလိုက်သည့်အတွက်လည်း ကျွန်တော့်ဆုံးဖြတ်ချက်သည် မှားသည်ဟု ထင်နေမိ၏။ သို့သော် ခံတပ်လုံခြုံရေးနှင့် လေယာဉ်ပြေးလမ်းကြောင်းတို့၏ လုံခြုံရေးကို စဉ်းစားမိပြန်သောအခါ ကျွန်တော့်ဆုံးဖြတ်ချက်မှာ မှန်သလိုဖြစ်နေပြန်သည်။

ဂျပန်တို့သည် တစ်ဖက်ဖက်မှနေ၍ ဝက်ခေါင်းကို ဆက်ကာဆက်ကာ တိုက်ခိုက်တတ်သည်ကို ကျွန်တော် သိပြီးဖြစ်သည်။ ယခုလည်း အရှေ့တောင်ဘက်မှ မြေပြင်ပစ်အမြောက်တပ် အကူအညီကိုယူကာ ချီတက်လာခြင်းမှာ ကျွန်တော်တို့ခံတပ်အား အရှေ့တောင်ဘက်မှပင် မှန်တိုင်းတိုက်ခတ်သလို ပြင်းပြင်းထန်ထန် တိုက်ခိုက်မည်ဟု မျှော်လင့်ရ၏။

သို့ရာတွင် ကျွန်တော်တို့ခံတပ် တည်နေပုံသည် တိုက်ပွဲကြီးများ အပြင်းအထန်ဖြစ်နေသော မြစ်ကြီးနားသို့ သွားရာလမ်းတွင် အလွန်အချက်အချာကျနေရကာ ဂျပန်တို့သည် ခါတိုင်းတိုက်နေကျပုံစံမျိုး မဟုတ်ဘဲ ပုံစံသစ်ထွင်၍ တိုက်လာမည်ကို စိုးရိမ်နေရပြန်သည်။

ရန်သူသည် ခါတိုင်းလို ခွေးရူးတစ်ကောင် လိုက်၍ကိုက်သကဲ့သို့ တဇွတ်ထိုး တိုက်ခိုက်နေခြင်းမဟုတ်ဘဲ ကျွန်တော်တို့ တိုက်ကင်းများကို သူတို့တိုက်ကင်းများဖြင့် ပြန်၍တိုက်လိုက်၊ ကျွန်တော်တို့လေယာဉ်ပြေးလမ်းကြောင်းကို အမြောက်ဖြင့်ပစ်လိုက်ဖြင့် ကျွန်တော်တို့ကို သွေးတိုးစမ်း၍နေကြောင်း သတိပြုမိ၏။

ကျွန်တော်သည် ရန်သူအား လမ်းမှ ဖြတ်တောက်တိုက်ခိုက်ရန် ချီတက်နေသော ကင်မရွန်းစစ်သားများပါဝင်သည့် တပ်ရင်းမှအပ ကျန်တပ်အားလုံးကို ဘလက်ပူးလ်ခံတပ်အတွင်းတွင် ထွက်လမ်းမရှိအောင် နေရာယူခိုင်းထားသည်။ ဤအတွင်း ရန်သူအား လမ်းမှ ဖြတ်တောက်တိုက်ခိုက်ရန် ချီတက်

သွားသော ကင်းမရွှန်းစစ်ကြောင်းသည် အလွန်အင်အားများပြားသော ရန်သူ တပ်များနှင့် တွေ့ဆုံတိုက်ခိုက်နေရပြီးနောက် ကျွန်တော်တို့ ခံတပ်ရှိရာသို့ ခံစစ်ပြုရင်း တဖြည်းဖြည်း ဆုတ်ခွာလာနေသည်ဟု သတင်းရောက်ရှိလာ သည်။

ယခုအချိန်တွင် ကျွန်တော်တို့ထံသို့ ဆက်ဆက်ရောက်လာပါမည်ဟု ကတိပေးထားခဲ့သော အမှတ်(၁၄) တပ်မဟာသာ ချီတက်လာသော ရန်သူ များနောက်မှ ဘွားခနဲပေါ်ပေါက်လာခဲ့ပါလျှင် ကျွန်တော်တို့သည် ခြင်းဒစ် တပ်ဖွဲ့၏ ရာဇဝင်ကို ဂုဏ်ရောင်တလွှင်လွှင်ဖြင့် မော်ကွန်းတင်နိုင်တော့မည် ဖြစ်၏။

ခြင်းဒစ်တပ်ဖွဲ့တစ်ခုလုံး၏ တိုက်ပွဲစဉ်သည် အမှတ်(၁၄) တပ်မဟာပေါ်၌ ရပ်တည်လျက် ရှိနေပေသည်။

ကျွန်တော်သည် ကြိုးမဲ့ကြေးနန်းဖြင့် အမှတ်(၁၄) တပ်မဟာအား ကျွန်တော်တို့ထံသို့ ပို့လိုက်ရန် ခဏခဏ သတင်းပို့နေရတော့၏။

ညနေ ၃ နာရီခန့်အချိန်တွင် စီ ၄၇ လေယာဉ်များသည် ပီ ၃၈ တိုက် လေယာဉ်များ ခြံရံကာ ကျွန်တော်တို့ထံသို့ ရိက္ခာများ ချပေးရန် ရောက်ရှိ လာသည်။ နမ့်ကွင်းချောင်းအတိုင်း ကျွန်တော်တို့ခံတပ်ရှိရာသို့ ချီတက်လာသော ရန်သူ့တပ်များက လက်နက်မျိုးစုံဖြင့် ပစ်ခတ်နေသံကို ကြားနေရ၏။ ဤအသံ များကြားထဲမှ ကျွန်တော်ကြောက်လန့်နေသော၊ ကြောက်လန့်နေသော်လည်း တချိန်ချိန်တွင် ကြားရမည်ဟု တွက်ထားသော ရန်သူ့လေယာဉ်ပစ်အမြောက် သံကို ၂ ချက်ဆင့်၍ ကြားလိုက်ရ၏။

အဝါရောင်နှင့် အနက်ရောင် ရောထွေးနေသော မီးခိုးလုံးကြီးတစ်ခုသည် ကျွန်တော်တို့၏ ရိက္ခာတင်လေယာဉ်တစ်စင်း၏ အမြီးပိုင်းတွင် ရုတ်တရက် ပေါ်ထွက်လာသည်။ ရန်သူ့လေယာဉ်ပစ်အမြောက်များက နေ့လယ်ဘက်တွင် ရိက္ခာနှင့် ခဲယမ်းများ ချပေးရန်လာသော ကျွန်တော်တို့ လေယာဉ်များကို ယနေ့ ယခုမှ စ၍ တိုက်ခိုက်နေပေသည်။

ရန်သူ့ထံမှ လေယာဉ်ပစ်အမြောက်သံကို ကြားရသည်နှင့်တစ်ပြိုင်နက် ကျွန်တော်တို့၏ ရိက္ခာတင် ဒါကိုတာလေယာဉ်များက အိန္ဒိယဆီသို့ ပြန်၍ ဦးလှည့်လိုက်ကြ၏။ ပီ ၃၈ အမျိုးအစား တိုက်လေယာဉ်များက ကျင်လည်စွာ ပျံသန်းရင်း ရန်သူ့လေယာဉ်ပစ် အမြောက်စခန်းကို လိုက်၍ရှာသည်။

သို့သော် ရန်သူသည် ပါးနပ်လှချေ၏။ နောက်ထပ် တစ်ချက်မျှ

မပစ်တော့ဘဲ ငြိမ်ချက်သားကောင်းနေသည်။

ကျွန်တော်သည် စိတ်လက်လေးလံစွာနှင့်ပင် အိန္ဒိယရှိ 'ဂျီ'၏ဌာနချုပ်သို့ အရေးတကြီး ပန်ကြားလွှာတစ်စောင် ပို့လိုက်၏။

''ကျွန်တော်က သင့်လျော်မည်ဟု ထင်သည့်အချိန်တွင် ဘလက်ပူးလ်ခံတပ်မှ ကျွန်တော့်သဘောအတိုင်း ဆုတ်ခွာခွင့်ပေးပါ''

သေနင်္ဂဗျူဟာသစ် ဆင်၍ တိုက်လာသော ရန်သူတို့၏ စနက်မီးကြောင့် ကျွန်တော်တို့သည် နေ့လယ်အချိန်တွင် ရိက္ခာရယူနိုင်ခြင်းမရှိတော့ဘဲ ညဘက်တွင်သာ ရယူရတော့မည် ဖြစ်၏။ ရန်သူ့ဘက်တွင် လေယာဉ်ပစ်အမြောက်များ အင်အားကောင်းကောင်းနှင့် ရှိနေရာ ကျွန်တော်တို့လေယာဉ်များသည် မည်သည့်နည်းနှင့်မျှ နေ့လယ်ဘက်တွင် လာရောက်ရိက္ခာချပေးနိုင်တော့မည်မဟုတ်။

ညဘက်တွင် လာရောက် ရိက္ခာချပေးမည် ဆိုလျှင်လည်း ရန်သူက ညအချိန်ကိုသာ ရွေး၍ ကျွန်တော်တို့ခံတပ်ကို သဲသဲမဲမဲ တိုက်ခိုက်နေသည် ဖြစ်ရာ ညအချိန်တွင် ရိက္ခာကောက်ရန်အတွက် လူပိုလူလျှံ မရှိနိုင်အောင်ပင် ဖြစ်နေရတော့၏။ ချပေးသည့်ရိက္ခာနှင့် ခဲယမ်းများကို မှောင်နှင့်မည်းမည်းထဲတွင် ရှာဖွေမည့်အရေး၊ ခံတပ်သို့အရောက် သယ်ယူမည့်အရေး ရိက္ခာကောက်မည့်သူများအား ကာကွယ်ပေးရမည့်အရေးတို့ကလည်း ပို၍ရှုပ်ထွေးလာပြန်သည်။

ကျွန်တော်တို့၏ ရှေ့ရေးမှာ တွေးကြည့်တိုင်း ရင်လေးစရာ ဖြစ်နေ၏။ ကျွန်တော့်အား အထက်မှပေးထားသော အမိန့်ကသာ တက်သာ ဆုတ်သာ ရှိခဲ့လျှင် ကျွန်တော်သည် ယခုအချိန်ကပင်လျှင် ကျွန်တော့်ခံတပ်ကို စွန့်ခွာ၍ အမှတ်(၁၄)တပ်မဟာ ရောက်လာသည့်အချိန်အထိ မနီးမဝေးတွင် စောင့်ဆိုင်းနေပြီး ထိုတပ်မဟာ ရောက်လာသည့်နှင့်တစ်ပြိုင်နက် အခြားခံတပ်သစ်တစ်ခုကို ထပ်မံတည်ဆောက်ကာ ရန်သူ၏ ဆက်သွယ်ရေးလမ်းကြောင်းများကို ပြေးပေါက်မရှိအောင် ပိတ်ဆို့ထားလိုက်မည်ဖြစ်၏။

သို့သော် ကျွန်တော့်မှာ ကျွန်တော့်သဘောအတိုင်း ဆုံးဖြတ်နိုင်သည့် အာဏာမရှိ။ ဗိုလ်မှူးချုပ်'ဂျီ'ထံသို့ ပို့ထားသော ပန်ကြားလွှာမှာလည်း 'ဂျီ'တစ်ယောက်တည်းနှင့် ကိစ္စမပြီးဘဲ ဗိုလ်ချုပ်ကြီးစတီးဝဲလ်ထံသို့ရောက်မှ ကိစ္စပြီးမည့် ပန်ကြားလွှာ ဖြစ်နေသည်။

ဗိုလ်ချုပ်ကြီးစတီးဝဲလ်မှာ သူ၏စိတ်ဆန္ဒပြည့်ဝနေသည့်အချိန်များ၌

မည်သူ့ကိုမဆို ဖော်ရွေလိုက်လျောတတ်ပြီး သူ့စိတ်ဆန္ဒနှင့် ဆန့်ကျင်ဘက်အရာများကို တွေ့ကြုံနေရသည့်အခိုက်တွင် မည်သူ့ကိုမဆို အပြစ်မရှိ အပြစ်ရှာနေတတ်သူ ဖြစ်၏။

'ဂျို'နှင့် စတီးဝဲလ်တို့မှာ ဤအကြောင်းကြောင့်ပင်လျှင် တစ်ယောက်နှင့် တစ်ယောက် အစေးမကပ်နိုင်ကြဘဲ ဖြစ်နေကြသည်ကို ကျွန်တော် သိပြီးဖြစ်သည်။

ဗိုလ်ချုပ်ကြီး စတီးဝဲလ်သည် ချန်ကေရှိတ်၏ တရုတ်တပ်များဖြင့်လည်းကောင်း၊ အမေရိကန် ဗိုလ်ချုပ်'မရီးလ်'၏ 'မရော့ဒါး'တပ်များဖြင့် လည်းကောင်း မြစ်ကြီးနားကို ကာလကြာညောင်းစွာ ဝိုင်းဝန်းတိုက်ခိုက်နေသည့်တိုင် ယခုအထိ မှန်းခြေမပေါက်နိုင်သေးဘဲ ဖြစ်နေသည်။

သူသည် ကျွန်တော်တို့ ခြင်းဒစ်တပ်များအား မြစ်ကြီးနားကို တိုက်၍မရတိုင်း 'အလကားအကောင်တွေ'ဟု သွားပုတ်လေလွင့် ပြစ်တင်မောင်းမဲနေလေသည်။

ခံတပ်မှ ဖောက်ထွက်ရန် လက်နက်နှင့် လူသူမရှိတော့သည့် အချိန်ကျမှ ဖောက်ထွက်ပါဟု ဆိုလာပြန်လျှင်လည်း ကျွန်တော့်အဖို့ မသက်သာ။ ဗိုလ်ချုပ်'ဂျို'နှင့် ဗိုလ်ချုပ်ကြီး စတီးဝဲလ်တို့ တစ်ဦးနှင့်တစ်ဦး အပြန်အလှန် ငြင်းခုံကြ၊ စွပ်စွဲကြ၊ အပြစ်တင်ကြသည့် မိနစ်တိုင်း မိနစ်တိုင်း ကျွန်တော့် ခံတပ်အတွင်းရှိ စစ်သည်တော်များမှာ တဖိုင်းဖိုင်းလဲ၍ သေပွဲဝင်နေ ကြရမည် ဖြစ်၏။

တစ်မိနစ်စီ၊ တစ်မိနစ်စီ ကြာ၍လာလေတိုင်း ကျွန်တော့်အဖို့ ရန်သူဝိုင်းနေသော ခံတပ်ကို ဖောက်ထွက်ရန် ပို၍ ပို၍ ခက်လာလေတော့မည်။

ကျွန်တော်က အိန္ဒိယရှိ လေတပ်ဌာနချုပ်သို့ လက်ပစ်ဗုံးနှင့် မော်တာဗုံးများ လာရောက်ချပေးပါဟု သတင်းပို့ထားလိုက်သောကြောင့် နေ့လယ်ဘက်တွင် ဒါကိုတာလေယာဉ်တချို့ ကျွန်တော်တို့ခေါင်းပေါ်သို့ ရောက်လာကြ၏။

ကောင်းကင်တွင် မိုးသားတိမ်လိပ်များက တရိပ်ရိပ်ပြေးနေလေသည်။

လေယာဉ်အားလုံးမှာ ကျွန်တော်တို့ ဘုရင့်လေတပ်မတော်မှ စီ ၄၇ လေယာဉ်များပင် ဖြစ်သည်။ ဤလေယာဉ်များသည် အိန္ဒိယမှ ထွက်ခွာလာခဲ့စဉ်က ပီ ၃၈ တိုက်လေယာဉ်များ ခြံရံကာ လာခဲ့ခြင်းဖြစ်ဟန်ရှိသော်လည်း မြန်မာပြည်နယ်နိမိတ်အတွင်းသို့ အရောက်တွင် ဂျပန်တိုက်လေယာဉ်များက လာရောက်နှောင့်ယှက်ခြင်းပြုလာသည့်အတွက် ကျွန်တော်တို့၏တိုက်လေယာဉ်

များသည် ဂျပန်တို့၏ လေယာဉ်များနောက်သို့လိုက်ကာ တိုက်ခိုက်နေခဲ့ရပာန် တူသည်။

ဒါကိုတာလေယာဉ်များသည် တိုက်လေယာဉ်များ မပါဘဲနှင့်ပင် အနောက်ဘက်မှ နိမ့်နိမ့်ကလေးပျံတက်လာကာ ကျွန်တော်တို့ခေါင်းပေါ်သို့ ရောက်ရှိလာသည်။

မကြာမီ လေယာဉ်တံခါးများ ပွင့်လာပြီး ရိက္ခာနှင့် ခဲယမ်းများ လေထီးဖြင့် ကျလာသည်။

ကျွန်တော်တို့က ရန်သူ့စစ်သေနတ်များ မှန်းချက်လွဲစေရန်အတွက် မိုင်းဗုံးများကို များများပစ်ပေးနေကြသည်။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော ရိုင်ဖယ်သေနတ်သံများ မိုးမွှန်နေတော့၏။ မကြာမီပင် စည်ကြီးပေါင်းများစွာကို တစ်ပြိုင်နက်ရိုက်ခတ်ဆော်တီးလိုက်သကဲ့သို့သော လေယာဉ်အမြောက်သံများကို ထင်ရှားစွာကြားလိုက်ရ၏။

ဒါကိုတာလေယာဉ်တစ်စင်းမှ အတောင်အောက်ရှိ စက်တစ်လုံးမှာ ရန်သူ့လေယာဉ်ပစ်အမြောက်ကြောင့် ဝုန်းခနဲပေါက်ကွဲသွားသည်ကို မြင်လိုက်ရပြီး ထိုလေယာဉ်သည် တစ်ဖက်စောင်းနှင်းကြီး မီးလောင်ထိုးကျလာသည်ကို တွေ့လိုက်ရ၏။

တောအုပ်များပေါ်မှ ကိုက် ၅၀ ခွာကာ ပျံဝဲရင်း ခဲယမ်းများ ချပေးနေသည့် ဒါကိုတာလေယာဉ်တစ်စင်းမှာလည်း မီးလောင်ပျက်ကျသွားသည်ကို မြင်လိုက်ရပြန်သည်။

လေယာဉ်ပြေးလမ်းကြောင်းထက်တွင် ပျံဝဲရင်း ရိက္ခာနှင့် ခဲယမ်းများ ချပေးနေသော ကျွန်တော်တို့လေယာဉ်များမှာ ရန်သူ့လေယာဉ်အမြောက်များကြောင့် ယခင်ကလို အစီအစဉ်ကျကျနနဖြင့် ချပေးမနေနိုင်တော့ဘဲ ဖြစ်သလို ချပေးနေရတော့၏။

ချပေးသောရိက္ခာနှင့် ခဲယမ်းများမှာ ရန်သူ့လက်သို့ ရောက်သည်က ရောက်၊ ပျောက်သည်က ပျောက်နှင့် ရှိနေလေသည်။

လာရောက်ရိက္ခာချပေးသော လေယာဉ် ၈ စင်းအနက် လေးစင်းမှာ ရန်သူ့လက်ချက်ဖြင့် ပျက်စီးကာ အောက်မှနေ၍ သက်စွန့်ဆံဖျား ရိက္ခာကောက်ရသော ကျွန်တော်တို့မှာလည်း လေယာဉ် ၈ စင်းစွင် တင်ဆောင်လာသည့် ရိက္ခာခဲယမ်းများအနက် လေယာဉ်တစ်စင်းစာ၏ ထက်ဝက်လောက်သော ရိက္ခာနှင့် ခဲယမ်းကိုသာ ရရှိကြတော့၏။

ကျွန်တော်တို့အတွက် နာရီပိုင်းမျှသာခံမည့် ရိက္ခာနှင့် ခဲယမ်းများတည်း။

အပေါ်မှ လေယာဉ်များပျက်ကျသလို အောက်မှ ကျွန်တော်တို့ခံတပ်လည်း ပျက်ရပေတော့မည်။

မတ်လ ၂၃ ရက် ၂၄ ရက်နေ့သို့ ကူးသည့်ညတွင် အခြေအနေမှာ အရှုပ်ရှုပ်အထွေးထွေး ဖြစ်လာသည်။ မိုးသီးမိုးပေါက်ပမာကျနေသော ရန်သူ့အမြောက်ဆန်များကြောင့် တယ်လီဖုန်းကြိုးများ ခဏခဏပြတ်သွားကာ တစ်ခါတစ်ရံတွင် ကျွန်တော်သည် ကျွန်တော်၏ တပ်အားလုံးနှင့် အဆက်အသွယ်ပြတ်သွားပြီး အထီးတည်းကျန်နေလေရော့သလားဟု ထင်နေရသည်။

မေလ ၂၄ ရက်နေ့ အရုဏ်တက်မလာမီ ရန်သူသည် အမြောက်ကို တရစပ် ပစ်ပေးနေသည်။ အမှုန်မှောင်ကလည်း ရန်ထောင်ကာ အဆက်မပြတ် ရွာပေးနေ၏။ အရှေ့ဘက်မှ ရောင်နီကလေးပျိုးစပြုလာသည်နှင့် တစ်ပြိုင်နက် ရန်သူ့တပ်များ ကျွန်တော့်တို့ခံတပ်အရှေ့ပိုင်းသို့ ထိုးဖောက်ဝင်ရောက်နေပြီဟူသော သတင်းကို ကြားရတော့။

ဒုဗိုလ်မှူးကြီး 'ဟပ်ပါး' တာဝန်ယူထားသော နေရာတည်း။

ဟပ်ပါးသည် ရန်သူ့ဘက်သို့ ကျရောက်သွားသော နယ်မြေတစ်စိတ်တစ်ဒေသကို ပြန်လည်သိမ်းပိုက်နိုင်အောင် ချက်ချင်းပင် ပြန်လည်တိုက်ခိုက်သည်။

သို့သော် ရန်သူက ကျွန်တော်တို့ခံတပ်အရှေ့ပိုင်း ထက်ဝက်ကို ဝင်ရောက်အုပ်စီးမိနေပြီဖြစ်၏။

ဒေါက်တာဂ္ဂိုက်က အရေးပေါ်သူနာပြုစခန်းတွင် အကြီးအကျယ်ဒဏ်ရာရနေသော စစ်သည်တော် ၄၅ ယောက် ရောက်ရှိနေကာ နောက်ထပ်လည်း လာနေဆဲပင် ဖြစ်သည်ဟု သတင်းပို့သည်။

မိနစ်အနည်းငယ်အကြာတွင် ရန်သူ့ဘက်မှ ပစ်လိုက်သော အမြောက်ကျည်ဆန်များ အရေးပေါ်သူနာပြုစခန်းပေါ်သို့ တည့်တည့်ကျလာတော့သည်။

ခံတပ်အရှေ့ပိုင်းတစ်ခြမ်းရှိ တောင်ကုန်းကလေးတစ်ခုကို ခြေကုပ်ရယူနေသော ရန်သူများသည် ခံတပ်အရှေ့ပိုင်း တစ်ခုလုံးကို အပေါ်စီးစက်သေနတ်ကလေးများ မော်တာများဖြင့် အားသွန်၍ ပစ်ခတ်နေသည်။

ဒုဗိုလ်မှူးကြီး ဟပ်ပါး၏ ဂေါ်ရခါးစစ်သားများသည် ရန်သူ့လက်ထဲမှ တောင်ကုန်းကို ပြန်လည်တိုက်ခိုက်၍ မရနိုင်အောင် ရှိနေတော့၏။

ကျွန်တော်တို့က တောင်ကုန်းတွင် ခြေကုပ်ယူထားသော ရန်သူများကို မော်တာများဖြင့် တအုံးအုံးထုနေ၏။ ကျွန်တော်တို့မြေပြင်ပစ်အမြောက်များရှိရာ

သို့ ထိုးဖောက်ဝင်ရောက်ရန် ကြိုးစားနေသော ရန်သူအချို့ကိုလည်း သတိထား နေရသည်။

ရန်သူ့အင်အားက တစ်မိနစ်ထက် တစ်မိနစ် ပို၍များလာသည်။ ပို၍ ကြမ်းတမ်းလာသည်။

ခံတပ်အရှေ့ပိုင်းတစ်ခြမ်းရှိ ကျွန်တော်တို့၏ စစ်သည်တော်များမှာ အလူးအလဲခံနေရတော့၏။

ကျွန်တော်သည် ခွင်းမှုံးနှင့် ပိုင်းမှုံးများကို ကာပစ်ပစ်ပေးစေပြီးနောက် ခံတပ်အရှေ့ပိုင်းတစ်ခြမ်းမှ စစ်သည်တော်များကို ကျွန်တော်တို့ရှိရာသို့ ပြန်ဆုတ်ရန် အမိန့်ပေးလိုက်ရတော့၏။

ဤအချိန်တွင်ပင် ခံတပ်အလယ်တည့်တည့်ရှိ တောင်ထွတ်ပေါ်တွင် နေရာယူထားသော စိန်ပြောင်းအဖွဲ့မှ တပ်မှူးက စိန်ပြောင်းမှုံးတစ်လုံးမှ မရှိတော့ပါဟု သတင်းပို့သည်။

ကျွန်တော်သည် တောင်ထွတ်ဆီသို့ ပြေးတက်ခဲ့ရပြန်သည်။

တောင်ထွတ်ပေါ်သို့ ရောက်ရန် ပေ ၅၀ ခန့်သာလိုတော့သောအချိန်တွင် ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော အမြောက်တစ်ခုက တောင်ထွတ်ပေါ်ရှိ သစ်ပင်ကြီးတစ်ပင်ကို လာရောက်ထိမှန်ပေါက်ကွဲသွားပြီး မကြာခင်ကမှ ရောက်လာသော အမြောက်တပ်ဖွဲ့မှ အမြောက်တပ်သား ၁၄ ယောက်ကို ပွဲချင်းပြီး သေဆုံးသွားစေခဲ့၏။ အမြောက်ဆန်ထိမှန်ပေါက်ကွဲစေခဲ့သည့်သစ်ပင်နှင့် အနီးဆုံးဖြစ်သော အမြောက်တပ်ဗိုလ်တစ်ယောက်မှာ အရိုးအသား ရှာမတွေ့အောင် ဖြစ်သွားခဲ့ရ၏။

ကျွန်တော်သည် တပ်မှူးတော်မိနှင့် စတော့တို့အား ရန်သူ၏ သိမ်းပိုက်ထားသည့် အရှေ့တောင်ဘက်ရှိ တောင်ကုန်းကို တက်ရောက်သိမ်းပိုက်ရန် အမိန့်ပေးလိုက်ပြီး အမြောက်တပ်ဖွဲ့မှ ကြွင်းကျန်ရစ်သူများနှင့် ဖရိုဖရဲဖြစ်နေသော ဂေါ်ရခါးစစ်သားများကို ပြန်လည်စုရုံး၍ထားလိုက်သည်။

ခံတပ်အရှေ့ပိုင်းရှိ တောင်ကုန်းမှာ မီးလျှံများဖြင့် ထိန်ထိန်ညီးနေပြီး ပြေးလွှားလှုပ်ရှားနေသော စစ်သည်တော်များကို မြင်ရ၏။

အကယ်၍သာ ရန်သူသည် ကျွန်တော်တို့အကြားနှင့် ခံတပ်အရှေ့ပိုင်းရှိ တောင်ကုန်းအကြားသို့ ထပ်မံထိုးဖောက်ဝင်ရောက်လာခဲ့သော် ကျွန်တော်တို့ ခံတပ်ကြီးတစ်ခုလုံးသည် ၂ ပိုင်းပြတ်ထွက်၍ သွားတော့မည်မှာ အမှန်ဖြစ်တော့သည်။

ခံတပ်အရှေ့ဘက်ခြမ်းရှိ တောင်ကုန်းကို တက်ရောက်တိုက်ခိုက်ရန် သွားသူများအား ကာပစ်ပစ်ပေးနေခြင်းမှာ ထိရောက်ခြင်းမရှိလှ။ ထို့ကြောင့်လည်း တန်ပြန်ထိုးစစ်မှာ အောင်မြင်ခြင်းမရှိ။ တပ်မှူးတော်မိ ကိုယ်တိုင် ရန်သူသိမ်းပိုက်ထားသော တောင်ကုန်းကို ပြန်လည်ရရှိအောင် ရှပ်ရှပ်ချွံချွံ တိုက်ခိုက်ပါ၏။ သို့သော် ရန်သူက အထက်စီးသို့ ရောက်နေပေပြီ။

တော်မိနှင့် သူ၏ရဲဘော်များ ပြန်လည်ဆုတ်ခွာလာသောအခါ တော်မိ၏ လည်ပင်းတွင် ဒဏ်ရာကြီးတစ်ခုကို စိတ်မသက်သာဖွယ်ရာ တွေ့ရ၏။ သူ၏စစ်သည်တော်များလည်း ကျိုးသူက ကျိုး၊ ကန်းသူက ကန်း။

ကျွန်တော်သည် တော်မိနှင့် သူ့ရဲဘော်များထံမှ မျက်နှာခွာလိုက်ပြီး တစ်ဖက်သို့ လှည့်လိုက်သည်။

ထို့နောက် စီးကရက်တစ်လိပ်ကို မီးညှိ၍ ရှိုက်ပစ်လိုက်၏။

ဘာလက်ပူးလ်ခံတပ်အား ကျွန်တော့်ဆုံးဖြတ်ချက်အရ စွန့်လွှတ်နိုင်သည် ဟူသော အမိန့်မှာ အိန္ဒိယရှိ ဌာနချုပ်မှ ပေးပို့လိုက်ပြီး လမ်းခုလတ်သို့ပင် ရောက်နေပြီဟု ထင်ရသည်။ မနေ့က ဒါကိုတာလေယာဉ် ၈ စင်း လာသည့် အနက် ၄ စင်းမှာ ရန်သူလက်ချက်ဖြင့် မီးလောင်ပျက်စီးခဲ့ရပြီး ကျန်လေးစင်းမှ ချပေးသည့် ခဲယမ်းမီးကျောက်များမှာ ကျွန်တော်တို့အတွက် နာရီပိုင်း လောက်သာ အသုံးခံရမည်ဖြစ်ရာ ကျွန်တော်တို့အား ဘာလက်ပူးလ်ခံတပ်တွင် ဆက်လက်တပ်စွဲ၍နေရမည်ဟူသော အမိန့်မှာ ရူးသွပ်သူတစ်ယောက်ထံမှ လာမည့် အမိန့်မျိုးသာ ဖြစ်လေသည်။

အကယ်၍ ဤကဲ့သို့သောအမိန့်မျိုးကို ပေးသည်ဆိုလျှင်လည်း ကျွန်တော် တို့ထံသို့ လွှတ်လိုက်မည်ဆိုသော အမှတ်(၁၄) တပ်မသည် ယခုအချိန်၌ ရန်သူအား နောက်မှနေ၍ ပိုင်းဝန်းတိုက်ခိုက်ရာ ရောက်လာပြီး အသင့်ဖြစ်နေ ရပေတော့မည်။

သို့သော် ဤကဲ့သို့လည်း ရောက်လာခြင်း မရှိသေး။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော အမြောက်ဆန်များ၊ မော်တာဗုံးများ သည် ကျွန်တော်တို့ပတ်ဝန်းကျင်တစ်ဝိုက်တွင် ပေါက်ပေါက်လိုက်၍ကြဲနေသလို ဖွာရရာကျနေသည်။

သို့သော် ခြင်းအစ်ဌာနချုပ်မှ ဆုတ်ခွာရန် အမိန့်ရောက်မလာသေး။ ယခုအချိန်တွင် ခံတပ်မှ ဆုတ်ခွာရန်အတွက် လူနှင့် လက်နက် အလုံ အလောက် ရှိနေသေးသည်။ ဤအချိန်မှ မဆုတ်ခွာလျှင်...

ရန်သူအား ထိုးဖောက်၍ ထွက်နိုင်မည့် ဤအချိန်တွင် ခံတပ်ထွက်ခွာမှ ကောင်းမည်ဟု ကျွန်တော် ဆုံးဖြတ်လိုက်သည်။ ဗိုလ်ချုပ်ကြီးစလင်းနှင့် ဗိုလ်ချုပ်ကြီးစတီးဝဲလ်တို့သာ ရှုံးသွပ်ခြင်း မဟုတ်ခဲ့လျှင် ကျွန်တော့်အား ခံတပ်ကို စွန့်လွှတ်ရန် ဤအချိန်တွင် အမိန့်ပေးမှာ သေချာလှသည်။

ကျွန်တော်သည် ခံတပ်မှ ဆုတ်ခွာတော့မည်ဟု ယတိပြတ် ဆုံးဖြတ်လိုက်၏။

ကျွန်တော်တို့တွင် ဖေးမကူမည့်သူရှိမှ လမ်းလျှောက်နိုင်သော လူနာ ၉၀ နှင့် လုံးဝလမ်းမလျှောက်နိုင်သော လူနာ ၄၀ ခန့်ရှိသည်။ ထိုလူနာများကိုပါ သယ်ဆောင်၍ ကျွန်တော်တို့အား အင်ကြီးအားကြီးဖြင့် ဖိတိုက်နေသော ရန်သူကို ခုခံရင်း ဆုတ်ခွာရမည်မှာ လွယ်ကူလှသည့်အလုပ်မဟုတ်။ ကျွန်တော်သည် ရန်သူအား ခုခံနေဆဲတပ်များမှ စစ်သည်တော်များကို လျှော့နိုင်သမျှ လျှော့ထုတ်ကာ ဆုတ်ခွာရေးကို စီစဉ်ရတော့၏။ ကာပစ်,ပစ်နေမည့်အဖွဲ့များကို ဆုတ်ခွာမည့်လမ်းကြောင်းတစ်လျှောက်တွင် နံပါတ်စဉ်အလိုက် ချထားသည်။

နံပါတ် ၂ အဖွဲ့က ကာပစ်,ပစ်ပေးနေစဉ် နံပါတ် ၁ အဖွဲ့က ရန်သူကို ခုခံနေရာမှ ဆုတ်လာရမည်။ ထို့နောက် နံပါတ် ၃ အဖွဲ့က ကာပစ်,ပစ်ပေးနေစဉ် နံပါတ် ၁ နှင့် ၂ တို့သည် နံပါတ် ၄ ရှိရာသို့ အရောက်ချီတက်ကြရမည် ဖြစ်သည်။

ဤနည်း...ကျွန်တော်တို့ ဆုတ်ခွာလာခဲ့ကြ၏။ လမ်းတစ်လျှောက်သို့ အရောက်တွင် လူနာ ၁၉ ယောက်မှာ သေလုမြောပါးဖြစ်နေပြီဖြစ်၍ တောင်အောင်သို့ ဆက်လက်သယ်ဆောင်လာခဲ့လျှင်လည်း အကြောင်းထူးမည်မဟုတ်။ ဒေါက်တာဝိုက်က ကျွန်တော်တို့ကို သတင်းပို့သည်။

ဤလူနာရဲဘော် ၁၉ ယောက်အား ရောက်သည့်နေရာတွင် ချန်ထားခဲ့ခြင်းအားဖြင့် ဂျပန်တို့လက်ထဲတွင် ခွေးသေသေရမည်ကို ကျွန်တော်သိနေသည်။ တောင်အောက်သို့ အရောက်သယ်ယူသွားပြန်လျှင်လည်း ထိုလူနာ ၁၉ ယောက်အတွက် နောက်ထပ် အသက်ပေါင်းများစွာကို စတေးရမည်ကဲ့သို့ ရှိနေလေသည်။

ကျွန်တော်သည် စိတ်မကောင်းစွာနှင့်ပင် ထိုလူနာရဲဘော် ၁၉ ယောက်အား သေနတ်ဖြင့် ပစ်သတ်ရန် အမိန့်ပေးလိုက်တော့၏။

ကျွန်တော်က ခံတပ်အလယ်ရှိ တောင်ထွတ်ပေါ်မှ နောက်ဆုံးကြည့်ခြင်းဖြင့် အောက်သို့ကြည့်နေစဉ် ကာပိုင်သေနတ်သံများ တစ်ချက်ချင်း တစ်ချက်

ချင်း ပေါ်လာ၏။ ၁၉ ချက်မြောက်တွင် တိတ်ဆိတ်သွားသည်။

ကျွန်တော်သည် နားနှစ်ဖက်ကို လက်ဖြင့် ပိတ်ဆို့ထားသော်လည်း ကာပိုင်သေနတ်သံ ၁၉ ချက်က တစ်ချက်ပြီးတစ်ချက် ကျွန်တော့်နားထဲသို့ ဝင်လာသည်။

တောင်ထွတ်ပေါ်တွင် နောက်ရံတပ်အဖြစ် ကွပ်ကဲလိုက်ပါမည့် တပ်မှူးကို တွေ့ရ၏။

"ငါးမိနစ်အတွင်း ဆင်းခဲ့ပေတော့"

ကျွန်တော်သည် တောင်အောက်သို့ ပြန်ဆင်းလာပြီးနောက် နံပါတ် ၁ ဆုတ်ခွာရေးအဖွဲ့နှင့်အတူ ချောင်းရေပေါက်ရှိရာသို့ ချီတက်လာ၏။

မကြာမီပင် အမှတ်(၂၆) စစ်ကြောင်းက ဆုတ်ခွာလာသည်။ ဒဏ်ရာရသူများကို တွဲ၍ခေါ်ဆောင်လာခဲ့ကြရသဖြင့် ချီတက်မှု နှေးကွေးနေသည်ကို တွေ့ရ၏။

ကျွန်တော်သည် လူမောသည်ထက် စိတ်က ပို၍မောနေလေသည်။

ကျွန်တော်တို့ ၁၇ ရက်တိုင်တိုင် အပန်းတကြီး တည်ဆောက်ကာကွယ်ခဲ့ရသော 'ဘလက်ပူးလ်'ခံတပ်ကို မိနစ် ၅၀ အတွင်းတွင် စွန့်လွှတ်ခဲ့ရလေသည်တကား...။

◆

## အခန်း ( ၁၃ )

ခံတပ် အနောက်ဘက်ယွန်းယွန်းရှိ တောင်တန်းကို ပြန်လည်သိမ်းပိုက်ထားခြင်းမရှိသော ရန်သူသည် ကျွန်တော်တို့ ဆုတ်ခွာရာလမ်းတစ်လျှောက်သို့ နောက်မှ ထက်ကြပ်မကွာ လိုက်ပါလာခြင်းမရှိဘဲ မော်တာဗုံးများဖြင့်သာ လှမ်း၍ လှမ်း၍ ထုပေးနေရ၏။

ကျွန်တော်တို့သည် နမ့်ကွင်းချောင်းအတိုင်း အထက်သို့ ဆန်၍ဆုတ်ခွာလာခဲ့ကြ၏။

လွန်ခဲ့သည့် ၃ ရက်အတွင်း ၃ နာရီသာ အိပ်စက်ခဲ့ရသော ကျွန်တော်သည် မောပန်းခြင်း၊ အိပ်ပျက်ခြင်းတို့ကြောင့် ကိုက် ၁၀၀ ခန့် လှမ်းမိတိုင်း ၂ ကြိမ်ကျစီ ခွေ၍ ခွေ၍ လဲကျနေ၏။ ဌာနချုပ် လုံခြုံရေးရဲဘော်များက ကျွန်တော်လဲကျသွားသည့်အခါတိုင်း ကျွန်တော့်အား ထမ်း၍ယူသွားရန် စီစဉ်ကြသည့်အခါတိုင်းပင် ကျွန်တော်က အကြောက်အကန် ငြင်းဆန်နေ၏။

ဒဏ်ရာရနေသော ရဲဘော်တစ်ယောက်က ဒဏ်ရာအများကြီးရနေသော ရဲဘော်တစ်ယောက်ကို တွဲခေါ်၍ ချီတက်နေသည်ကို မြင်နေရသော ကျွန်တော်သည် အဘယ်မှာလျှင် ထမ်းစင်ထက်တွင် လိုက်ပါနိုင်မည့်သတ္တိ ရှိနိုင်ပါမည်နည်း။

နမ့်ကွင်းချောင်းအတိုင်း အထက်သို့ဆန်၍ တစ်မိုင်ခန့်ချီတက်မိသောအခါ နောက်ရံတပ်အဖြစ် ကွပ်ကဲလိုက်ပါလာသော ဖေါ်ရခါ၊တပ်ကို ရှေ့ပြေးချီတပ်အဖြစ် နေရာပြောင်းပေးလိုက်ပြီး ကျွန်တော်သည် ထိုတပ်နှင့်အတူ ချီတက်လာခဲ့၏။

ကျွန်တော့်ခြေထောက်မှာ ဒရွတ်တိုက်ဆွဲနေပြီး ကျွန်တော့်တစ်ကိုယ်လုံးမှာလည်း ယိမ်းထိုးယိမ်းထိုးဖြစ်နေ၏။

မိုးက တစိမ့်စိမ့်ရွာနေလေသည်။

အကယ်၍ ကျွန်တော့်တို့ရှေ့မှ တားဆီးနေသော ရန်သူကို တွေ့ရလျှင် တောင်တန်းလက်ဝဲဘက်သို့ စစ်ကြောင်းတစ်ခုလုံးကို ချီး၍ကွေ့လိုက်မည်ဟု စိတ်ကူးထားသည်။ အကယ်၍ ရန်သူက နောက်မှလိုက်လာကာ ဖိ၍တိုက်ခဲ့လျှင် ကျွန်တော်တို့သည် နောက်သို့ ပြန်လှည့်၍ ခုခံနေရလေမည်လား...

စိမ်းညို့သောတောသည် မှိုင်းရီသော အရိပ်အာဝါသကို ဆောင်နေ၏။ တစိမ့်စိမ့်ရွာနေသောမိုးက တဖြုန်းဖြုန်းရွာချလာသည်။ နမ့်ကွင်းချောင်းသည် ၂ ပေကျော်ကျော် နက်၍လာတော့၏။

မိုးသာ ဤကဲ့သို့ တစ်ညလုံး တစ်ဖြုန်းဖြုန်းရွာနေလျှင် ကျွန်တော်တို့သည် ချောင်းဘေး၌ စခန်းချရပ်နားရန် နေရာတွေ့တော့မည် မဟုတ်။ ပရမ်ကွမ်းသို့ ရှေးရှုသောလမ်းအတိုင်း ချီတက်မှ ဖြစ်ပေတော့မည်။

တပ်များရုံးစုရန် ချိန်းဆိုထားသောနေရာတွင် ဒုဗိုလ်မှူးကြီးစတော့ ဦးစီးသော စစ်ကြောင်းကို အခန့်သင့်ပင် တွေ့ရသည်။ ချောင်းကိုဖြတ်၍ စက်သေနတ်နှစ်လက်ကို တစ်ဖက်တစ်ချက်ဆင်ထားပြီး ကင်းတပ်များကိုလည်း အကွက်စေ့အောင် ချထားသည်။ သည်းထန်သောမိုးကြောင့် သစ်ပင်အောက်များရှိ မြေကွက်မှာ ရွှံ့ဗွက်အတိ ဖြစ်နေလေသည်။

အကယ်၍ နောက်မှ ရန်သူလိုက်လာမည်ဆိုလျှင်လည်း ယခု ကျွန်တော်တို့ချီတက်သည့်နှုန်းထက် ပို၍ လျင်မြန်အောင် ချီတက်နိုင်မည် မဟုတ်ဟု ယူဆရ၏။

ထို့ကြောင့် ဒုဗိုလ်မှူးကြီးစတော့ စီစဉ်ထားသည့် ချောင်းကမ်းဘေးရှိ စခန်းတွင်ပင် အိပ်စက်နားနေမည်ဟု အမိန့်ပေးလိုက်သည်။

ကျွန်တော်တို့သည် အိန္ဒိယရှိ ခြင်းဒစ်ဌာနချုပ်နှင့် ယခုအချိန်ထိ ရေဒီယိုအဆက်အသွယ် ပြတ်လျက်ရှိရာ အချက်ပြဆက်သွယ်ရေးအရာရှိသည် 'ဘရစ်'အား အသံဖမ်းစက်ကို တစ်ညလုံးဖွင့်ထားရန် ညွှန်ကြားထားလိုက်၏။

စစ်သည်တော်အားလုံးပင် တစ်ယောက်မှ ညည်းလည်း မညည်း၊ ညူလည်း မညူ၊ ညည်းညူနိုင်ရန်ပင် အားမရှိတော့။

အမြောက်သံ၊ ဗုံးသံ၊ စက်သေနတ်သံ၊ လက်ပစ်ဗုံးသံဟူ၍လည်း တစ်ချက်မျှ မကြားရ။

စစ်ရှုံးသော စစ်သည်တော်များ ဖြစ်နေကြသည့် ကျွန်တော်တို့သည် ယခုအချိန်၌ အသက်နှင့်ကိုယ် မြဲနေရခြင်းကိုပင် ဝမ်းသာရလေမည်လား...။

ကျွန်တော်တို့သည် မဟာလူသားများလည်း မဟုတ်၊ ဂျပန်များလည်း မဟုတ်ရာ ကျွန်တော်တို့ အသက်ရှင်လျက်ရှိနေကြခြင်းကို ဝမ်းမသာဘဲ မည်သူရှိနေပါမည်နည်း။

အသက်နှင့်ကိုယ် ဆက်လက်မြဲနေရခြင်းသည်ပင်လျှင် ရန်သူများ ဆက်လက်၍ တိုက်ခိုက်နိုင်ရန် အခွင့်အရေးရနေသေးခြင်းပင် မဟုတ်ပါလား...။

လူတွဲ၍ပင် လမ်းမလျှောက်နိုင်သော လူနာရဲဘော် ၂၀ လောက်မှာ ကျွန်တော်တို့ ယခုစခန်းချ အိပ်စက်သည့်နေရာအထိ ရောက်လာနိုင်ခြင်းကို အံ့ဩနေရသည်။ ဒေါက်တာပို့ကိန်နှင့် အခြားစစ်ကြောင်းမှ ဆေးမှူးများက လူနာများကို ပြုစုကုသပေးနေကြ၏။ လူနာရဲဘော်တစ်ယောက်နှစ်ယောက်မှာ ချောင်းမှ အတက်တွင် သေဆုံးသွားကြသော်လည်း ကျန်လူနာများမှာ ရွံ့တော ဗွက်တောထဲတွင်ပင် မျက်လုံးကလေး မှေးကလပ်ပေကလပ်နှင့် ရှိနေကြ၏။ သူတို့သည်လည်း ကျွန်တော်တို့ကဲ့သို့ပင် အသက်ရှင်နေကြရခြင်း အတွက် ဝမ်းသာသည့် အရိပ်အယောင်ကို ပြနေကြ၏။

ပခုံးနှင့် လည်ပင်းအကြားတွင် အထိခံခဲ့ရသော တပ်မှူးတော်မီ၏ ဒဏ်ရာမှ အပုပ်နံ့ထွက်နေသည်။

ကျွန်တော်က ကျွန်တော့်တွင်ပါလာသည့် စောင်ကို တော်မီအား ပေးလိုက်၏။

မူဆိုးစခန်းတွင် ချန်ရစ်ထားခဲ့သော အမှတ်(၃၀)စစ်ကြောင်းသည် ယခုအချိန်၌ နော်ကူတောင်ထွတ်သို့ ရောက်နေမည်ဟု မျှော်လင့်ရသည်။

မနေ့က တစ်နာရီလျှင် မိုင်ဝက်ခန့်သာ ချီတက်လာနိုင်ခဲ့သော ကျွန်တော်တို့သည် နက်ဖြန်တွင် ပိုမိုချီတက်မှုနှေးကွေးလာတော့မည်မှာ သေချာနေ၏။

စစ်ဦးစီးတက္ကသိုလ်တွင် သင်ယူခဲ့ရသော သင်ခန်းစာအရ ဤကဲ့သို့ လမ်းမလျှောက်နိုင်အောင် မောပန်း ဒဏ်ရာရနေသူများအဖို့ သူနာပြုယာဉ်များသည် မလှမ်းမကမ်းမှ စောင့်ကြည့်နေရမည်ဖြစ်၏။ သို့သော် ကျွန်တော်တို့တွင် သူနာပြုယာဉ် မဆိုထားနှင့် ထမ်းစင်ပင်မရှိ။

ခံတပ်ပြုလုပ်ထားရာ တောင်ကုန်းမှ ဆုတ်ခွာလာစက ထမ်းစင်အချို့ကို တွေ့မြင်ခဲ့ရပါ၏။ သို့သော် ယခုအချိန်တွင် ထမ်းစင်ရော ထမ်းစင်ပေါ်တွင် ပါသည့်လူပါ တောထဲတွင် ကျန်ရစ်ခဲ့ပေပြီ။

နက်ဖြန်တွင် ချီတက်မှု နှေးကွေးနေမည်ဖြစ်၍ နော်ကူ အမှတ်(၃၀) စစ်ကြောင်းကို ကျွန်တော်တို့ မီနိုင်မည်မထင်။ မုဆိုးစခန်းတွင် ပါလာသည့် ဝန်တင်တိရစ္ဆာန် အတော်များများ ချန်ထားခဲ့သည့်အတွက်လည်း ကျွန်တော့်ကိုယ်ကို ကျွန်တော် ကျေနပ်နေမိ၏။

အမှတ်(၃၀)စစ်ကြောင်းနှင့် တွေ့သည့်အချိန်တွင် ကျွန်တော်တို့သည် လူနာရဲဘော်များအား လားနှင့် မြင်းများပေါ် တင်၍ အင်းတော်ကြီးကန်သို့ အရောက် ခေါ်ဆောင်လာနိုင်မည်ဖြစ်၏။

အင်းတော်ကြီးကန်သို့အရောက်တွင် ကျွန်တော်တို့အား လေထီးဖြင့် ရိက္ခာချပေးရန် ခေါ်ယူနိုင်ပေတော့မည်။

ခံတပ်မှ ဆုတ်ခွာလာခဲ့ရာ၌ စွန့်ပစ်ထားခဲ့ရသော စိန်ပြောင်းနှင့် စက်သေနတ်များနေရာတွင် အသစ်များဖြင့် အစားထိုးနိုင်ပေတော့မည်။ စစ်သည်တော်များအား အနားများများပေးကာ အစားဝဝကျွေး၍ ရန်သူအား ပြန်လည်တိုက်ခိုက်စေရတော့မည်။

သို့သော် ခံတပ်မှ ကျွန်တော့်သဘောအတိုင်း ဆုတ်ခွာလာနိုင်ခွင့် အမိန့်မရှိဘဲ ဆုတ်ခွာလာခဲ့သော ကျွန်တော်သည် ပထမဦးဆုံး စစ်ခုံရုံးသို့ အတင်ခံရမည် မဟုတ်ပါလော။

မိုးတစိမ့်စိမ့်ရွာနေသော်လည်း ၃ ရက်အတွင်းတွင် ၃ နာရီသာ အိပ်ခဲ့ရသော်လည်း ယခုလို စခန်းချနေရချိန်၌ ကျွန်တော်က အိပ်၍မပျော်။

ကျွန်တော်သည် သစ်ပင်တစ်ပင်ကို မှီ၍ထိုင်ရင်း ကျွန်တော့်တပ်မဟာ၏ ရှေ့ရေးကို သောကမအေးနိုင်အောင် ဖြစ်နေ၏။

"တပ်မဟာဂုဏ်ကို ဘယ်တော့မှ မညှိုးစေနဲ့"

တပ်မှူးကြီးက ကျွန်တော့်အား အိန္ဒိယသို့ မသွားမီ မှာထားခဲ့သော စကားကို ထပ်တလဲလဲ ကြားယောင်နေမိ၏။

"ခွင့်လွှတ်ပါ…ကြီး"

ကျွန်တော်က စိတ်ပျက်လက်ပျက်ဖြင့် ညည်းညူလိုက်စဉ် ထောင်ထောင်မောင်းမောင်း တပ်ကြပ်တစ်ယောက်က စောင်တစ်ထည်ကို ဆွဲယူလာပြီး ကျွန်တော့်အနီးတွင် ထိုင်လိုက်၏။

သူ့မျက်နှာပေါ်တွင် ထူးထဲသော မျက်မှန်တစ်လက် တပ်ထားသည်ကို သတိပြုလိုက်မိသည်။

"ကျွန်တော့်စောင်ကို ယူပါ တပ်မှူး"

သူက ကြင်နာသောအသံဖြင့် ပြောလိုက်၍

ကျွန်တော့်လို တပ်မှူးကြီးတစ်ယောက်က တပ်ကြပ်ကြီးတစ်ယောက်၏ စောင်ကို ယခုလိုအချိန်အခါမျိုး၌ လက်ခံရန် မည်သို့မျှမဖြစ်နိုင်။

လက်ခံလိုက်လျှင်လည်း ကျွန်တော့်အတွက် မည်သို့မျှ ထူးလာမည် မဟုတ်။

ကျွန်တော်ထိုင်နေသောနေရာအောက်တွင် ဗွက်က ၄ လက်မလောက် ထူသည်။ အပေါ်မှ မိုးကလည်း အဆက်မပြတ်ရွာကျနေသည်။ မည်သို့ပင် ဖြစ်စေ မိုးကြောင့် ကျွန်တော်သည် ခိုက်ခိုက်တုန်အောင် ချမ်းနေပြီဖြစ်၏။ မောပန်းကာ အားအင်ကုန်ခန်းနေသောကြောင့်လည်း အချမ်းဒဏ်ကို မခံနိုင်ဘဲ ဖြစ်နေဟန်တူ၏။

ကျွန်တော်သည် တော်ပီကဲ့သို့ပင် ကိုယ်တစ်ခြမ်းသေမည့် ဝေဒနာကို ခံစားလေရမလား...၊ ဤဝေဒနာသည် ကျွန်တော့်အတွက် နောက်ဆုံးဝေဒနာ ဖြစ်နေလေသလား။

ကျွန်တော် သတိရ၍ ကြည့်လိုက်သောအခါ ကျွန်တော်သည် စိုထိုင်းထိုင်း ဖြစ်နေသော စောင်တစ်ခုကိုခြုံရင်း တစောင်းလှဲနေသည်ကို သတိပြုမိလိုက်သည်။ ကျွန်တော့်ဘက်သို့ မျက်နှာမူရင်း ကျွန်တော်တို့လိုပင် တစောင်းလှဲ နေသူကား စောစောက စောင်လာ၍ပေးသော တပ်ကြပ်ပင်ဖြစ်၏။

သူသည် ကျွန်တော့်ကို တတွတ်တွတ်နှင့် စကားပြောနေလေသည်။

"ခု...ကျွန်တော်တို့ မြန်မာပြည်ကို လာတိုက်နေတာဟာ ကျွန်တော်တို့ အင်္ဂလိပ်အရင်းရှင်ကြီးတွေရဲ့ ရေနံကုမ္ပဏီတွေက ရတဲ့အမြတ်ကို...ကာကွယ် ပေးဖို့အတွက်ပဲ မဟုတ်လား တပ်မှူး..."

စောစောက ဝေနေသော ကျွန်တော့်ခေါင်းမှာ အချက်ပြဆက်သွယ်ရေး တပ်မှ တပ်ကြပ်ကြီး၏ စကားကြောင့် လင်း၍လာသလိုထင်ရ၏။

တပ်ကြပ်ကြီးသည် ဆက်၍ပြောနေပြန်လေသည်။

"အင်္ဂလိပ်ရေနံကုမ္ပဏီကြီးတွေက မြန်မာပြည်ကို ပြန်သိမ်းဖို့ မရမနေ တိုက်တွန်းကြတယ်...။ ချာချီတို့၊ အီဒင်တို့၊ အက်တလီတို့ကို လာဘ်ထိုးပြီး မြန်မာပြည်ထဲကို စစ်တပ်တွေရောက်သွားအောင် လုပ်ကြတယ်...။ ဒါကြောင့် တပ်မှူးရော ကျွန်တော်ရော စိုနေတဲ့စောင်ကို နှစ်ယောက်ခြုံပြီး ခုလို ရွှံ့တော ဗွက်တော မိုးတောထဲမှာ အိပ်နေကြရတာပဲ မဟုတ်လား..."

တပ်ကြပ်ကြီး၏ စကားလုံးများမှာ နိုင်ငံရေးသံ ပါလှသည်။ သူသည်

ယခင်က အင်္ဂလန်ပြည် ကွန်မြူနစ်ပါတီဝင်တစ်ယောက် ဖြစ်ခဲ့သည်ဟု သိရသည်။

ဌာနချုပ်မှရောက်ရှိလာသော သတင်းကိုပို့ရန် အချက်ပြဆက်သွယ်ရေး အရာရှိဖြစ်သူ ဘရစ်ကို တွေ့လိုက်ရသောအချိန်၌ ည ၂ နာရီထိုးနေပြီ။

ဘရစ်သည် တပ်မှူးဖြစ်သူ ကျွန်တော့်အား သူ့တပ်မှ တပ်ကြပ်နှင့် စောင်တစ်ထည်ကို နှစ်ယောက်ခြုံ၍အိပ်နေသည်ကို တွေ့လိုက်ရသောအခါ အံ့ညြသွားသည်ကို တွေ့လိုက်ရ၏။

ဘရစ်လက်ထဲတွင် ပါလာသော သတင်းစာမှာ အိန္ဒိယရှိ ဖြင်းဒစ် ဌာနချုပ်မှ ပေးလိုက်သော သတင်းပင်ဖြစ်၏။

ဘလက်ပူးလ်ခံတပ်မှ ကျွန်တော့်သဘောအတိုင်း ဆုတ်ခွာနိုင်ခွင့် ပေးသော အမိန့်တည်း။

ထိုအမိန့်သည် ကျွန်ုပ်တို့ထံသို့ ရောက်လာရန်အတွက် လမ်းတွင် ၂၄ နာရီတိုင်တိုင် ကြာနေလေခဲ့သည်တကား…။

နောက်တစ်နေ့နံနက်တွင် လူသေတစ်ပိုင်းဖြစ်နေသော စစ်သည်တော်များသည် တစ်ယောက်နှင့်တစ်ယောက်တွဲလျက်၊ တစ်ယောက်ကို လေးယောက်က ထမ်းလျက် ရွှံ့တော၊ ဗွက်တောကို တဖြည်းဖြည်း ဖြတ်ကျော်ကြရ၏။

ရွှံ့များ၊ ဗွက်များ သွေးများဖြင့် လိမ်းကျံနေသော ပတ်တီးများမှာ ပုပ်စော်တထောင်းထောင်းနံနေ၏။ စစ်တပ်တစ်ခု ချီတက်လာသည်နှင့်မတူဘဲ ကပ္ပဌာန်းကောင်များ ချီတက်လာသည်နှင့် တူနေတော့၏။

ကျွန်တော်သည် လမ်းလျှောက်နိုင်သူများအတွက် ရိက္ခာတစ်ဝက်တိတိ လျှော့ချလိုက်ပြီး လူနာရဲဘော်များကို ရိက္ခာ ပိုမို၍ပေးသည်။

'မှဆိုးစခန်းသို့မရောက်မီ လမ်းခုလတ်တွင် အမှတ်(၆) နိုင်ဂျီးရီးယား တပ်ရင်းမှ တပ်ရင်းမှူးနှင့် ရဲဘော်အချို့ကို တွေ့ရ၏။ သူတို့သည် အိန္ဒိယရှိ ဌာနချုပ်မှ ညွှန်ကြားလိုက်သည့်အတိုင်း တပ်ဆုတ်၍လာရသော ကျွန်တော်တို့ကို ကူညီရန် လာရောက်ခြင်း ဖြစ်လေသည်။

'ဘလက်ပူးလ်'ခံတပ်မှ ဆုတ်ခွာလာပြီးနောက် ၄ ရက်မြောက်သည့် နေ့တွင် ကျွန်တော်တို့သည် မှဆိုးစခန်းသို့ ရောက်လာခဲ့ကြ၏။

လေတပ်ဗိုလ်များဖြစ်သော ချက်စတီနှင့် ရော်ဘီတို့သည် အင်းတော်ကြီး ကန်ထဲသို့ ဆင်းသွားကြပြီး အသင့်တွေ့ရသော လှေများဖြင့် ရေယာဉ်ပျံကြီးများ ဆင်းသက်နိုင်မည့် လမ်းကြောင်းကို အချက်ပြထားကြ၏။

ကျွန်တော်တို့သည် အင်းတော်ကြီးကန် ပတ်ပတ်လည်ရှိ ရွှံ့ထူသောနေရာတွင် စစ်သည်တော်များအတွက် လေးတိုင်စင်ကလေးများဆောက်၍ ရေယာဉ်ပျံရောက်အလာကို စောင့်ကြရသည်။

အိန္ဒိယသမုဒ္ဒရာတွင် ရန်သူရေငုပ်သင်္ဘောများကို လိုက်လံတိုက်ခိုက်နေသော ကျွန်တော်တို့၏ သင်္ဘောကြီးများမှ ရေယာဉ်ပျံများသည် ရာသီဥတုအလွန်ဆိုးဝါးနေလျက်နှင့်ပင် အင်းတော်ကြီးကန်တွင် ဆင်းသက်ပြီး ကျွန်တော်တို့၏ လူနာများ၊ လမ်းမလျှောက်နိုင်အောင် အင်အားဆုတ်ယုတ်နေသော ရဲဘော်များကို ကူသယ်ခေါက်သယ် သယ်ယူ၍ အိန္ဒိယသို့ ပို့ပေးကြ၏။

လည်ပင်းနှင့် ပခုံးကြားတွင် ဒဏ်ရာပြင်းထန်စွာရနေသော စစ်မှူးတော်မိကို စတီးဝဲလ်လမ်းပေါ်ရှိ 'ရှုဒူဇယ်'သို့ ယူဆောင်သွားသည်။ ဗိုလ်ချုပ်'ဂျို'သည် တပ်မှူးတော်မိ ရှိရာ ဆေးရုံသို့ ဂရုတစိုက် လာရောက်ကြည့်ရှုပြီး ဘာများအလိုရှိပါသလဲဟု မေးသည်။ တပ်မှူးတော်မီက ယခုအချိန်တွင် သူအလိုချင်ဆုံးမှာ လက်ကိုင်ပဝါဖြူဖြူကလေးတစ်ထည်သာ ဖြစ်ပါသည်ဟု ပြောသည်။ ကျွန်တော်တို့သည် လက်ကိုင်ပဝါဖြူဖြူကလေး တစ်ထည်ကိုမှ မြင်ခွင့်မရသော တောထဲ, တောင်ထဲ, ရွှံ့ထဲ, ဖွက်ထဲ, မိုးထဲ, ရေထဲတွင် အသက်ကို ဖက်ရွက်ပမာ သဘောထား၍ နေခဲ့ကြရသည် မဟုတ်ပါလား။

ကျွန်တော်သည် ဗိုလ်ချုပ်'ဂျို'ထံသို့ ကျွန်တော်တို့ အဖြစ်အပျက်နှင့် အခြေအနေကို ဖော်ပြသော အစီရင်ခံစာတစ်စောင်ကို ပို့လိုက်လေသည်။

ဤအချိန်တွင် 'ဂျို'မှာ ဗိုလ်ချုပ်ကြီးစတီးဝဲလ်နှင့် သူတစ်ပြန်ငါတစ်ပြန် စွပ်စွဲပြောဆိုနေရသည့်အချိန် ဖြစ်သည်။ ဗိုလ်ချုပ်'ဂျို'က မဆိုးစခန်းရှိ ကျွန်တော်တို့အား လာရောက်ကြည့်ရှုအားပေးစကား ပြောကြားသင့်သလို ဗိုလ်ချုပ်ကြီးစတီးဝဲလ်ကလည်း ကျွန်တော်တို့ထံ လာရောက်အားပေးသင့်သည်ဟု ထင်သည်။ ဤသို့ လာရောက်ကြည့်ရှုခြင်းအားဖြင့် စစ်သည်တော်တို့၏ စိတ်ဓာတ်ကို မြှင့်တင်ပေးနိုင်ရုံသာမက လာမည့်တိုက်ပွဲများတွင် ကျွန်တော်၏ ရဲဘော်များ အလျင်စလို ပါဝင်တိုက်ခိုက်နိုင်သည့် အခြေအနေရှိ,မရှိကိုလည်း ဗိုလ်ချုပ်များကိုယ်တိုင် ဆုံးဖြတ်နိုင်မည်ဖြစ်၏။

ဂျိုနှင့် စတီးဝဲလ်တို့က တဖောင်းဖေါးနှင့် မျက်ချေး ဖြစ်နေကြရခြင်းမှာလည်း ကျွန်တော်တို့ ဘလက်ပူးလ်ခံတပ်မှ ဆုတ်ခွာလာသည့်ကိစ္စ၊ ခြင်းဒစ်တပ်ဖွဲ့များ၏ကိစ္စပင် ဖြစ်သည်။

စတီးဝဲလ်က ကျွန်တော်တို့သည် ဘလက်ပူးလ်ခံတပ်အား မလိုအပ်

သေးဘဲနှင့် အဆောတလျင် စွန့်လွှတ်ပစ်ခဲ့သည်။ ထိုနည်းအတူ အားလုံးသော ခြင်းခစ်တပ်ဖွဲ့များမှာ ဟုတ်တိပတ်တိ ဘာမှမလုပ်ဘဲနေခဲ့သည်ဟု စွပ်စွဲပြော ဆိုနေသည်။

မဟာမိတ်စစ်သေနာပတိချုပ် မောင့်ဘက်တန်သည် ဗိုလ်ချုပ်ကြီး ဆလင်းအား စေလွှတ်လျက် ဂျိုနှင့် စတီးဝဲလ်တို့ မသင့်မတင့်ဖြစ်နေမှုကို စေ့စပ်ပေးစေသည်။

ဗိုလ်ချုပ်ကြီးဆလင်းက ရောဝတီမြစ် အရှေ့ဘက်ကမ်းတွင် တာဝန်ယူ ထားသော တပ်မှူးဂျမ်ဘိုမော်ရစ်သည် လူကလေး ၁၅၀၀ ဖြင့် စတီးဝဲလ် အလိုရှိသည့်အတိုင်း လိုက်၍မလုပ်နိုင်သည်ကို အပြစ်မဆိုသင့်ကြောင်း။ စတီးဝဲလ်ကိုယ်တိုင် ဂျပန်စစ်သား ၃၅၀၀ သာ ခုခံလျက်ရှိသော မြစ်ကြီးနား ကို ချန်ကေရှိတ်၏ တရုတ်စစ်သား ၃၀၀၀၀ ဖြင့် ဝိုင်းဝန်းတိုက်ခိုက်နေသည့် တိုင် ယခုအထိ တိုက်၍မရသေးကြောင်း ညွှန်ပြပြောဆိုသည်။

မြစ်ကြီးနားတွင် ရန်သူစစ်သား ၃၅၀၀ ကို မိမိ၏စစ်သား ၃၀၀၀၀ ဖြင့် တတိုက်တည်း တိုက်၍နေသော်လည်း ယခုတိုင် ဘာမျှ မည်မည်ရရ အောင်မြင်မှုမရှိသေးသော ဗိုလ်ချုပ်ကြီးစတီးဝဲလ်သည် သူ့အပြစ်ကို ခြင်းခစ် တပ်ဖွဲ့များ အသုံးမကျ၍ဟူသော စကားလုံးဖြင့် ဖုံးကွယ်ရန် ကြိုးစားနေ လေသည်။

ဗိုလ်ချုပ်ကြီးဆလင်းက စတီးဝဲလ်အား ကျွန်တော်တို့ ခြင်းခစ်တပ်များ ကို ပြန်လည်စုရုံးရန်ခွင့်ပေးပြီး မြစ်ကြီးနားကျသည်အထိ ဆက်၍ တိုက်နေရန် အခွင့်ပြုသင့်ကြောင်း ဖျောင်းဖျပြောဆိုသည်။

မြစ်ကြီးနားကို ဇွန်လတွင် စတီးဝဲလ်၏တပ်များက သိမ်းယူနိုင်လိမ့်မည် ဟု အားလုံးသူကပင် မျှော်လင့်ထားခဲ့ကြ၏။ သို့သော် ဇွန်လ ကုန်လာသည့် တိုင်အောင် စတီးဝဲလ်၏တပ်များက ဝိုင်းရုံသာဝိုင်းထားပြီး ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်ခြင်း မပြုနိုင်သေး။ ဤတွင် ဗိုလ်ချုပ်ကြီးစတီးဝဲလ်သည် ကုလားမနိုင် တိုင်း ရခိုင်ကိုမဲကာ ခြင်းခစ်တပ်ဖွဲ့ဝင်များ ညံ့၍ ဤသို့ဖြစ်ရသည်ဟု ဒေါသပုန်ထနေလေတော့သည်။

ဗိုလ်ချုပ်ကြီးစတီးဝဲလ်ထံမှ ရောက်ရှိလာမည့်အမိန့်ကို စောင့်ဆိုင်းနေစဉ် အတွင်း ကျွန်တော်တို့ အမှတ်(၁၁၁) တပ်မဟာမှ စစ်သည်တော်များသည် ငှက်ဖျားဒဏ်၊ ဝမ်းကိုက်ရောဂါဒဏ်များကို အလူးအလဲ ခံနေရတော့၏။ ကျွန်တော်တို့ စခန်းချနေသည့် မုဆိုးစခန်းပတ်ဝန်းကျင်မှာလည်း ဤကဲ့သို့

သော ရောဂါမျိုးကို ဖျိုးထောင်ပေးသည့်နေရာ ဖြစ်နေလေသည်။

နောက်ဆုံးတွင် မြောက်ဘက်သို့ ဆက်လက်ချီတက်ရန် အမိန့်ရောက်လာ၏။

ကျွန်တော်တို့ အမှတ်(၁၁၁) တပ်မဟာနှင့် အမှတ်(၁၄) တပ်မဟာ၊ အနောက်အာဖရိက တပ်မဟာတို့သည် မြောက်ဘက်သို့ ချီတက်ပြီးနောက် မိုးကောင်းမြို့ အနောက်ဘက်ရှိ ဂျပန်များကို တိုက်ခိုက်သုတ်သင်ရမည် ဟူသော အမိန့်တည်း။

ဤအချိန်၌ မိုးကောင်းတွင် ရက်ရက်စက်စက် တိုက်ပွဲဝင်နေသည့် တပ်ကား ခြင်းဒစ်တပ်ဖွဲ့မှ 'မိုက်' ဦးစီးသော အမှတ်(၇၇) တပ်မဟာတစ်ခုသာ ရှိသေးသည်။

ဇွန်လ ၉ ရက်နှင့် ၁၀ ရက်နေ့များတွင် တပ်ရင်း ၅ ရင်းကျော်ကျော်နှင့် ဆင် ၆ ကောင်ပါဝင်သော ကျွန်တော့်တပ်မဟာသည် မိုးကောင်း အနောက်ဘက်ဆီသို့ ချီတက်လာခဲ့ကြ၏။

ကျွန်တော်တို့၏ ယာဘက်တွင် အင်းတော်ကြီးကန်နှင့် ရထားလမ်းကို ကာခြား၍ထားသော တောင်တန်းများ ရှိသည်။ ကျွန်တော်တို့၏ ဝဲဘက်တွင် အင်းတော်ကြီးကန်ကို ၃ ဘက် ၃ တန်မှ ရေလျှံ၍ စီးဝင်နေသော ချောင်း ၃ ချောင်း ရှိသည်။

ကျွန်တော်တို့သည် တောင်တန်းများနှင့် ရွှံ့ဗွက်အိုင်ကြီးများအကြားမှနေ၍ ချီတက်ကြရတော့၏။ ချီတက်ရသောလမ်းမှာ ၆ လက်မခန့်နက်သော ရွှံ့ဗွက်အတိ ဖြစ်နေ၏။ စားစရာလည်း ရိက္ခာမရှိ။ အိပ်စရာလည်း နေရာမရှိ။ စစ်သည်တော်များသည် ရွှံ့ဗွက်ကို အိပ်ရာလုပ်ကာ အပေါ်မှ တဖြုန်းဖြုန်း ရွာနေသော မိုးကို စောင်အဖြစ်ထား၍ အိပ်စက်ကြရတော့၏။ မှက်၊ ခြင်၊ ယင်ရဲတို့ အကဲစမ်း လိုက်သည်မှာလည်း ပြောစရာမရှိ။ ကျွန်နှင့် မျှော့များက ဒုက္ခပေးလိုက်သည် မှာလည်း စာဖွဲ့၍ပင်မကုန်။

ဇွန်လ ၁၄ ရက်နေ့တွင် 'လာ့ခ်ဟရန်'သို့ ရှေးရှုချီတက်နေသော ကျွန်တော်တို့တပ်သည် တပ်ဦးမှ ပစ်သံခတ်သံများ ပေါ်ပေါက်လာသည်ကို ကြားလိုက်ရ၏။

တပ်ဦးရှိရာသို့ ကျွန်တော်ရောက်သွားသောအခါ ပုပ်ပွနေသော ဂျပန်အလောင်းအချို့နှင့် ယခုမှ ပစ်သတ်ခြင်းခံရသော ဂျပန်အလောင်း သုံးလေးလောင်းကို တွေ့ရသည်။

'လာ့ခ်ဟရန်'တွင် လမ်း ၂ ခု ဆုံလျက်ရှိသည်။ တစ်ခုသော လမ်းမှာ ကျွန်တော်တို့ ချီတက်လာခဲ့သောလမ်းဖြစ်လျက် အခြားတစ်လမ်းမှာ အရှေ့ဘက်စူးစူးရှိ တောင်များဆီသို့ သွားသည့်လမ်းဖြစ်သည်။ ကျွန်တော်သည် 'လာ့ခ်ဟရန်'တွင်ပင် ညအိပ်စခန်းချပြီးနောက် မိုးကောင်းသို့ စတင်ချီတက်ရာတွင် တွေ့ရသော တိုက်ပွဲကလေးနှင့် ရောက်ရှိနေသော နယ်မြေအနေအထားကို စတီးဝဲလ်၏ ဌာနချုပ်သို့ သတင်းပို့လိုက်ရ၏။

နောက်တစ်နေ့ညသို့အရောက် တောထူသော တောင်များပေါ်တွင် စခန်းချနေခိုက် ဗြိတိသျှအသံလွှင့်ဌာနမှနေ၍ ကျွန်တော်တို့ခြင်းဒစ်တပ်ဖွဲ့က အလွန်အရေးကြီးသော ရန်သူတို့၏ ဆက်သွယ်ရေးလမ်းဆုံး 'လာ့ခ်ဟရန်'ကို သိမ်းယူလိုက်ကြောင်းဖြင့် အသံလွှင့်ကြေညာသည်ကို ကြားရ၏။

ကျွန်တော်နှင့်တကွ စစ်သည်တော်အားလုံးပင် မပြုံးဘဲနှင့် ဝါးလုံးကွဲရယ်မိကြ၏။

မိုးကောင်းအနောက်ဘက်သို့ ဆက်လက်ချီတက်ခဲ့ရသော ကျွန်တော်တို့သည် နောက်ထပ်၍ ရယ်ခြင်းငှာ မတတ်နိုင်လောက်အောင် ဒုက္ခအဖုံဖုံနှင့် ကြုံရတော့၏။

ကျွန်တော်တို့ တပ်မဟာမှာ မိုးကောင်းအနောက်ဘက်ရှိ အမှတ် ၂၁၇၁ ဟု အမည်ပေးထားသော တောင်ထွတ်ကို သိမ်းပိုက်ပြီးနောက် အရှေ့ဘက်ရှိ မီးရထားချိုင့်ဝှမ်းသို့ ဆင်းလာကာ ဂျပန်တို့၏ ဆက်သွယ်ရေးလမ်းကြောင်းကို ဖြတ်တောက်ပစ်ရန်ဖြစ်၏။ ကျွန်တော်တို့ နောက်မှ ချီတက်လိုက်ပါလာသော အမှတ်(၁၄) တပ်မဟာက ကျွန်တော်တို့၏လုပ်ငန်းတွင် ထပ်၍ စစ်ကူပေးရမည် ဖြစ်သည်။

အမှတ် ၂၁၇၁ တောင်ထွတ်သို့ ချီတက်ရာတွင် ဂေါ်ရခါးတပ်က ရန်သူ ၅၀ ခန့်ကို တောင်ကုန်းကလေးတစ်ခုပေါ်မှ မောင်းထုတ်နိုင်ပြီး ရန်သူ ဒါဇင်ဝက်ခန့်ကို သုတ်သင်နိုင်ခဲ့၏။

၃ ရက်အကြာတွင် ကျွန်တော်တို့သည် အမှတ် ၂၁၇၁ အနီးသို့ ချဉ်းကပ်လာနိုင်ခဲ့ကြသည်။

ကျွန်တော်တို့သည် ဇွန်လ ၂၀ ရက်နေ့မှစ၍ ရန်သူသိမ်းပိုက်ထားသော တောင်ထွတ်ကို တိုက်ခိုက်ကြရ၏။

ကျွန်တော်တို့၏တပ်ဦးသည် တောင်ထွတ်သို့ရောက်ရန် လမ်းခရီးအားဖြင့် တစ်မိုင်၊ အမြင့်ပေအားဖြင့် ၁၀၀၀ အလိုတွင် ရန်သူတို့၏ ခိုင်ခံ့သော

ခံကတုတ်ကျင်းများကို စ၍တွေ့ရတော့၏။

ချောင်းကမ်းဘေးအတိုင်း ချီတက်လာသော ကျွန်တော်တို့သည် သေနတ်သံများ ကြားရသည်နှင့်တစ်ပြိုင်နက် တပ်ဦးသို့ ပြေးလာခဲ့သည်။ လမ်းတစ်ဝက်သို့ အရောက်တွင် တောင်ပေါ်မှ ခပ်သုတ်သုတ်ကလေး ပြန်၍ ပြေးဆင်းလာကြသော စစ်သည်တော်အချို့နှင့် လားသမားအချို့တို့ကို တွေ့ရ၏။

ကျွန်တော်က ဂေါ်ရခါးရဲဘော်ကလေးတစ်ယောက်ကို လှမ်း၍ဆွဲထားလိုက်ပြီး ဘာ့ကြောင့်ရှေ့သို့မတက်ဘဲ နောက်သို့ပြန်ဆုတ်လာသည်ကို မေးကြည့်လိုက်၏။

''ကျွန်တော်တို့ ဗိုလ်ကလေးက ဆုတ်ဆိုလို့ ဆုတ်ရတာပါ တပ်မှူး''ဟု သူက အဖြေပေးသည်။ ကျွန်တော်တို့ စကားပြောနေစဉ် တောင်ပေါ်မှ သုတ်သုတ်ကလေးဆင်းလာသော စစ်ဗိုလ်ကလေးတစ်ယောက်ကို တွေ့လိုက်ရ၏။ ကျွန်တော်သည် ထိုစစ်ဗိုလ်ကလေး၏ ခါးပတ်ကြိုးကို ဒေါသဖြင့် ဆောင့်၍ဆွဲလိုက်ပြီး ပြေးဆင်းလာသည့် စစ်သားများကို ချက်ချင်းပြန်စုကာ ရန်သူအား ချက်ချင်းပြန်တိုက်ရမည်ဟု အမိန့်ပေးလိုက်သည်။ အကယ်၍ သူ့လူများကိုသူ ပြန်၍မစုနိုင်ခဲ့လျှင် ထိုစစ်ဗိုလ်ကလေးအား ထိုနေ့ညတွင် ပစ်သတ်မည်ဟု ကျွန်တော်က ထပ်၍အမိန့်ပေးလိုက်၏။

တောင်ထွတ်သည် မတ်စောက်နေရုံမျှမက တောကလည်း အလွန်ထူနေသည်။

ကျွန်တော်သည် တပ်မှူး'စကော့'အား ရိက္ခာကောက်ရန်၊ ဌာနချုပ်စခန်းဖွင့်ရန်၊ သူနာပြုစခန်းဖွင့်ရန် တာဝန်ပေးလိုက်ပြီးနောက် ဂေါ်ရခါးတပ်တစ်တပ်အား တောင်ထွတ်ခြေရင်းကို ဆက်၍တိုက်ရန် စေလွှတ်လိုက်၏။

မကြာမီ ငရဲပွက်သလို ဆူညံသော ပစ်သံခတ်သံများကို ကြားရ၏။ တပ်ခွဲတစ်ခွဲစာခန့်ရှိသော ရန်သူသည် တောင်ထွတ်ပေါ်မှနေ၍ တောင်ကျောရိုးအတိုင်း စနစ်တကျဆုတ်ခွာရန် စီစဉ်နေသည်ကို တွေ့ရသည်။ ကျွန်တော်တို့၏တပ်ဦးသည် တောင်ကြောပေါ်သို့ တက်သည့်လမ်းကျဉ်းကလေးကို ကိုက် ၂၀၀ ခန့်အထိ အုပ်စီးမိကြပေပြီ။ ကျွန်တော်တို့သည် ထိုနေရာမှနေ၍ တောင်ကြောအတိုင်း ဆုတ်ခွာစပြုနေသော ရန်သူများကို စက်သေနတ်များဖြင့် ပစ်ခတ်တိုက်ခိုက်ကြသည်။

ရန်သူသည် လက်ပစ်ဗုံးများကို တအုံးအုံးနေအောင်ပစ်ရင်း ကျွန်တော်တို့၏ တပ်ဦးကို ဖောက်ထွက်ရန် ကြိုးစားကြ၏။ ကျွန်တော်တို့၏ စက်သေနတ်

သမားများက ကိုက်နှစ်ဆယ်,သုံးဆယ်ခန့်အကွာမှနေ၍ ရန်သူရှိရာသို့ အတွဲလိုက် ပစ်ပေးနေကြ၏။ တောင်တက်လမ်းမှာ မြေစေးများဖြင့် ချောကျိနေရာ မည်သူမျှ ခြေကုပ်ယူ၍မရအောင် ဖြစ်နေ၏။ ရန်သူသည် ဘယ်ဘက်တောင်ပံမှ ဖြတ်၍ဆင်းလာပြီး ကျွန်တော်တို့တပ်ဦးကို ရှေ့သို့ အာရုံမစိုက်နိုင်အောင် တိုက်ခိုက်လာသည်။

ကျွန်တော့်တို့မှာ လေယာဉ်ဖြင့် ရိက္ခာနှင့် ခဲယမ်းမီးကျောက်များ လာရောက်ချပေးခြင်း မရှိသေးသည့်အတွက် ကျည်အားကို လှိုင်လှိုင်မသုံးနိုင်ဘဲ ဖြစ်နေသည်။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော စက်သေနတ်ကျည်ဆန်များသည် တောင်တက်လမ်းကျဉ်းကလေးကို ကိုက် ၂၀၀ ခန့်အထိ အုပ်စီးနေမိသော ကျွန်တော်တို့တပ်ဦးကို လာ၍လာ၍ ဒုက္ခပေးနေသည်။ လမ်းကျဉ်းကလေး၏ လက်ဝဲလက်ယာတောင်ပံများမှနေ၍ စစ်ကူပေးရန် ကြိုးစားနေသော ကျွန်တော်တို့၏တပ်စုများမှာလည်း ရန်သူ၏ ကျည်ပစ်အားကြောင့် ခေါင်းမဖော်နိုင်အောင် ဖြစ်နေကြသည်။

တောင်ကလပ်တွင် နေရာယူထားသော ဂျပန်တပ်ခွဲသည် တောင်ထွတ်ပေါ်ရှိ ဂျပန်တပ်မှူး၏အမိန့်ကြောင့် ဆုတ်ခွာ၍ အစီအစဉ်ကိုပြောင်းပစ်လိုက်ဟန်တူသည်။ ရန်သူ့ဘက်မှ မော်တာပုံးများကို သုံး၍ အင်ကြီးအားကြီးဖြင့် တိုက်ခိုက်လာသည့် တောင်ထွတ်ပေါ်မှ စစ်ကူတပ်များ တောင်ကလပ်ဆီသို့ ရောက်လာကြပြီဟု တွက်ရသည်။

'မိုဘက်စင်'ခေါင်းဆောင်သော ဂေါ်ရခါးတပ်စုတစ်စုသည် ကျွန်တော့်ရှေ့မှဖြတ်ကာ တောင်ကလပ်ဆီသို့ ပြေး၍ ချီတက်ကြ၏။ လက်ပစ်ပုံးနှင့် ဘရင်းဆွဲသံများမှာ 'မိုဘက်စင်'၏ လက်သံဖြစ်ကြောင်း ကျွန်တော် ကောင်းကောင်းကြီးသိလေ၏။ သူတို့တပ်စုသည် တောင်တက်လမ်းကျဉ်းကလေးကို နောက်ထပ် ကိုက် ၂၀၀ ခန့် ပို၍ အုပ်စီးမိကြပြန်သည်။

ကျွန်တော်သည် ချက်ချင်းပင် 'မိုဘက်စင်'အား ရာထူးတစ်ဆင့်တိုး၍ ပေးလိုက်၏။

ရန်သူသည် စိန်ပြောင်းအကြီးစားများကို အသုံးပြုကာ ကျွန်တော်တို့၏ တပ်မဟာဌာနချုပ်နှင့် အရေးပေါ်သူနာပြုစခန်းကို ဒုက္ခပေးနေသည်။ ဘလက်ပူးလ်ခံတပ်တွင် ခံနေရသကဲ့သို့ ခံနေရပြန်တော့၏။ ရန်သူတို့၏ ပေါင် ၆၀ လေးသော စိန်ပြောင်းကျည်ဆန်များ...။

ကျွန်တော်သည် သက်ဆိုင်ရာ တပ်မှူးများကို ခေါ်ယူလိုက်ပြီးနောက် အမှတ် ၂၁၇၁ တောင်ထွတ်ကို ဝဲနှင့်ယာဘက်ရှိ တောင်ကြောများမှ တစ်ကွေ့ကြီးပန်း၍ ချီတက်တိုက်ခိုက်ရန် အမိန့်ပေးလိုက်၏။ ချီတက်တိုက်ခိုက်ရမည့်အချိန်မှာမူ ခဲယမ်းများ လေယာဉ်များဖြင့်ရောက်လာပြီးနောက် ညသန်းခေါင် ရောက်လာသည့်အချိန်ပင် ဖြစ်၏။

ည ၁၂ နာရီတိတိအချိန်တွင် 'ဘလက်ကာ'ခေါင်းဆောင်သော တပ်ဖွဲ့တစ်ဖွဲ့သည် တောင်ထွတ်၏ယာဘက်မှနေ၍ ပန်းဝိုက်ချီတက်သည်။ ကျွန်တော်တို့၏တပ်ဦးက အလယ်ကြောင်းမှနေ၍ ခွင်းဗုံးများပစ်ပေးနေ၏။ တပ်မှူး 'ဟပ်ပါး'ဦးစီးသော တပ်ဖွဲ့တစ်ဖွဲ့က တောင်ထွတ်၏ ဝဲဘက်မှနေ၍ ချီတက်သည်။

အရုဏ်တက်သည့်အချိန်တွင် စစ်ကြောင်း ၂ ကြောင်းလုံးပင် တောင်ထွတ်နှင့် နီးကပ်သော တောင်ခါးပန်းသို့ ရောက်နေကြတော့၏။

'ဘလက်ကာ'ဦးစီးသော စစ်ကြောင်းက ယာဘက်မှစ၍ တောင်ထွတ်ပေါ်သို့ တက်ရောက်တိုက်ခိုက်သည်နှင့် တစ်ပြိုင်နက် ဝဲဘက်ရှိ 'ဟပ်ပါး'နှင့် အလယ်ရှိ ကျွန်တော်တို့က မုန်တိုင်းတိုက်သလို တောင်ထွတ်ပေါ်သို့ ပြေး၍ တိုက်ခိုက်ကြ၏။

နေ့လယ်အချိန်တွင် ကျွန်တော်တို့က အမှတ် ၂၁၇၁ တောင်ထွတ်ကို သိမ်းပိုက်မိကြတော့၏။

ဤတိုက်ပွဲတွင် စီတပ်ခွဲကို ဦးစီး၍တိုက်ခိုက်ခဲ့သော 'ဘလက်ကာ'သည် ဝမ်းဗိုက်တွင် သေနတ်ဒဏ်ရာ ၇ ချက် ရနေသည့်တိုင် ဆက်၍ တိုက်ခိုက်ခဲ့၏။ သူသည် 'ဗစ်တိုးရီးယားကရောစ်'ကို ဤတိုက်ပွဲမှရရှိခဲ့သည်။ သို့သော် သူ့အသက်သည်လည်း ဤတိုက်ပွဲတွင်ပင် ပျောက်ခဲ့ရ၏။

ရန်သူသည် ညဘက်သို့ အရောက်တွင် ကျွန်တော်တို့ ခြေကုပ်ယူထားသောတောင်ထွတ်ကို တန်ပြန်ထိုးစစ်ဆင်သည်။ ကျွန်တော်တို့နှင့် ရန်သူ့တပ်များသည် အလွန်အင်အားကြီးသော လက်ဗုံ့ကျော်ကြီး ၂ ဦး အချိပေါင်း ၁၂၅ ချီတိုင်တိုင် သူတစ်ပြန် ကိုယ်တစ်ပြန် ထိုးသတ်နေသလို တိုက်ခိုက်နေကြရတော့၏။

တောင်ထွတ်မှာ မတ်စောက်သလောက် တောထူထပ်လျက်ရှိရာ လေယာဉ်ဖြင့် ရိက္ခာနှင့်ခဲယမ်းများ ချပေး၍မရနိုင်အောင် ဖြစ်ပြန်သည်။ တောင်အောက်ဘက်ရှိ ကွင်းပြင်မှ တော်ထွတ်ပေါ်သို့ အရောက် ရိက္ခာနှင့်

ခဲယမ်းများကို သယ်ယူရသည့်အလုပ်ကလည်း ရန်သူကို သတ်ရသည့်အလုပ် ထက်ပင် ခက်နေချေတော့သည်။

ကျွန်တော်တို့သည် ဇွန်လ ၂၀ ရက်နေ့မှစ၍ ဇူလိုင်လ ၅ ရက်နေ့တိုင်အောင် ကျွန်တော် တွေ့ဖူးခဲ့သမျှ တိုက်ပွဲများတွင် အပြင်းထန်ဆုံး၊ အရက်စက်ဆုံး၊ သွေးချောင်းအစီးဆုံး တိုက်ပွဲကို တိုက်နေရတော့၏။

ကျွန်တော်တို့သည် အမှတ် ၂၁ရ၁ တောင်ထွတ်တိုက်ပွဲတွင် ရဲရဲကြီးအနိုင်နှင့်ပိုင်းနိုင်ခဲ့ပြီးနောက် 'ကာမိုင်း'ကို တရုတ်တပ်များနှင့် ပူးပေါင်းတိုက်ခိုက်ရန် တာဝန်ပေးအပ်ခြင်းခံရသည်။

ဗိုလ်ချုပ်ကြီး စတီးဝဲလ်က ပေးအပ်လိုက်သော တာဝန်တည်း။

ကျွန်တော်သည် စစ်ပန်းလျက်ရှိသော တပ်မဟာမှ စစ်သည်တော်များကို နွားအုပ်ကြီးကဲ့သို့ မောင်း၍ယူလာခဲ့ရသည်။ ကျွန်တော်တို့သည် တောင်များကို တက်ရပြန်၏။ ချောင်းများကို ဖြတ်ရပြန်၏။ ထို့နောက် ကာမိုင်းကို တိုက်ရပြန်သည်။

ကျွန်တော်တို့သည် ရန်သူသိမ်းပိုက်ထားသော တောင်ကုန်းများကို တက်၍ တိုက်ရပြန်သည်။ တန်ပြန်တိုက်ခိုက်လာသော ရန်သူများကို မောင်းထုတ်ရပြန်သည်။ ထိခိုက်ဒဏ်ရာရသူများကို သူနာပြုစခန်းသို့ သယ်ယူ၍ ပြုစုကုသရပြန်သည်။

တောင်ကုန်း အမှတ် ၃၉၃၄၂၅ မှ လည်းကောင်း၊ ၄၈၈၄၁၀ မှ လည်းကောင်း၊ ၄၁၀၄၀၀ မှ လည်းကောင်း၊ ကျွန်တော်တို့အား ကူပြီး ပူးပေါင်း၍ တိုက်နေမည်ဆိုသော စတီးဝဲလ်၏ တရုတ်တပ်များမှာ အရိပ်အယောင်ပင် မပေါ်လာ။

တရုတ်များသည် ဗိုလ်ချုပ်ကြီးစတီးဝဲလ် ကျေနပ်စေရန်သာ ထိုတောင်ကုန်းများသို့ ရောက်ခဲ့ကြသည်ဟု ပြောဆိုကြမည်မှာ တရုတ်တပ်များ ကျင့်သုံးနေကျ အကျင့်ပင်တည်း။

ကျွန်တော့်တပ်မဟာမှ စစ်သည်တော်များမှာ ရွံ့တော, ဖွက်တောတွင်သာ တိုက်ပွဲတစ်လျှောက်လုံး နေလာခဲ့ရသောကြောင့် ခြေထောက်တွင် သဲစားသည့် ဝေဒနာကို အကြီးအကျယ် ခံစားလာရကြတော့၏။

ကင်မရွန်း တပ်ခွဲ ၂ ခွဲမှ ကျန်းမာရေး ကောင်းပါသည်ဟု ဆိုသော စစ်သည်တော် ၆၃ ယောက်ကို တိုက်ကင်းအဖြစ် စေလွှတ်လိုက်ရာ နောက်တစ်နေ့နံနက်တွင် စစ်သည်တော် ၄ ယောက်သာ လမ်းလျှောက်၍ ရနိုင်သည့်

အခြေအနေ ရှိသည်ကို တွေ့ရတော့သည်။

စတီးဝဲလ်ဌာနချုပ်မှ ဆေးမှူးကြီးက ကျွန်တော်တို့တပ်မဟာရှိ ဆေးမှူးဖြစ်သူ ဒေါက်တာဂွိုက်ထံသို့ ခြေထောက်သဲစားသည့် ဝေဒနာနှင့် ပတ်သက်၍ ညွှန်ကြားလွှာတစ်စောင် ပို့လိုက်၏။

စစ်သည်တော်များခြေထောက်တွင် သဲစားသည့်ဝေဒနာ မခံစားကြရစေရန်အတွက် ခြေထောက်ကို ရေမစိုအောင်ထားပြီး အမြဲတမ်းသွေ့ခြောက်သော ခြေအိတ်များကို ဝတ်ထားပါဟူသော ညွှန်ကြားချက်တည်း။

ဒေါက်တာဂွိုက်က ဆေးမှူးကြီးထံသို့ သင့်လျော်လျှောက်ပတ်သော ပြန်ကြားစာကို ရေးသားနေစဉ် ကျွန်တော်က ထိုစာကို ဆွဲယူ၍ ဆုတ်ပစ်လိုက်ပြီး အောက်ပါအတိုင်း ပြန်ကြားလိုက်၏။

၁။ စစ်သည်တော်များခြေထောက်ကို ရေမစိုစေရန်အတွက် မိုးကို ကျေးဇူးပြု၍ မရွာအောင်တားပေးပါရန်။

၂။ ကျေးဇူးပြု၍ ရွှံ့ဗွက်များကို မြေမာမာဖြစ်အောင် ပြုပြင်ပေးပါရန်။

၃။ စစ်သည်တော်များအတွက် တဲတန်းလျားများ ဆောက်လုပ်၍ ထိုတဲတန်းလျားမှ မထွက်ဘဲနေနိုင်အောင် ကျေးဇူးပြု၍ စစ်ကို တားဆီးပေးပါရန်။

၄။ အထက်ပါ အချက်သုံးချက်ကို ပြုလုပ်ပေးပါက စစ်သည်တော်များ ခြေထောက်တွင် သဲစားသည့်ဝေဒနာများစွာ လျော့နည်းသွားမည်ဟု တာဝန်ယူပါကြောင်း။

ဆေးမှူးကြီးသည် ဤပြန်ကြားစာနှင့် ပတ်သက်၍ ဒေါက်တာဂွိုက်အား စစ်ခုံရုံးသို့တင်ပြီး စစ်ဆေးနိုင်ရန် အားထုတ်ခဲ့သည်။ သို့သော် ဤပြန်ကြားစာမှာ ဒေါက်တာဂွိုက်၏ ပြန်ကြားစာ မဟုတ်ဘဲ ကျွန်တော်က တပ်မှူးကြီးတစ်ဦးအနေဖြင့် ပြန်ကြားလိုက်သောစာဖြစ်၍ ဆေးမှူးကြီးသည် သူ့အကြံကို လက်လျှော့လိုက်သည်ဟု ကြားရ၏။

ကျွန်တော်တို့၏ လေယာဉ်များက ရာသီဥတု ဆိုးဝါးနေလျက်နှင့်ပင် ရိက္ခာများ လာရောက်ချပေးနေသောကြောင့် ကျွန်တော်တို့သည် မသေရုံတစ်မယ် စားနေရသေးသည်။

လေယာဉ်ပြေးလမ်းကြောင်းများရှိရာ လမ်းဆုံးလမ်းခွဒေသများသို့ ကျွန်တော်တို့လက်ထဲတွင် ရှိနေသော လူနာရဲဘော်များကို ပို့ရန်အတွက် အစောင့်စစ်သားများ ခွဲ၍မပေးနိုင်သောကြောင့်လည်း စိတ်မသက်သာစရာ ဖြစ်နေ၏။

ကျွန်တော့်ထံမှ ဗိုလ်ချုပ်ဂျီထံသို့ ပေးပို့နေသော ကန့်ကွက်လွှာများမှာ တစ်နေ့ထက်တစ်နေ့ လေသံပြင်းလာသည်။ ကျွန်တော့်တပ်မဟာတစ်ခုလုံးကို လာရောက်၍ စစ်ဆေးပြီးနောက် ကျန်းမာရေးချို့တဲ့သူအားလုံးကို သက်ဆိုင်ရာ ဆေးရုံများသို့ အမြန်ဆုံး ပို့ပေးပါဟု ကျွန်တော်က တောင်းဆိုလိုက်၏။

ဤအချိန်တွင် ဂျီမှာ ထိပ်တန်းစစ်ဆင်ရေး အစီအစဉ်အရ ဗိုလ်ချုပ်ကြီး စတီးဝဲလ်၏ အမိန့်ကို နာခံရမည့်အခြေအနေတွင်ရှိရာ ကျွန်တော့်တောင်းဆိုချက်ကို စတီးဝဲလ်ကိုယ်တိုင်က ငြင်းပယ်လိုက်သောအခါ ဂျီမှာလည်း ဘာမှမတတ်နိုင်တော့။

ကျွန်တော်က စစ်ထုံးစံအရ ဗိုလ်ချုပ်ဂျီမှတစ်ဆင့် ဗိုလ်ချုပ်ကြီး စတီးဝဲလ်ထံသို့ နောက်ထပ်တောင်းဆိုချက်တစ်ခု ပေးပို့လိုက်ပြန်၏။

ကျွန်တော်တို့ တပ်မဟာသည် ကျွန်တော်တို့ ကျန်းမာရေးအခြေအနေအရ ခွင့်မပြုသော တိုက်ပွဲကို ဆင်နွှဲနေရသဖြင့် ကျွန်တော်တို့တပ်မဟာအား တိုက်ပွဲမှ ပြန်ခေါ်ပါဟူသော တောင်းဆိုချက်တည်း...။

ကျွန်တော့်တပ်မဟာမှ စစ်သည်တော်များ၏ စိတ်ဓာတ်မှာ ကြံ့ခိုင်လျက်ပင် ရှိသေးသည်။ သို့သော်...ဖျားလိုက်နာလိုက် ဝမ်းကိုက်ဖြင့် တဗိုင်းဗိုင်းလဲနေကြပြီး သက်ဆိုင်ရာဆေးရုံများသို့လည်း တင်ပြခြင်းမခံကြရသောအခါ စတီးဝဲလ်က ကျွန်တော်တို့များ မသေသေအောင် ညှဉ်း၍ ညှဉ်း၍ သတ်နေသည်ဟု ထင်လာကြတော့၏။

ကျွန်တော်တို့ မြန်မာပြည် ရှေ့တန်းစစ်မြေပြင်တွင် ရန်သူများနှင့် ရက်ရက်စက်စက် ရင်ဆိုင်နေခဲ့ကြရသည်မှာ ယနေ့ဆိုလျှင် ရက်ပေါင်း ၁၁၀ ရှိနေပေပြီ။ ထိုရက်များအတွင်း ကျွန်တော်တို့သည် လူတစ်ယောက် စားသုံးရန် လိုအပ်သည့် ကလိုရီထက် နေ့စဉ် ရှစ်ရာခိုင်နှုန်းမျှ လျော့နည်း၍ စားနေခဲ့ရသည်။

ရက်ပေါင်း ၁၁၀ အတွင်း စစ်သည်တော်တစ်ယောက်လျှင် ကိုယ်အလေးချိန် ပေါင် ၃၀ မှ ၄၀ အထိ ကျလာခဲ့၏။

သို့ဖြစ်သည့်တိုင် တပ်မဟာတစ်ခုလုံးတွင် စိတ်ဓာတ်ချောက်ချားသူ တစ်ဒါဇင်ခန့်သာ ရှိခဲ့သည်။ စည်းကမ်းဖောက်ဖျက်သူဟူ၍ မရှိသလောက်ပင်။

ဗိုလ်ချုပ်စတီးဝဲလ်၏ အဆိုအရ ပူးပေါင်းတိုက်ခိုက်ရန် တရုတ်တပ်များ ရှိသည် ဆိုသည်။ ထိုတပ်များကို တပ်ခွဲ ၂ ခွဲဖြင့် ရှာရန် ထွက်သွားခဲ့သော ရောဝတီမြစ်ကို ဖြတ်ကူးစဉ်က လူစွမ်းကောင်းကြီးဖြစ်ခဲ့သော အိုင်ယာလန်

မင်းမျိုးမင်းနွယ်ဖြစ်သူ ဗိုလ်မှူးဂီလီကူဒီမှာ လည်ပင်းကို ထုတ်ချင်းပေါက် ပစ်ခတ်ခြင်းခံရပြီး ကျဆုံးသွားရရှာသည်။

မိုးကောင်းကို မိုက် ခေါင်းဆောင်သော အမှတ်(၇၇) တပ်မဟာက သိမ်းပိုက်နိုင်ခဲ့သောကြောင့် မိုးကောင်းတစ်ပိုက်တွင် အမြောက်သံ၊ သေနတ်သံများ တိတ်ဆိတ်သွားသည်။

ဗိုလ်ချုပ်ကြီးစတီးဝဲလ်ကမူ မိုးကောင်းကို သူ၏ တရုတ်တပ်များက သိမ်းပိုက်ခြင်းဖြစ်သည်ဟုဆိုကာ ကမ္ဘာသို့ကြေညာခဲ့၏။

မိုးကောင်းတိုက်ပွဲတွင် မိုက်၏ အမှတ်(၇၇) တပ်မဟာမှ ထိခိုက်ကျဆုံးသူများ စာရင်းနှင့် တရုတ်တပ်များမှာ ထိခိုက်ကျဆုံးသူများစာရင်းကို ယှဉ်၍ ကြည့်လိုက်လျှင် မိုးကောင်းကို သိမ်းယူခဲ့ပါသည်ဟုဆိုသော တရုတ်တပ်များ၏ အကျအဆုံးမှာ အံ့ဩလောက်အောင်ပင် နည်းပါးလှသည်ကို တွေ့ရမည် ဖြစ်သည်။

မိုက်၏ (၇၇)တပ်မဟာမှ စစ်သည်တော်ပေါင်း ၈၀၀ ထိခိုက်ကျဆုံးခဲ့ပြီး တရုတ်များဘက်မှ ၃၀ သာ ထိခိုက်ကျဆုံးခဲ့၏။

မိမိ၏ အောင်ပွဲကိုပင် အခြားသူ၏ အောင်ပွဲအဖြစ်သို့ အရောက်ခံရသော မိုက်သည် အရယ်မပျက်ဘဲ ဗိုလ်ချုပ်ကြီးစတီးဝဲလ်၏ ဌာနချုပ်သို့ အောက်ပါကြေးနန်းကို ပေးပို့ခဲ့သည်။

"တရုတ်တပ်များက မိုးကောင်းကို သိမ်းယူလိုက်ပြီဖြစ်သောကြောင့် အမှတ်(၇၇) တပ်မဟာသည် အရိပ်ကိုဖမ်းယူရန် ရှေ့သို့ ဆက်လက်ချီတက်လျက်ရှိကြောင်း"

ထပ်တလဲလဲ တောင်းဆိုမှုကြောင့် ကျွန်တော့်တပ်မဟာအား ဆေးစစ်မည်ဟု ဇူလိုင်လ ၁၇ ရက်နေ့တွင် အကြောင်းပြန်သည်။

ဇူလိုင်လ ၁၈, ၁၉, ၂၀ ရက်များတွင် ဒေါက်တာ၃ဦး ပါဝင်သော ဆေးအဖွဲ့က ကျွန်တော်တို့တပ်မဟာကို ဆေးစစ်သည့် ဌာနချုပ်မှ လွှတ်လိုက်သော ဆေးမှူး နှစ်ယောက် သုံးယောက်လည်း ပါ၏။

ကျွန်တော့် တပ်မဟာ၏အင်အားမှာ တပ်ရင်း ၄ ရင်းခွဲသာရှိရာ စစ်သည်တော် စုစုပေါင်း ၂၂၀၀ ခန့် ထိုအချိန်က ကျွန်တော်နှင့်အတူ တိုက်ပွဲဝင်လျက်ရှိသည်။ ဆေးစစ်ဆေးရေးအဖွဲ့က စစ်သည်တော်တိုင်းကို စစ်ဆေးကြည့်လိုက်သောအခါ လူပေါင်း ၂၂၀၀ အနက် ၁၁၈ ယောက်သာ မည်သည့်အချိန်၊ မည်သည့်အခါ၊ မည်သည့်တိုက်ပွဲတွင်မဆို ပါဝင်တိုက်ခိုက်နိုင်

ကြောင်း တွေ့ရှိရတော့၏။

ကျွန်တော်က ထိုလူ ၁၁၈ ယောက်ကို နောက်တစ်ယောက်ထပ်တိုး၍ ၁၁၉ ယောက်ဟု စာရင်းပြင်လိုက်ပါရန် ဒေါက်တာဝှိုက်ကို ပြောလိုက်၏။ အဘယ်ကြောင့်ဆိုသော် ဒေါက်တာဝှိုက်သည် ပထမစာရင်း၌ ကျွန်တော့်ကို မထည့်ဘဲ ချန်လှပ်ထားခဲ့သောကြောင့်ပါတည်း။

ကျွန်တော့်တွင် တပ်မှူးတစ်ယောက်အနေဖြင့် တပ်မှူးတစ်ယောက်မပီသသော ပြစ်ချက်များ ရှိကောင်းရှိမည်ဖြစ်သော်လည်း မြန်မာပြည်မှ ကျွန်တော့် တပ်မဟာ ထွက်ခွာသွားရာတွင် ကျွန်တော်သည် နောက်ဆုံးလူတစ်ယောက်သာ ဖြစ်နေချင်သည့်ဆန္ဒရှိသည်။ တပ်သားများကို စွန့်၍ ပြေးလာသော တပ်မှူးဟု ကျွန်တော် အဆိုမခံချင်။

ကျွန်တော့်တပ်သားများကို ဆေးစစ်ပြီးသည်နှင့်တစ်ပြိုင်နက် နောက်ထပ် ရောက်လာမည့် အမိန့်ကို မစောင့်တော့ဘဲ ကျန်းမာရေးချို့တဲ့သူမှန်သမျှ အား ကာမိုင်းသို့ ရှေ့ရှုနေသော လမ်းပေါ်တွင် တင်ပေးပြီး ဌာနချုပ်မှ လာရောက် ခေါ်ယူမည့်အဖွဲ့များကို စောင့်နေစေသည်။ ထို့နောက် ကျန်းမာရေးကောင်း သည်ဆိုသော လူ ၁၁၉ ယောက်အတွက် မည်ကဲ့သို့ ဆက်လက်၍ တာဝန် ပေးပါမည်နည်းဟု ဌာနချုပ်သို့ လှမ်း၍မေးမြန်းလိုက်၏။

ရှုံ့ရှာမုန်းတီးစိတ်ဖြင့် သရော်၍မေးလိုက်သော မေးခွန်းတည်း...။

ဗိုလ်ချုပ်ကြီးစတီးဝဲလ်၏ ဌာနချုပ်သို့ ပေးပို့သည့်သတင်းတွင် ကျွန်တော်က တပ်မဟာဟူသော စကားကို မသုံးဘဲ အမှတ်(၁၁၁) တပ်ခွဲဟု ကျွန်တော်က သုံးလိုက်၏။

ဌာနချုပ်မှ ပြန်ကြားချက်လာသည်။

အမှတ် ၄၉၂၃၆၈ တောင်ကုန်းရှိ တရုတ်တို့၏ အလတ်စား အမြောက် စခန်းကို လုံခြုံရေးတပ်အဖြစ် တာဝန်ယူပါဟူသော ပြန်ကြားချက်တည်း။

ကျွန်တော်သည် ဒေါက်တာဝှိုက်အား အိန္ဒိယသို့ အတင်းပြန်ပို့လိုက်ပြီး နောက် လူ ၁၁၇ ယောက်ဖြင့် တောင်ကုန်းအမှတ် ၄၉၂၃၆၈ သို့ ဆက် လက်ချီတက်လာခဲ့ပြီး တရုတ်အမြောက်တပ်မှ ဗိုလ်မှူးထံဝင်၍ သတင်းပို့ သည်။

တရုတ်ဗိုလ်မှူးနှင့် အမြောက်တပ်တွင်ရှိနေသော အမေရိကန်ဆက်သွယ် ရေးအရာရှိတစ်ယောက်မှာ တပ်မဟာတစ်ခု၏ တပ်မှူးဖြစ်သူက သူတို့ထံ လာ၍ တာဝန်အတွက် သတင်းပို့နေသည်ကို တွေ့ကြရသောအခါ နားဝေတိမ်

တောင် ဖြစ်နေကြရလေသည်။

သူတို့နှစ်ယောက်က ဂျပန်တပ်များမှာ ဆုတ်ခွာနေကြပြီဖြစ်၍ သူတို့ အမြောက်စခန်းကို ကာကွယ်စောင့်ရှောက်ရန် မလိုတော့ကြောင်းဖြင့် ငြင်းဆန် ကြပါသေး၏။

သို့သော် ကျွန်တော်က အရွဲ့တိုက်ကာ အမြောက်စခန်း ပတ်ပတ်လည် တွင် ကတုတ်ကျင်းများတူးသည်။ ကင်းတိုများချသည်။ တန်ပြန်ထိုးစစ်ဆင်ရန် အတွက် စခန်းများကို ပြုပြင်သည်။

တရုတ်အမြောက်တပ်မှ ဗိုလ်မှူးနှင့် အမေရိကန်ဆက်သွယ်ရေးအရာရှိ တို့က ကျွန်တော့်အား သူတို့စခန်းမှ ထွက်ခွာသွားပါရန် အကြိမ်ကြိမ် တောင်း ပန်သည်။

သူတို့က တောင်းပန်လေ ကျွန်တော်က ကတုတ်ကျင်းများကို ဆက် လက်၍ တူးနေတော့၏။ ကျွန်တော် အရွဲ့တိုက်နေသည်မှာ သူတို့နှစ်ယောက် ကိုယ်က မဟုတ်။

တရုတ်ဗိုလ်မှူး၏ အမြောက်စခန်းတွင် ဤကဲ့သို့ချည်း ၁၀ ရက်တိုင်တိုင် အရွဲ့တိုက်၍နေလာခဲ့သောအခါ တစ်စုံတစ်ယောက်သောသူသည် ကျွန်တော့် ဘက်မှ ထောက်ခံလာဟန်တူ၏။ အဘယ်ကြောင့်ဆိုသော် ကျွန်တော်၏ အမှတ်(၁၁၁) တပ်ခွဲသည် မြန်မာပြည်မှ ထွက်ခွာသွားနိုင်ပြီဟူသော အမိန့် ရောက်လာသောကြောင့်ပါတည်း။



## အခန်း ( ၁၄ )

အမှတ်(၁၁၁) တပ်မဟာ၏ တပ်မှူးအဖြစ် ကျွန်တော် တာဝန်ထမ်းဆောင်ခဲ့ရသောအချိန်တွင် ကျွန်တော့်အသက်မှာ ၂၉ နှစ်သာ ရှိသေးသည်။ ၂၉ နှစ်ဆိုသော အသက်အရွယ်မှာ လူ့လောကအတွေ့အကြုံနှင့် နှိုင်းယှဉ်၍ ကြည့်လိုက်လျှင် အလွန်နုနယ်သေးကွေးလှ၏။ ခြင်းခတ်တပ်ဖွဲ့ ပါဝင်သော အခြားတပ်မဟာမှူးများ၏ အသက်ကို ဆန်းစစ်ကြည့်လိုက်လျှင်လည်း ၂၉, ၃၀, ၃၁ အတွင်း ရှိနေသည်ကို အများအားဖြင့် တွေ့ရမည်ဖြစ်သည်။

အသက် ၂၉, ၃၀ ဆိုသည်မှာ လူ့လောက ကန္တာရကြီး၏ ခရီးအစမျှ လောက်သာ ရှိသေးရာ ကျွန်တော်တို့ တပ်မဟာမှူးများသည် အမှားများကို လုပ်မိမည်မှာ အမှန်ပင်ဖြစ်တော့၏။

ငယ်ရွယ်သော ကျွန်တော့်တို့လို တပ်မှူးများကို မဆိုထားနှင့်။ ဗိုလ်ချုပ်ကြီး ဆလင်းလို၊ ဗိုလ်ချုပ်ကြီးစတီးဝဲလ်လို အသက် ၅၀ မှ ၆၀ အတွင်း ရှိနေသော တပ်မှူးကြီးများပင် အမှားများကို ကျူးလွန်ခဲ့သည့် သက်သေသာဓကများ အထင်အရှား ရှိနေလေသည်။

လူဆိုသည်မှာ အမှားကိုကျူးလွန်တတ်သော သတ္တဝါများ မဟုတ်ပါလား။

ဗိုလ်ချုပ်ကြီးဆလင်းသည် အင်ဖာတိုက်ပွဲ၌ သူ၏တပ်များ ကန့်သတ်သော ထိုးစစ်ဆင်စေမည်ဟု ဆုံးဖြတ်ကာ တပ်မဟာတစ်ခုကို တီးတိန်၌လည်းကောင်း၊ အခြားတပ်မဟာတစ်ခုကို တမူး၌လည်းကောင်း ဖြန့်၍ချထားခဲ့၏။ သို့သော် ဂျပန်တို့က အလုံးအရင်းနှင့် ထိုးစစ်ကြီးဆင်လာသောအခါ ဗိုလ်ချုပ်

ကြီး ဆလင်းသည် တီးတိန်နှင့် တမူးမှ တပ်များကို အချိန်မီဆုတ်ခွာလာနိုင် အောင် မစွမ်းဆောင်နိုင်ဘဲ ရန်သူ၏ ဝိုင်းဝန်းပိတ်ဆို့ တိုက်ခိုက်ခြင်းခံရသည့် အမှားမျိုးကို ကျူးလွန်ခဲ့ရသည်။

ထို့အတူ အမေရိကန်ဗိုလ်ချုပ်ကြီးဖြစ်သော စတီးဝဲလ်သည်လည်း မြစ်ကြီး နား တိုက်ပွဲ၌ သူနှင့်တကွ သူ၏တရုတ်တပ်များကို စွမ်းဆောင်နိုင်သည်ထက် ပို၍အထင်ကြီးခဲ့သော အမှားမျိုးကို ကျူးလွန်ခဲ့ရ၏။

သို့အတူ ဗိုလ်ချုပ်ဝင်းဂိတ်၏ ခံတပ်ဖြင့်စစ်ဆင်ရေး အစီအစဉ်ကို ၁၆ နှစ်ကြာပြီးနောက်မှ ပြန်လည်သုံးသပ်ခဲ့သော ကျွန်တော်သည် အမှားပေါင်း များစွာပါဝင်နေသော ဝင်းဂိတ်၏ စစ်ဆင်ရေးကို တွေ့ရှိလာရ၏။

အလုပ်တစ်ခုဆိုသည်မှာ မိမိက ရင်းနှီးထားသလောက် ပြန်၍ အကျိုး သက်ရောက်မှသာ အလုပ်တစ်ခုပြီးတည်း။ သို့သော် ဗိုလ်ချုပ်ဝင်းဂိတ်၏ ကြီးကျယ်လှသော ခံတပ်ဖြင့် စစ်ဆင်ရေးမဟာအစီအစဉ်ကြီးမှာ လူ့, လက်နက်, ပစ္စည်း ဆုံးရှုံးရသလောက် မည်သည့်ရန်သူ့နယ်မြေကိုမှ ပိုင်ပိုင်နိုင်နိုင်း ပြန်လည် သိမ်းဆည်းရမိခြင်း မရှိရာ ခံတပ်ဖြင့် စစ်ဆင်ရေးမှာ 'ဝင်းဂိတ်'၏ အမှား တစ်ရပ်ပင် ဖြစ်နေတော့၏။

မည်သို့ပင်ဖြစ်စေ ခြင်းဒစ်တပ်ဖွဲ့တွင် ပါဝင်ခဲ့သော တပ်မဟာများအနက် ကျွန်တော်၏ အမှတ်(၁၁၁) တပ်မဟာသည် ထိခိုက်ကျဆုံးသူပေါင်း ၇၀၀ ခန့်ကို ဆုံးရှုံးရခဲ့လျက် 'မိုက်'၏ အမှတ်(၇၇) တပ်မဟာက လူပေါင်း ၁၅၇၈ ယောက် ထိခိုက်ကျဆုံးခဲ့ရလေသည်။ ဤစာရင်းတွင် အနောက်အာ ဖရိကတပ်များ၊ ဂေါ်ရခါးတပ်များ ပါဝင်ခြင်းမရှိသေး။

ကျွန်တော့်တပ်မဟာမှ ကျဆုံးခဲ့ရရှာသော ရဲဘော်ရဲဘက်တို့၏ အရေ အတွက်မှာ မနည်းလှ။ သို့သော် ကျွန်တော်သည် တပ်မဟာမှူးတစ်ဦးအနေ ဖြင့် လက်တွေ့ အတွေ့အကြုံများကို ရလာခဲ့သည်ဖြစ်၏။

၁၉၄၅ ခု ဇန်နဝါရီလတွင် ခြင်းဒစ်တပ်ဖွဲ့မှ ငါရင့်သော အရာရှိများကို 'ဘလက်ပူးလ်'လေယာဉ်ကွင်းတွင် စုရုံးရန် အမိန့်ရောက်လာသည်။

ကျွန်တော်တို့က တန်းစီကာ အမှတ်စဉ်မှတ်လိုက်ပြီးသည့်အချိန်တွင် မဟာမိတ်တပ်ပေါင်းစု၏ သေနာပတိချုပ်ဖြစ်သူ 'မောင့်ဘက်တန်'က ကျွန် တော်တို့ ခြင်းဒစ်လက်ပောင်းကြီးများအား စစ်ဆေးရန် ရောက်ရှိလာတော့ သည်။

ခြင်းဒစ်တပ်ဖွဲ့၏ ခရီးဝေးဖောက်ထွင်းတိုက်ခိုက်ရေးအစီအစဉ်မှာ လူ

အင်အားများစွာလိုသဖြင့် ယခုအချိန်တွင် ထိုစစ်ဆင်ရေးကို မသုံးတော့ဘဲ ကျွန်တော်တို့ ခြင်းခတ်တပ်သားဟောင်းများအား ခါတိုင်းဖွဲ့စည်းနေကျ တပ်ဖွဲ့များတွင် ထည့်သွင်းပါဝင်စေတော့မည်ဟု စစ်သေနာပတိချုပ် မောင့်ဘက်တန်က ကျွန်တော်တို့အား မြွက်ကြားသည်။

၅ ရက်အကြာတွင် ကျွန်တော်မျှော်လင့်ထားသည့်အတိုင်း ကျွန်တော့်ထံသို့ သံကြိုးစာတစ်စောင် ရောက်လာတော့သည်။

ယခုအချိန်၌ စစ်ဦးစီးတက္ကသိုလ်တွင် သင်ကြားတတ်မြောက်လာသူများ အလွန်နည်းပါးလျက်ရှိရာ ကျွန်တော်တို့လို စစ်ဦးစီးတက္ကသိုလ်သို့ တက်ဖူးသော အရာရှိများအား တပ်မဌာနချုပ်တွင် စစ်ဦးစီး ၁ အဖြစ် ခန့်ထားတော့မည်ကို ကျွန်တော်က ကြိုတင်၍ မျှော်လင့်ထားခဲ့၏။

ကျွန်တော့်ထံသို့ ရောက်လာသော သံကြိုးစာမှာ ကျွန်တော့်အား အမှတ်(၁၉) အိန္ဒိယခြေလျင်တပ်မတွင် စစ်ဦးစီး ၁ အဖြစ် ခန့်ထားလိုက်သည် ဟူသော သံကြိုးစာပင်တည်း။

အမှတ်(၁၉) အိန္ဒိယခြေလျင်တပ်မမှာ ထိုအချိန်၌ အမှတ်(၃၃) တပ်မကြီး၏ တပ်မတစ်ခု ဖြစ်နေလေသည်။ ကျွန်တော်သည် အမှတ်(၁၉) တပ်မသို့ ဆောလျင်နိုင်သမျှ ဆောလျင်စွာ တာဝန်အတွက် သတင်းပို့ရတော့မည်ဖြစ်၏။

ကျွန်တော်သည် ကာလကတ္တားသို့ လျင်မြန်နိုင်သမျှ လျင်မြန်သည့်နည်းဖြင့် ရောက်လာခဲ့ပြီးနောက် စစ်လေယာဉ်ကွင်းရှိရာသို့ သုတ်ခြေတင်လာခဲ့သည်။

လေယာဉ်ကွင်းတွင် ကျွန်တော်စီးရမည့် လေယာဉ်ကို စောင့်နေစိုက် ကျွန်တော်နှင့် အကျွမ်းဝင်ခဲ့ဖူးသော ဗိုလ်ချုပ်တစ်ဦးနှင့် တွေ့ရ၏။

သူက...

'ဟေး...၊ ဘာအလုပ်နဲ့ ဘယ်ကိုသွားမလို့လဲ''ဟု လှမ်း၍ နှုတ်ဆက်လိုက်သည်။

ကျွန်တော်က...

''ဦးစီး ၁၊ (၁၉)တပ်မပါခင်များ''ဟု အဖြေပေးလိုက်၏။

ဤတွင်...ကျွန်တော်နှင့် အကျွမ်းဝင်ခဲ့ဖူးသော ဗိုလ်ချုပ်က...

''ဟေ...ဟုတ်လား...၊ ဒါဖြင့် မောင်ရင် တစ်လလောက်ကြာရင်...ဒီကို ပြန်လာရမှာ ကျိန်းသေပဲ။ မောင်ရင့်အတွက် ဘင်္ဂလားကလပ်မှာ အခန်းတစ်ခန်း ငှားထားလိုက်ရမလား''ဟု ထပ်၍ ပြောလိုက်ပြန်သည်။

ကျွန်တော်သည် ဗိုလ်ချုပ်အနီးသို့ ချဉ်းကပ်သွားပြီး သူ...ဘာဆိုလိုသည်ကို မေးကြည့်မိသည်။

''(၁၉)တပ်မဟာက တပ်မှူးက ပီတီရီးစ်ဆိုတဲ့ ဗိုလ်ချုပ်ပေါ့... မောင်ရင်...၊ သူက...ဒီနှစ်တစ်နှစ်ထဲမှာကို...မောင်ရင့်လို ဦးစီးတစ်...ဆယ့်သုံးယောက်ကို မောင်းထုတ်ခဲ့တဲ့လူကွ...''ဟု ကျွန်တော့်ကို ရှင်းပြသည်။

ကျွန်တော်သည် လွန်ခဲ့သည့် ၈ နှစ်ခန့်က ပီတီရီးစ်နှင့်အတူ အိန္ဒိယအနောက်မြောက်နယ်စပ်တွင် တာဝန်ထမ်းဆောင်ခဲ့ဖူးသည်။ ထိုစဉ်က သူက...ဗိုလ်မှူး။ ကျွန်တော်က ဗိုလ်အဆင့်သာရှိသေးသည်။ သူသည် အလုပ်နှင့် ပတ်သက်လာလျှင် မည်သူ့ကိုမှ ညှာလေ့ရှိသူမဟုတ်၊ ရက်ရက်စက်စက် အရေးယူတတ်သူဟု နာမည်ကြီးသူဖြစ်၏။

ယခုလည်း သူသည် ယခင်ကအတိုင်းပင် ရှိနေပေလိမ့်မည်။

ကျွန်တော်သည် စိတ်လေးလေးနှင့်ပင် ကျွန်တော် လိုက်ပါရမည့် လေယာဉ်ပေါ်သို့ တက်လာခဲ့လေသည်။

ကျွန်တော့်တို့လေယာဉ် ကလေးဝသို့ရောက်သောအခါ လေတပ်ဆိုင်ရာမှ ရေးဆွဲထားသော ဆိုင်းဘုတ်ကြီးတစ်ခုကို တွေ့ရ၏။

ဤနေရာမှနေ၍ ကားလမ်းဖြင့်သွားခြင်းက ပို၍အန္တရာယ်ကင်းသည်။

ကျွန်တော်သည် လေယာဉ်ဖြင့်ပင် ရွှေဘိုသို့လာခဲ့၏။ ရွှေဘိုတွင် အမှတ်(၃၃)တပ်မကြီး၏ ဌာနချုပ် ရှိနေလေသည်။ ကျွန်တော်သည် တပ်မှူးကြီးဖြစ်သူ စတော့ဖို့ထံ ဝင်၍ သတင်းပို့သည်။ စတော့ဖို့က ကျွန်တော့်အား ရင်းနှီးစွာ လက်ဆွဲနှုတ်ဆက်ပြီးနောက် သူ၏ ဦးစီးအရာရှိများထံသို့ ခေါ်သွားသည်။

'ခင်ဗျားတို့ဗိုလ်ချုပ်ကတော့ တိုက်တဲ့နေရာမှာ သိပ်စွမ်းတဲ့လူပေါ့ဗျာ၊ ဒါပေမယ့် သူဘာတွေလုပ်နေတယ်ဆိုတာ ကျုပ်တို့ကို တစ်ခါမှ အသိမပေးဘူး။ သူထင်ရာစွတ်လုပ်တာပဲ။ တပ်မကြီးကပေးတဲ့အမိန့်ပေမယ့် နားထောင်ချင်မှ နားထောင်တယ်။ ခင်ဗျားတို့ဗိုလ်ချုပ်က သူ့တပ်မတစ်ခုတည်းနဲ့ စစ်ကြီးတစ်ခုလုံးကို အနိုင်ရမယ်လို့များထင်နေသလား၊ မသိဘူး။''

တပ်မကြီးမှ စစ်ဦးစီးအရာရှိကြီးများ၏ ပြောစကားကြောင့် ကျွန်တော့်မှာ အမှတ်(၁၉) တပ်မသို့ သွား၍ အမှုထမ်းဆောင်ရမည်ကို ရွံ့တွန့်တွန့်ဖြစ်လာတော့သည်။ ကျွန်တော့်လည်ပင်းမှ ခြေထောက်အထိ မြွေကြီးတစ်ကောင် ရစ်ပတ်ထားသလို မွန်းကျပ်၍နေမိသည်။ သို့သော် လာပြီဖြစ်၍ အမှတ်(၁၉)တပ်မသို့ အရောက်သွားရပေတော့မည်။

''ဟိုရောက်ရင် ခင်များတို့ဗိုလ်ချုပ်နဲ့ ကျုပ်တို့ အဆင်ပြေအောင်လည်း ကြည့်လုပ်ပါဗျာ''ဟု ကျွန်တော့်ကို မှာလိုက်ကြ၏။

ကျွန်တော်သည် တပ်မကြီးမှပေးသော ဂျစ်ကားတစ်စင်းဖြင့် အရှေ့ဘက်ရှုးရှုးသို့ ထွက်လာခဲ့သည်။ မကြာမီပင် ရောဝတီမြစ်ကမ်းပါးသို့ ရောက်လာ၏။

လွန်ခဲ့သော ၁၀ လခန့်က ကျွန်တော်သည် ယခုရောက်လာသော ရောဝတီမြစ်ကမ်းပါးမှနေ၍ တောင်ဘက် မိုင်တစ်ရာခန့်ဝေးသော နေရာမှ ရောဝတီမြစ်ကြီးကို ကျွန်တော့်တပ်မဟာဖြင့် ဖြတ်၍ကူးခဲ့ရ၏။ ယခုတစ်ဖန် ရောဝတီမြစ်ကမ်းပါးသို့ ရောက်လာရပြန်ပေပြီ။

မြစ်ထဲတွင် လူးလာခေါက်ပြန်သွားနေကြသော မော်တော်ဘုတ်ကလေးများ၊ လှေများကို တွေ့ရှိရခြင်းအားဖြင့် အမှတ်(၁၉) တပ်မဟာသည် ဤနေရာ၌ ရောဝတီမြစ်ကို အုပ်စီးထားနိုင်သည်မှာ ထင်ရှားနေလေသည်။

ရောဝတီ တစ်ဖက်ကမ်းတွင် အမြောက်သံများ တထိန်းထိန်းမြည်နေသံကို ကြားနေရသည်။

ရောဝတီမြစ်သည် ကျွန်တော်တို့ ဖြတ်ကူးရမည့်နေရာ၌ တစ်မိုင်ခွဲကျော်ကျော် ကျယ်နေလေသည်။

ကျွန်တော်က ကမ်းပါးထိပ်တွင် ရပ်၍ တစ်ဖက်သို့ မျှော်ကြည့်နေစဉ် အမြောက်တပ်မှ အရာရှိကြီးတစ်ဦး ရောက်လာပြီး မည်သည့်ကိစ္စနှင့် မည်သည့်ဌာနသို့ လာကြောင်း မေးမြန်းသည်။ ကျွန်တော်က ကျွန်တော့်အလုပ်နှင့် ကျွန်တော်သွားလိုသူ၏ အမည်ကို ပြောပြလိုက်သည်။

ထိုအရာရှိကြီး၏ အမူအရာသည် ကျွန်တော့်အလုပ်ကို ကြားလျှင်ကြားရချင်း ရုတ်တရက် ပြောင်းလဲသွားပြီး...

''ဗိုလ်ချုပ်ကတော့ ဓါတ်တိုင်းလိုပဲ ခြေလျင်တပ်စိတ်နဲ့ တပ်ဦးမှာလေ၊ ဟိုဘက်ကမ်းမှာပဲပေါ့''ဟု ပြောလိုက်၏။

ကျွန်တော့်စိတ်ထဲတွင် ဗိုလ်ချုပ်သည် ရှေ့တန်းစစ်မျက်နှာသို့ သွားရောက်စစ်ဆေးနေသည်ဟု မှတ်ထင်မိသည်။ ဗိုလ်ချုပ်ရောက်ရှိမည့်နေရာမှာ အကာအကွယ်ကောင်းသောနေရာပင် ဖြစ်လိမ့်မည်ဟုလည်း တွက်မိ၏။

''ဟိုမှာ မြင်ရဲ့လား''

အမြောက်တပ်မှ အရာရှိကြီးက တစ်ဖက်ကမ်းသို့ လက်ညှိုးညွှန်ရင်းများစွာမမြင့်လှသော သဲကမ်းပါးတစ်ခုကို လက်ညှိုးညွှန်၍ပြနေ၏။

''အဲဒီနေရာမှာ လူတွေရော ကားတွေရော မြင်တယ်မဟုတ်လား...အဲဒီ

နေရာပဲ ကျုပ်တို့အမြောက်တွေရှိမယ်...တပ်မတစ်ခုလုံးမှာရှိတဲ့ အမြောက်တွေ မှန်သမျှ အဲဒီကို ရောက်နေတာပဲ။ ရန်သူနဲ့ ကိုက်လေးရာပဲကွာတယ်''

တစ်ဖက်ကမ်းသို့ ကျွန်တော် ရောက်သွားသောအခါ အရပ် ငါးပေ နှစ်လက်မမျှရှိပြီး ဂေါ်ရခါးဦးထုပ်ပေါ်တွင် ရွှေရောင်းတံဆိပ်ကို တပ်ဆင်ထားသော ဗိုလ်ချုပ်ပီတီရီးစ်ကို တွေ့ရ၏။ သူ့လည်ပင်းတွင် အနီရောင် လည်စည်းတစ်ထည်ကို ရစ်ပတ်ထားသည်။

အမှတ်(၁၉)တပ်မ၏ အထိမ်းအမှတ်ဖြစ်သော ဓားမြှောင်တစ်ချောင်း ပါသည့် ကြက်သွေးရောင်အလံကလည်း ဂျစ်ကားဦးတွင် တဖျပ်ဖျပ် လွင့်ရှားနေ၏။ မြူဆိုင်းနေသည့် နံနက်ခင်းတွင်ပင် ဤနေရာ၌ မည်သူမည်ဝါ ရှိနေသည်ကို တစ်မိုင်လောက်အကွာမှနေ၍ မြင်နိုင်နေလေသည်။

ကျွန်တော်ရောက်သွားသည့်အချိန်တွင် ဗိုလ်ချုပ်ရှိနေသည့် တပ်ဦးနှင့် ရန်သူများ ရောက်ရှိနေသော နေရာမှာ ကိုက်နှစ်ရာခန့်သာ ကွာနေတော့၏။

ဗိုလ်မှူးချုပ် အဆင့်အတန်းရှိ အမြောက်တပ် တပ်မှူးက ဗိုလ်ချုပ် ပီတီရီးစ်အနားသို့ ချဉ်းကပ်လာပြီး...

''ဗိုလ်ချုပ်ကြီးခင်ဗျား...ကျွန်တော်ဟာ အမှတ်(၁၉) တပ်မဟာမှာ ပါရှိတဲ့ အမြောက်တပ်တွေရဲ့ တပ်မှူးဖြစ်တဲ့အတွက် ကျွန်တော့်မှာ အမြောက်တွေ ရန်သူ့လက်ထဲရောက်မသွားဖို့ တာဝန်ရှိပါတယ်''ဟု အစီရင်ခံလိုက်၏။ ဤတွင် ဗိုလ်ချုပ်ဖြစ်သူ ပီတီရီးစ်က...

''ဟုတ်တယ်...ခင်ဗျားက အမြောက်တပ်တစ်ခုလုံးရဲ့ တပ်မှူးပဲ... ကျုပ်ကတော့...အဲဒီအမြောက်တပ်ပါ ပါဝင်တဲ့ တပ်မတစ်ခုလုံးရဲ့ ဗိုလ်ချုပ်ပဲ'' ဟု ပြန်ပြောလိုက်သည်။

အသက် ၄၈ နှစ်သာရှိသေးသော ဗိုလ်ချုပ်ပီတီရီးစ်သည် စစ်မြေပြင်တွင် တပ်ဦးမှ ရှိနေလင့်ကစား မုတ်ဆိတ်နှင့် နှုတ်ခမ်းမွေးများကို စိမ်းနေအောင် ရိတ်ထားသည်။ သူသည် စကားကို တိုးတိုးသက်သာ ပြောတတ်ပြီး သူ့လက်အောက်ငယ်သားများအား တစ်ခါမှ ဆဲဆိုကြိမ်းမောင်းလေ့မရှိ။

သူသည် ဆေးလိပ်မသောက်၊ အရက်လည်း ဘယ်တော့မှမမူး။ သူ့မျက်နှာပေါ်တွင် ထာဝစဉ်ချိုသာသောအပြုံးကလေး ရှိနေတတ်သည်။

သူသည် ပထမကမ္ဘာစစ်အတွင်းက ဒီ-အက်(စ်)-အို၊ အမ်စီတံဆိပ်များကို ရရှိခဲ့သူ ဖြစ်၏။ အသက်ငယ်သလောက် ရဲရွမ်းသတ္တိရော ဥပဓိရုပ်ပါကောင်းသူ ဖြစ်သည်။

ကျွန်တော်က ဗိုလ်ချုပ်အား အလေးပြုပြီးနောက် ကျွန်တော့်အလုပ်တာဝန်ကို သတင်းပို့လိုက်သည်။ သူသည် ကျွန်တော်ပြောသမျှ ယဉ်ကျေးသိမ်မွေ့သော အမူအရာဖြင့် နားထောင်နေသည်။ ကျွန်တော် သတင်းပို့၍ပြီးတော့မှ သူက တိုးတိုးသက်သာပင် ပြောပြနေသည်။

"စစ်ဆင်ရေးဌာနက ကျုပ်ရဲ့ ဦးစီး ၂ ကို ဦးစီး ၁ အဖြစ်နဲ့ ရာထူးတိုးပေးဖို့ ကျုပ်စဉ်းစားခဲ့တယ်...စဉ်းစားခဲ့တဲ့အတိုင်းလည်း သက်ဆိုင်ရာကို တင်ပြခဲ့တယ်။ ဒါပေမယ့် ကျုပ်ရဲ့တင်ပြချက်ကို သက်ဆိုင်ရာက ပယ်ချပြီး မောင်ရင့်ကို ဦးစီး ၁ အဖြစ်နဲ့ ကျုပ်ဆီကို လွှတ်လိုက်တာပဲ၊ ဘာပဲဖြစ်ဖြစ် မောင့်ရင့်ကို ဦးစီး ၁ အဖြစ်နဲ့ ကျုပ် လက်ခံပါတယ်"

ကျွန်တော်သည် ဗိုလ်ချုပ်ပီတီရီးစ်ထံ သတင်းပို့ပြီးနောက် အနီးတွင်ရှိနေသော ဦးစီး ၂ အား အပြင်သို့ ခေါ်ယူသွားသည်။

ကျွန်တော့်မှာ ယခုအချိန်ကစ၍ ဦးစီးဌာနတွင် အကြီးဆုံးသောရာထူးကို ချုပ်ကိုင်၍ အလုပ် လုပ်ကိုင်ရတော့မည်ဖြစ်ရာ ဦးစီးအဖွဲ့ တစ်ဖွဲ့လုံးကို ကျွန်တော့်ဆန္ဒ၊ ကျွန်တော့်လိုလားချက်အတိုင်း နောက်မှလိုက်၍ လုပ်ကိုင်စေချင်သည်ဟု ဦးစီး ၂ အရာရှိကို ပြောပြသည်။

တပ်မှူးနှင့် ဦးစီး ၁ သည်လည်းကောင်း၊ ဦးစီး ၁ နှင့် သူ၏အဖွဲ့သားများသည်လည်းကောင်း တစ်ယောက်နှင့်တစ်ယောက် သဟဇာတသင့်မြတ်ကြသည်ဖြစ်ရာ ကျွန်တော့်တို့အတွင်းတွင်း မလိုတမာပြုမှုများ၊ ပြောဆိုမှုများ ကင်းရှင်းအောင် နေကြထိုင်ကြရမည်ဖြစ်၏။ အကယ်၍ အချိန်သင့်လျှင် ကျွန်တော်သည် ဦးစီး ၁ အနေဖြင့် ကျွန်တော့်အစွမ်းကို ဗိုလ်ချုပ်ပီတီရီးစ်က အသိအမှတ်ပြုလာလောက်အောင် ပြလိုက်လေမည်ဟု အားခဲထားသည်။

အမှတ်(၁၉) တပ်မတွင် ကျွန်တော်က ဦးစီး ၁ အဖြစ် စတင်တာဝန်ယူလိုက်သည့်အချိန်၌ ဗိုလ်ချုပ်ကြီးဆလင်း ဦးစီးသော အမှတ်(၁၄) တပ်မတော်သည် မြန်မာပြည်အလယ်ပိုင်းမှနေ၍ တောင်ဘက်သို့ ထိုးဖောက်ချီတက်နိုင်ရန် ကြိုးပမ်းနေသည့်အချိန် ဖြစ်သည်။

ဗိုလ်ချုပ်ကြီး ဆလင်း၏ အမှတ်(၁၄) တပ်မတော်တွင် တပ်မကြီး ၂ ခု ပါဝင်သည်။ ထိုတပ်မကြီး ၂ ခုမှာ ကျွန်တော်တို့၏ အမှတ်(၃၃) တပ်မကြီးနှင့် အမှတ်(၄) တပ်မကြီးပင် ဖြစ်သည်။ အမှတ်(၁၉) တပ်မမှာ အမှတ်(၃၃) တပ်မကြီးတွင် ပါဝင်သော တပ်မတစ်ခုတည်း။

တပ်မကြီးနှစ်ခုရှိသည့်အနက် အမှတ်(၃၃) တပ်မကြီးသည် မန္တလေးကို

ချီတက်တိုက်ခိုက်သိမ်းယူရန် တာဝန်ပေးအပ်ခြင်းခံရသည်။ ဤတပ်မကြီးတွင် ပါဝင်သော ကျွန်တော်တို့၏ အမှတ်(၁၉) တပ်မသည် ရောဝတီမြစ်ကြီးအား ရန်သူက ပိုင်းဝန်းပိတ်ဆို့ထားသည့်ကြားမှ အတင်းထိုးဖောက်ဖြတ်ကူးလာကာ အရှေ့ဘက်ကမ်းတွင် နေရာယူထားပြီး ဖြစ်နေ၏။

ရန်သူတို့သည် ကျွန်တော်တို့တပ်မအား ရှေ့သို့ တစ်လက်မမျှ မတိုးနိုင်အောင် မီးကုန်ယမ်းကုန် ခုခံနေကြလေသည်။ အဘယ်ကြောင့်ဆိုသော် မြန်မာပြည်၏ ရှေးဟောင်းမြို့တော် ဖြစ်ခဲ့သော မန္တလေးသည်လည်း ယခုကျွန်တော်တို့ အမှတ်(၁၉)တပ်မ ရောက်ရှိနေသော ရောဝတီမြစ်၏ အရှေ့ဘက်ကမ်းတွင် တည်ရှိနေသောကြောင့်ပါတည်း။

အမှတ်(၃၃) တပ်မကြီးတွင် ပါဝင်သော အခြားတပ်မ ၂ ခုသည် ရောဝတီမြစ် အနောက်ဘက်ကမ်းခြေအတိုင်း တောင်ဘက်သို့ ချီတက်နေ၏။ ကျွန်တော်တို့တပ်မသည် မန္တလေးမြို့မြောက်ဘက် မိုင် ၄၀ အကွာသို့ ရောက်အောင် ချီတက်လာချိန်တွင် မန္တလေးတွင်ရှိသော ရန်သူများသည် ကျွန်တော်တို့အား အလုံးအရင်းဖြင့် ထွက်၍ တိုက်ပေတော့မည်။

ဤအချိန်တွင် အနောက်ဘက်ကမ်းအတိုင်း ချီတက်လာသော တပ်မ ၂ ခုသည် မန္တလေးနှင့် မျက်နှာချင်းဆိုင်အရပ်မှနေ၍ ရောဝတီကို ဖြတ်ကူးကာ မန္တလေးကို တိုက်ခိုက်ပေတော့မည်။

မန္တလေးမှာ မြန်မာပြည်၏ ရှေးဟောင်းမြို့တော်နှင့် ယခုခေတ် ဒုတိယမြို့တော်ဖြစ်ရာ ဂျပန်တို့သည် ဤမျှ အရေးကြီးသော မြို့ကြီးတစ်မြို့အား ကျွန်တော်တို့လက်ထဲသို့ ပြန်လည်ကျရောက်ခြင်းကို မည်သို့မျှသည်းခံနိုင်ဖွယ်မရှိ။

ကျွန်တော်တို့၏ အမှတ်(၃၃)တပ်မကြီးက မန္တလေးကို တိုက်ခိုက်သိမ်းယူရန် စွယ်ယောင်ပြနေချိန်တွင် ဗိုလ်ချုပ်ကြီးဆလင်းက အမှတ်(၄) တပ်မကြီးအား တင့်ကားတပ်မဟာနှင့်အတူ မြန်မာပြည်တွင် စစ်ရေးအရ အချက်အချာအကျဆုံးသော မိတ္ထီလာကို လျှို့ဝှက်စွာ ချီတက်သိမ်းယူရန် စီစဉ်ထားသည်။

မိတ္ထီလာသည် မန္တလေးတောင်ဘက် မိုင် ၁၂၀ အကွာတွင် တည်ရှိနေလေသည်။

မန္တလေးသို့ချီတက်ရာ လမ်းတစ်လျှောက်တွင် နယ်မြေ အနေအထားသည် အတန်အသင့်ပြန့်ပြူးလျက်ရှိပြီး လယ်ယာကိုင်းကျွန်းများ၊ ဆည်မြောင်း

များ ရေနွတ်မြောင်းများဖြင့် ပြည့်နက်လျက်ရှိသည်။ ထန်းတောများအလယ်တွင် ရွာများကလည်း အများအပြား တည်ရှိနေကြ၏။

ထန်းတောနှင့် စေတီဖြူဖြူဖွေးဖွေးမှာ မြန်မာပြည်အလယ်ပိုင်း၏ အမှတ်အသားများ ဖြစ်နေလေသည်။ တစ်ခါတစ်ခါတွင် သီးခြားတည်ရှိနေသော တောင်ကုန်းများ၊ တောထူသော တောင်ကမူများ၊ ဝါးရုံပုတ်များရှိသော တောစပ်များကို တွေ့ရတတ်၏။ မည်သို့ပင်ဖြစ်စေ ကိုင်းကျွန်းလယ်ယာများကား နေရာတိုင်းတွင် အနည်းနှင့်အများ ရှိနေလေသည်။

ဇန်နဝါရီလဖြစ်၍ ရာသီဥတုမှာ ကျွန်တော်တို့အတွက် အတော်သာယာမှုရှိလှသည်။ သို့သော် နောက်လဆန်းလာလျှင် ပူအိုက်လာတော့မည်ဖြစ်၏။

ကျွန်တော့်မှာ ခြင်းအစ်စစ်ကြောင်းဖြင့် မြန်မာပြည်ထဲသို့ ဝင်ရောက်လာပြီးနောက် အနားကောင်းစွာရခြင်းမရှိသေးသော်လည်း တိုက်ပွဲနှင့် တွေ့ရမည်ဆိုသောအခါ ကျွန်တော်၏ ကျန်းမာရေးအခြေအနေသည် အလိုလိုပင်ပို၍ကောင်းမွန်လာသည်ကို တွေ့ရ၏။

ကျွန်တော်ပါဝင်နေရသော အမှတ်(၁၉) တပ်မ၏ စိတ်ဓာတ်နှင့် ကျန်းမာရေးအခြေအနေကလည်းကောင်း၊ စွမ်းစွမ်းတမံ ခေါင်းဆောင်မှုပေးနိုင်သော ဗိုလ်ချုပ်ပီတီရီးစ်၏ စစ်ဆင်ရေးအခြေအနေကလည်းကောင်း ကျွန်တော့်အား ကိုယ်ရောစိတ်ပါ ခန့်ကျွန်း၍လာသည်ဟု ထင်ရသည်။

ကျွန်တော်တို့တပ်မတွင် တပ်မဟာ ၃ ခု ပါဝင်သည်။ အမှတ် (၆၂) (၆၄) နှင့် (၉၈)တို့ ဖြစ်၏။ တပ်မဟာတိုင်းတွင် အင်္ဂလိပ်အိန္ဒိယနှင့် ဂေါ်ရခါး တပ်ရင်းတစ်ရင်းစီ ပါဝင်သည်။

ကျွန်တော်တို့တပ်မက တောင်ဘက်ကို ဖိ၍ ချီတက်နေစဉ် ကျွန်တော့်မှာ ဦးစီး ၁ အလုပ်ခွင်တွင် အသားကျလာတော့၏။ ကျွန်တော့်လက်အောက်ရှိ စစ်ဆင်ရေးဌာနမှ ဦးစီး ၂ ဖြစ်သူမှာ တပ်ဌာနချုပ်ကိုသော်လည်းကောင်း၊ ချီတက်မှု အရပ်ရပ်ကိုသော်လည်းကောင်း ကျွမ်းကျင်စွာ ဦးစီးနိုင်သူဖြစ်၏။ ထို့ကြောင့် ကျွန်တော်သည် ဗိုလ်မှူးကြီးဖြစ်သူ ပီတီရီးစ်၏ ဆန္ဒအတိုင်း မဆိုင်းမတွ လိုက်နာလုပ်ကိုင်ရန် အချိန်များစွာရခဲ့လေ၏။

ဦးစီး ၁ အဖြစ် ပထမဆုံး ဆောင်ရွက်ရသော ခုနစ်ရက်အချိန်အတွင်း ကျွန်တော်သည် ဗိုလ်ချုပ်နှင့်ပင် အမြဲမပြတ် ရှိနေသည်။ သူနှင့်အတူရှိနေရခြင်းမှာလည်း ဦးနှောက်ခြောက်စရာပင် ဖြစ်၏။

ဗိုလ်ချုပ်နှင့် ကျွန်တော်တို့နှစ်ယောက်မှာ အမြဲပင် တပ်ဦးရှိ တပ်စုနှင့်

အတူရှိနေကြသည်။ ရန်သူ့လက်ဖြောင့်တပ်သားများက ကျွန်တော်တို့နှစ်ယောက်အား တဒိုင်းဒိုင်းနှင့် ပစ်ခတ်နေကြ၏။ သို့သော် ကံကောင်းထောက်မ၍ တစ်ယောက်မှမထိ။

ကျွန်တော်က သရော်သည့်လေသံဖြင့် ကျွန်တော်တို့နှင့် ခပ်လှမ်းလှမ်းတွင် ရပ်ထားသော ဂျစ်ကားကို အနီရောင်သုတ်လျှင် ကောင်းမည်ဟု ပြောလိုက်မိသည်။ ဤသို့ပြောသည်ကိုပင် ဗိုလ်ချုပ်ပီတီရီးစ်က တကယ်ထင်မှတ်ပြီး အနီရောင်သုတ်မည်ဟု လုပ်နေသောကြောင့် အတင်းဆွဲထားရပေသေးသည်။ ကျွန်တော်က ဂျစ်ကားပေါ်တွင်လိုက်ပါမည့် အစောင့်စစ်သားများနှင့် အချက်ပြဆက်သွယ်ရေးအရာရှိတို့၏ အသက်ကို စိုးရိမ်ရမည်ဟု ဖျောင်းဖျပြောဆိုရ၏။

ဗိုလ်ချုပ်ပီတီရီးစ်မှာ ထူးထူးကဲကဲ ရဲစွမ်းသတ္တိနှင့် ပြည့်စုံသူဖြစ်၏။ ပထမကမ္ဘာစစ်ကြီးအတွင်းတွင် ဗိုလ်ချုပ်လုပ်သူများသည် စစ်မြေပြင်နောက်ပိုင်းမှနေ၍ ရှေ့တန်းစစ်မျက်နှာရှိ စစ်သားများကို အသေခံခိုင်းနေမည်ကို တွေ့ခဲ့ရသော ပီတီရီးစ်သည် ယခုအချိန်၌ သူကိုယ်တိုင်ပင် စစ်မြေပြင်သို့ ထွက်နေရခြင်းပင်ဖြစ်သည်။ ပထမကမ္ဘာစစ်အတွင်းက အိုမင်းသောစစ်သူကြီးများသည် မိမိတို့ အိုးအိမ်နှင့် မကွာလှသော အရပ်တွင် ဌာနချုပ်ဖွင့်လျက် သေစရာရှိလျှင် အိမ်သို့သွားပြီး အိပ်ရာပေါ်၌ သေခဲ့ကြသော စစ်သူကြီးများသာ ဖြစ်ကြ၏။ ဤအချက်သည် ပီတီရီးစ်၏ ဦးခေါင်းတွင် သံမှိုနက်သကဲ့သို့ စွဲနေကာ တိုက်ပွဲနှင့် ရင်ဆိုင်ရလေတိုင်း သူက စစ်ဦးသို့ ရောက်နေလေတော့၏။

ပထမကမ္ဘာစစ်အတွင်းက အရာရှိကလေးများသာ ဖြစ်ခဲ့ကြသော လူငယ်များသည် ယခု ဒုတိယကမ္ဘာစစ်အတွင်း အရာရှိကြီးများ ဖြစ်လာကြသောအခါ စစ်မြေပြင်ရောက်တိုင်းတွင် နေရမည်ကို ရှုံရှာပြီး တပ်ဦးသို့သာ တက်နေကြတော့၏။ အချို့တပ်မှူးများမှာ လိုအပ်သည်ထက်ပင် ပို၍ အရဲစွန့်နေကြတော့၏။

စစ်မြေပြင်တွင် ဗိုလ်ချုပ်ဖြစ်သူကိုယ်တိုင် ကွင်းကဲရောက်ရှိနေခြင်းမှာ စစ်သည်တော်များအဖို့ စိတ်ဓာတ်တက်ကြွစရာပင် ဖြစ်၏။ စစ်မြေပြင်တွင် ကျဆုံးလေသော ဗိုလ်ချုပ်တစ်ယောက်၏ အလောင်းထက် မည်သည့်အရာက စစ်သည်တော်တို့၏ စိတ်ဓာတ်ကို တက်ကြွစေပါမည်နည်း။

ပီတီရီးစ်သည် စစ်သည်တော်များ၏ စိတ်ဓာတ်ကို တက်ကြွစေရာ၌ စံနမူနာယူလောက်သော တပ်မှူးကြီးတစ်ယောက်ပင် ဖြစ်လေသည်တကား။

ကျွန်တော်သည် ဗိုလ်ချုပ်ပီတီရီးစ်နှင့် ပုဂ္ဂိုလ်ချင်း ခင်မင်မှုရအောင် တတ်နိုင်သမျှ ကြိုးစားပြီးနောက် ဗိုလ်ချုပ်၏ စစ်သေနင်္ဂဗျူဟာ အယူအဆကို နားလည်ရန် ဆက်လက်ကြိုးစားသည်။

ဥပမာအားဖြင့် တပ်မတစ်ခုလုံးတွင်ရှိသော အမြောက်တပ်ဖွဲ့အားလုံးကို သဲသောင်ကမ်းပါးကျယ်ကျယ်တွင် ချထားပြီး ရန်သူနှင့် နီးနီးကပ်ကပ်တိုက်နေခြင်းမှာ အဘယ်ကြောင့်ပါနည်း။ အကယ်၍ ရန်သူများက ကျွန်တော်တို့တပ်များအား အလုံးအရင်းဖြင့် တိုက်ခိုက်လာခဲ့သော် ကျွန်တော်တို့တွင် အမြောက်တပ်အကူအညီ မဲ့၍ မဲ့၍နေမည် မဟုတ်ပါလားဟု စုံစမ်းသည်။

ရန်သူက အလုံးအရင်းနဲ့ လာတိုက်နေတာမဟုတ်ဘူး၊ ကျုပ်က တိုက်နေတာ။ ဒီတော့ ကျုပ်တပ်တွေကို အကာအကွယ်ပေးဖို့ အမြောက်တွေ မလိုဘူး။ ရန်သူကို ဖိပြီးတိုက်ဖို့ အမြောက်တွေသာလိုတယ်'

ကျွန်တော်က ပြန်၍မေးခွန်းထုတ်လိုက်၏။

''အမြောက်တွေကို အရှေ့ဘက်ကမ်းမှာထားပြီး တပ်တွေကို အနောက်ဘက်မှာထားတာ အရဲစွန့်လွန်းရာမကျဘူးလား ဗိုလ်ချုပ်''

ဗိုလ်ချုပ်ပီတီရီးစ်သည် ကျွန်တော့်အမေးကို ယဉ်ကျေးစွာပင် ပြန်၍ ဖြေသည်။

''အမြောက်တွေ အရှေ့ဘက်ကမ်း ရောက်နေတော့ ရှေ့ကိုဆက်ပြီး ချီတက်ဖို့ လွယ်နေတာပေါ့။ ကျုပ်တွေ့ရသလောက် ရန်သူတွေက တန်ပြန်ထိုးစစ်ဆင်နေတာ မရှိသေးဘူး''

ဗိုလ်ချုပ်ပီတီရီးစ် ပြောသည့်အတိုင်းပင် ဂျပန်များသည် အလုံးအရင်းဖြင့် တန်ပြန်ထိုးစစ်ဆင်ခြင်းမရှိဘဲ ကျွန်တော်တို့ ချီတက်မှုကို နှောင့်နှေးအောင်သာ တတ်နိုင်သမျှ လုပ်နေကြသည်ကို တွေ့ရသည်။

ကျွန်တော့်တို့ တပ်မက ရှေ့သို့ ချီတက်လာနေတိုင်း တပ်မဟာဌာနချုပ်တွင် ပို၍ ပို၍ အလုပ်များလာသည်။ ကျွန်တော်သည် ဖိုင်တွဲနှင့်ဆိုင်သော အလုပ်များကို ဌာနချုပ်ရုံးခန်းတွင် နေ့လယ် ၁၂ နာရီအထိ လုပ်ကိုင်ပြီးနောက် ဗိုလ်ချုပ်ရှိရာ တပ်ဦးသို့ ဂျစ်ကားကလေးတစ်စင်းဖြင့် နေ့တိုင်းလာကာ ညနေမိုးချုပ်မှ ဗိုလ်ချုပ်နှင့်အတူ နောက်ပိုင်းရှိ ဌာနချုပ်သို့ ပြန်လာလေ့ရှိသည်။

ဗိုလ်ချုပ်ရှိရာတပ်ဦးသို့ ဂျစ်ကားဖြင့်သွားရမည်မှာ ရန်သူအား ပစ်ပါလှည့်ဟု ဖိတ်ခေါ်နေသကဲ့သို့ရှိသည်။ ဖုန်များသည် ကားနောက်ဘက်မှ တထောင်း

ထောင်းထ၍ ကျန်ရစ်ကာ ရန်သူအား အချက်ပြပေးနေသလို ဖြစ်နေတော့၏။

ရန်သူများက ကျွန်တော့်အား ၁၅၅ မီလီမီတာ အမြောက်ကြီးများဖြင့် လှမ်း၍ လှမ်း၍ ပစ်ခတ်ကြသည်။ သို့သော် ကျွန်တော်စီးလာသော ဂျစ်ကားကို တစ်ချက်မျှ မထိ။

စစ်မြေပြင်သို့ရောက်ပြီးနောက် ဗိုလ်ချုပ်နှင့်အတူ တပ်ဦးတွင် တိုက်ခိုက်နေသော တပ်များအား ညွှန်ကြားနေရသည်မှာ ပျော်စရာတစ်မျိုးပင် ဖြစ်နေလေသည်။ ဗိုလ်ချုပ် ရောက်လာပြီဆိုသည်နှင့်တစ်ပြိုင်နက် အူရဒူစကား၊ မာရသီစကား၊ မြန်မာစကား၊ ထမီလ်စကား၊ ဂေါ်ရခါးစကားများကို အသီးသီး ပြောဆိုနေကြသော စစ်သည်တော်များ၏ မျက်နှာ၌ အားရကျေနပ်သောအပြုံးကို တွေ့တတ်ရစမြဲဖြစ်၏။ ကျွန်တော်တို့ သောက်ရန်လည်း လက်ဖက်ရည်က တည်ပြီးအသင့် ဖြစ်နေလေသည်။

တစ်နေ့သောနေ့လယ်ခင်းတွင် ဗိုလ်ချုပ်အားရှာရန် ထွက်လာသော ကျွန်တော်သည် ဂျစ်ကားတစ်စင်းကို မောင်း၍လာသော ဗိုလ်ချုပ်ကို တွေ့ရ၏။ ကားဦးပိုင်းတွင် ကျိုမပါသော သမင်တစ်ကောင်ကို တင်ထားသည်ဟု ခပ်လှမ်းလှမ်းက ထင်ရ၏။ အနီးကိုရောက်သောအခါ ဒဏ်ရာရနေသော ဂျပန်စစ်ဗိုလ်တစ်ယောက် ဖြစ်နေသည်ကို တွေ့ရတော့သည်။

'ဒီဂျပန်စစ်ဗိုလ်ကလေးက ဒဏ်ရာပြင်းထန်နေတော့ ကားအပူငွေ့ရအောင် ကားဦးမှာ တင်ပြီး ယူလာခဲ့ရတယ်။ သူ့ကို ချက်ချင်းပဲ ဆေးရုံကို ပို့ရမယ်''

ရန်သူကို တိုက်ခိုက်ရာ၌ ဘီလူးကဲ့သို့ ရက်စက်သော ဝီတီရီးစ်သည် သုံ့ပန်းတစ်ယောက်ကို ဖမ်းမိလာသောအခါ၌မူ မိခင်သဖွယ် သဘောထား၍ ပြုစုတတ်သည်တကား။

သူသည် ကျွန်တော့်အပေါ်တွင် တစ်စ တစ်စ ယုံကြည်လာသည်။ အားကိုးလာသည်။ စစ်ဦးစီး ၁ ယောက်က ဖြုလုပ်သင့်သမျှသော အလုပ်မျိုးကို ကျွန်တော်က ဆောင်ရွက်နိုင်စွမ်းရှိကြောင်းကိုလည်း၊ အမူအရာအားဖြင့် ထုတ်ဖော်ပြသသည်။

ကျွန်တော်တို့၏ အမှတ်(၁၉)တပ်မဟာ မန္တလေးတွင် အလုံးအရင်းနှင့် ရှိနေသော ရန်သူများအား မန္တလေးမြောက်ဘက် မိုင် ၄၀ အကွာသို့ရောက်အောင် စစ်မြူပေးရန်ဖြစ်၏။ မန္တလေးကို သိမ်းမည့်သူများမှာ အမှတ် (၃၃) တပ်မကြီးမှ အခြားတပ်မနှစ်ခုသာဖြစ်၏။

သို့သော် ဗိုလ်ချုပ်ပီတီရီးစ်သည် မန္တလေးကို ကျွန်တော်တို့တပ်မကပင် ထင်ထင်ရှားရှား သိမ်းယူ၍ပြလိုက်ချင်သည့်ဆန္ဒ ပေါ်ပေါက်နေ၏။ ထို့ကြောင့် ယခုရက်များအတွင်း ဂနာမငြိမ်ဖြစ်နေသော ဗိုလ်ချုပ်ကို ကျွန်တော်က သတိထား၍ကြည့်နေ၏။

ဗိုလ်ချုပ်သည် စဥ့်ကူမှနေ၍ ပိတ်ဆို့ထားသော ရန်သူ့တပ်များကို ထိုးဖောက်ကာ မန္တလေးသို့ အရောက်ချီတက်ရန် ဆန္ဒရှိနေသည်။ သို့သော် မည်ကဲ့သို့ ဖောက်ထွက်ရမည်ကိုသာ အစီအစဥ် မရေးဆွဲရသေး။

ကျွန်တော်တို့တပ်မှ တပ်ဦးချီ တပ်မဟာနှစ်ခုသည် စဥ့်ကူတောင်ဘက် မိုင် အတန်ကွာသို့ရောက်နေပြီး ရန်သူများနှင့် အပြင်းအထန် တိုက်ခိုက်လျက် ရှိ၏။ မန္တလေးသို့ ရှေးရှုနေသော မော်တော်ကားလမ်းသည် ဧရာဝတီမြစ်ကမ်း ပါးမှ ငါးမိုင် သို့မဟုတ် ဆယ်မိုင်ခန့် ကွာဝေးနေလေသည်။ လှည်းလမ်းကြောင်း နှင့် လူသွားလမ်းကြောင်းများကား မြစ်ကမ်းပါးနှင့် နီးကပ်စွာတည်ရှိနေ၏။ ဤလမ်းများမှနေ၍ မန္တလေးသို့ ချီတက်သော် ရနိုင်ကောင်းပေသည်။

တစ်ညနေတွင် ဗိုလ်ချုပ်သည် ကျွန်တော့်အား သူစခန်းချလျက်ရှိသော နေရာသို့ ခေါ်ယူသွားသည်။ သူသည် ဧရာဝတီမြစ်ကမ်းပါးတွင် ရှိသော စေတီငယ်တစ်ဆူ၏ ရင်ပြင်တွင် မိုးကာတဲတစ်ခုထိုး၍ စခန်းချနေခြင်းဖြစ်၏။

ကျွန်တော်တို့သည် လက်ဆွဲမှန်အိမ်တစ်ခုကို ထွန်းညှိကာ ခေါက်စားပွဲ ကလေးတစ်ခုပေါ်တွင် တင်ထားလိုက်သည်။ ဗိုလ်ချုပ်သည် ဝီစကီတစ်ပုလင်း နှင့် သူ့ဇနီးထံမှ ပေးပို့လိုက်သော ကိတ်မုန့်ကြီးတစ်လုံးကို စားပွဲပေါ်တွင်ထင်၍ တင်ထားလိုက်သည်။ သူ့အကူရဲဘော်က ကရားကြီးတစ်လုံးနှင့် လက်ဖက်ရည် ပူများ ထည့်ယူလာသည်။

ကျွန်တော်တို့၏ စစ်ဆင်ရေးဆွေးနွေးပွဲ စားပွဲတည်း။

ဗိုလ်ချုပ်က ကျွန်တော်တို့၏ ပင်မအင်အားကို မော်တော်ကားလမ်း အတိုင်း မန္တလေးသို့ ချီတက်စေရမည်ဟု အဆိုပြုသည်။

ဗိုလ်ချုပ်က မော်တော်ကားလမ်းပေါ်တွင် ရန်သူသည် အလုံးအရင်းဖြင့် စောင့်လျက်ရှိမည်ဖြစ်ရာ ကားလမ်းအတိုင်း တက်လာသော ကျွန်တော့်တို့ တပ်အဖို့ ပို၍ ထိုးဖောက်ရန် လွယ်ကူသည်ဟု တွက်ဆသည်။

ဗိုလ်ချုပ်၏ အဆိုကို ကျွန်တော်က မကြိုက်။

မော်တော်ကားလမ်းအတိုင်း မတက်ဘဲ မြစ်ကမ်းပါးနှင့် နီးကပ်သော လှည်းလမ်းနှင့် လူသွားလမ်းအတိုင်း ချီတက်ခဲ့လျှင် ကျွန်တော်တို့ ခုခံနေသော

ရန်သူ အနည်းငယ်ကိုသာ တွေ့မည်ဖြစ်၏။ အကယ်၍ ကျွန်တော်တို့က လှည်းလမ်းအတိုင်း မြန်မြန်ထက်ထက် ချီတက်သွားနိုင်ခဲ့ပါမူ မော်တော်ကား လမ်းပေါ်ရှိ ရန်သူ့တပ်များကိုလည်း နောက်မှနေ၍ ပြန်လည်တိုက်ခိုက်နိုင်မည် ဖြစ်သည်။ ဤနည်းဖြင့် မော်တော်ကားလမ်းပေါ်တွင် အလုံးအရင်းဖြင့် ရှိနေသော ရန်သူ့တပ်များသည် ရှေ့နှင့်နောက်မှ ပိုင်းညှပ်၍ အတိုက်ခံရကာ ရန်သူတို့၏ အတားအဆီးကြီး ကျိုးပေါက်သွားတော့မည် ဖြစ်လေသည်။

သန်းခေါင်အချိန်သို့ ရောက်သောအခါ ကျွန်တော့်ယူဆချက်များကို ဗိုလ်ချုပ်က လက်ခံလာသည်။

ကျွန်တော်တို့နှစ်ယောက်သည် လှည်းလမ်းကြောင်းမှနေ၍ မည်ကဲ့သို့ ချီတက်ကာ ရန်သူအား မည်ကဲ့သို့ နှစ်ဖက်ညှပ်၍တိုက်မည်ကို အသေးစိတ် အစီအစဉ် ရေးဆွဲကြတော့၏။

ပုလင်းထဲတွင်ရှိသော ဝီစကီမှာ တဖြည်းဖြည်း နိမ့်၍ နိမ့်၍ ဆင်းလာသည်။ အကျရဲဘော်ကလည်း လက်ဖက်ရည်ကို တစ်ကရားပြီး တစ်ကရား လာ၍ပို့နေရတော့၏။ အင်္ဂလန်မှ ဗိုလ်ချုပ်၏ဇနီး ပေးပို့လိုက်သည့် ကိတ်မုန့် လုံးကြီးမှာလည်း ပြောင်သလင်းခါသွားပေပြီ။ တစ်နာရီလျှင် တစ်ကြိမ်ကျ ပျံသန်းကာ ကင်းထောက်လျက်ရှိသော ရန်သူ့လေယာဉ် ရောက်ရှိလာသည့် အခါတိုင်း ကျွန်တော်တို့သည် မီးကိုငြိမ်း၍ မှောင်ထဲတွင် ငုတ်တုတ်ကြီး ထိုင်နေကြရသည်။

ညသန်းခေါင်ယံ ရီထိုးလာသောအခါ ဗိုလ်ချုပ်က မည်ကဲ့သို့စစ်ဆင်လိုသည်ကို ကျွန်တော် အသေးစိတ်နီးနီး သိလာရတော့၏။

ဗိုလ်ချုပ် အိပ်ရာဝင်သွားပြီးနောက် ကျွန်တော်သည် ဦးစီးအဖွဲ့မှ အရာရှိနှင့် စာရေးအားလုံးကို နှိုးလိုက်သည်။ ပြီးနောက် မန္တလေးသို့ ရှေ့ရှု ချီတက်ရေး အသေးစိတ်အစီအစဉ်ကို နှုတ်မှရွတ်ဆိုပေးသည်။ အရုဏ်တက် လာသည့်အချိန်တွင် မန္တလေးတိုက်ပွဲ အသေးစိတ်အစီအစဉ်ပါရှိသည့် ဖိုင်တွဲကို ယူ၍ ဗိုလ်ချုပ်ပီတီရီးစ်ထံ တင်ပြလိုက်၏။

ဗိုလ်ချုပ်သည် ကျွန်တော့်အား အံ့သြချီးမွမ်းသည့်အမူအရာဖြင့် ကြည့် နေလေသည်။ ပြီးမှ...ချိုသာသောအပြုံးကို ပြုံးလိုက်၏။ ကျွန်တော်သည် ကလေးတစ်ယောက်လို ထ၍ခုန်မိမတတ် ဝမ်းသာသွားသည်။ ဤအချိန်သည် ပင်လျှင် ဗိုလ်ချုပ်က ကျွန်တော့်အား တပ်မဟာတစ်ခုတွင် တပ်မှူးအဖြစ် ကွပ်ကဲအုပ်ချုပ်ရန် တာဝန်ပေးမည်ဟု ဆုံးဖြတ်လိုက်သောအချိန်ပင်ဖြစ်သည်

ဟု ထင်ရပါတော့သည်။

ကျွန်တော်တို့၏ ပင်မတပ်ကြီးချီတက်ရမည့်လမ်းမှာ လက်ယာဘက်မှ လမ်း ဖြစ်သည်။ သို့သော် ရန်သူကို အငိုက်ဖမ်းနိုင်ရန်အတွက် တပ်အချို့အား လက်ဝဲလမ်းမှ စွယ်ယောင်ပြ၍တက်ရန် ညွှန်ကြားထားသည်။ ရန်သူသည် လက်ဝဲလမ်းတွင် အမြောက်တပ်များ၊ တင့်ကားတပ်များကို အားဖြည့်၍ ထားတော့၏။

ကျွန်တော်တို့တပ်များ လက်ယာလမ်းအတိုင်း ချီတက်မိသည်နှင့်တစ် ပြိုင်နက် ချီတက်မှုကို ဖိဖိစီးစီးလုပ်နိုင်ရန်အတွက် စစ်ကူပေးမည့်တပ်များကို လည်း အသင့်ရှိနေစေသည်။ ချီတက်မှုအစတွင် တပ်မမှ တပ်များအားလုံး လက်လှမ်းမီသည့်နေရာတွင် ရှိနေရန် လို၏။ သို့မှ အင်ကြီးအားကြီးဖြင့် ခုခံနေသော ရန်သူကို ကျွန်တော်တို့က တစ်ပြိုင်နက် တစ်ခဲနက် ထိုးဖောက် နိုင်မည် ဖြစ်၏။ တပ်မဟာသုံးခုသည် တစ်ခုနှင့်တစ်ခု အကူအညီပေးနိုင်မည့် အကွာအဝေးမှနေ၍ ချီတက်ကြရမည်။ ရှေ့သို့ ကျွံနေသောတပ်ပင် နောက်မှ လိုက်လာသော တပ်များနှင့် အတူတကွရှိနေစေရန် နောက်သို့ ပြန်လှည့်တန်က လှည့်ရမည်ဖြစ်၏။ သို့မှသာ ရန်သူက ကျွန်တော်တို့၏ အမြောက်စခန်းနှင့် ဆက်သွယ်ရေးလမ်းကြောင်းများကို ဖျက်ဆီးဖြတ်တောက်ခြင်းမပြုဘဲ နေမည် ဖြစ်၏။

တင့်ကားများအတွက် ဓာတ်ဆီများ၊ အမြောက်များအတွက် ကျည်ဆန် များ၊ မော်တော်ယာဉ်များအတွက် အပိုပစ္စည်းများနှင့် ချီတက်ရာတွင် လိုအပ် မည့် လက်နက်ကိရိယာမှန်သမျှကို အစစပြင်ဆင်၍ အသင့်ရှိနေစေသည်။ ရန်သူဘက်မှ တိုက်ခိုက်၍ ကျွန်တော်တို့ဘက်တွင် မည်မျှထိခိုက်ဒဏ်ရာရမည် ကိုပင် ကြို၍ခန့်မှန်းနိုင်းပြီး ဆေးမှူးနှင့် သူနာပြုတပ်ဖွဲ့ကို ခန့်မှန်းချက်နှင့် အညီ အသင့်ရှိနေစေသည်။

ကျွန်တော်၏ခန့်မှန်းချက်မှာ လူတစ်ရာလျှင် ၃ ယောက်ခန့် ထိခိုက်ဒဏ် ရာရမည်ဟု ဖြစ်သည်။ ကျွန်တော်ခန့်မှန်းခဲ့သည့်အတိုင်းဆိုလျှင် လူ ၄၀၀ ခန့် ထိခိုက်ဒဏ်ရာရမည်ဖြစ်၏။ တကယ်တိုက်ပွဲဖြစ်လာသောအခါလည်း ကျွန်တော်တို့ဘက်မှ လူပေါင်း ၃၉၀ ထိခိုက်ဒဏ်ရာရခဲ့လေသည်။

မြန်မာပြည်အလယ်ပိုင်းတွင် ပြန့်ပြူးသောလွင်ပြင်များသာ ပေါများရာ တင့်ကားများအတွက် ချီတက်ရန် အခွင့်သာနေတော့၏။ သို့သော် အချို့နေရာ များတွင် လမ်းသည် ကျဉ်းမြောင်းလွန်းရကား တင့်ကားများသည် လူများ

တစ်ယောက်နောက်မှတစ်ယောက် တန်းစီ၍ ချီတက်သလို တက်ရတော့မည် ဖြစ်၏။ မည်ကဲ့သို့ပင်ဖြစ်စေ တင့်ကားဖြင့် ချီတက်ခြင်းက တင့်ကားမရှိဘဲ ချီတက်ခြင်းထက် ပို၍ ခရီးရောက်မည်မှာ သေချာလှတော့၏။

မန္တလေးတိုက်ပွဲအတွက် ပြင်ဆင်မှုများအားလုံးလိုလို ပြီးစီးနေသည့်အချိန်တွင် တင့်ကားတပ်မှ ဗိုလ်မှူးကြီးတစ်ယောက် ဗိုလ်ချုပ်ပီတီရီးစ်ထံသို့ ရောက်လာသည်။ ဗိုလ်မှူးကြီး၏ လက်ထဲတွင် တိုက်ပွဲအစီအစဉ် ဖိုင်တွဲတစ်ခုလည်း ပါလာ၏။ သူသည် တင့်ကားတပ်မှူးမှ ဒုတပ်မှူးပင်ဖြစ်၏။ တင့်ကားတပ်မှူးက သူ့အား ဗိုလ်ချုပ်ထံသို့ စေလွှတ်ကာ မန္တလေးတိုက်ပွဲတွင် တင့်ကားတပ်အနေဖြင့် ပါဝင်ရမည့်ကဏ္ဍမှာ မဖြစ်နိုင်သည့်တာဝန်ကို ပေးအပ်ထားခြင်းသာဖြစ်ကြောင်းဖြင့် တင်ပြလာသည်။ ကျွန်တော်တို့က ရှာမင် တင့်ကား ၁၃ စင်းကို အုပ်ချုပ်ကာ လက်တွေ့တိုက်ရန် တာဝန်ယူထားသော မက္ကင်ဇီကို ခေါ်ယူလိုက်ပြီး တင့်ကားတပ်မှ တာဝန်ယူထားသော မက္ကင်ဇီကို ခေါ်ယူလိုက်ပြီး တင့်ကားတပ်မှ ဒုတပ်မှူးနှင့် ဝိုင်း၍ဆွေးနွေးကြသည်။

မက္ကင်ဇီမှာ ကာမိုင်းတိုက်ပွဲ၌ ကျွန်တော်တို့နှင့် ပူးပေါင်းတိုက်ခိုက်ရန် ကတိပေးထားသည့် တရုတ်တပ်များကို ရှာရန်သွားရင်း လည်ပင်းတွင် သေနတ်ထိမှန်ပြီး ကျဆုံးခဲ့ရသော လူစွမ်းကောင်းကြီး ဂိလိကူဒီနှင့် အရပ်အမောင်းချင်းလည်း တူသည်။ သတ္တိချင်းလည်း တူသည်။ သူက တင့်ကားတပ်အတွက် အန္တရာယ်အပြည့်အဝရှိနေသော်လည်း မန္တလေးတိုက်ပွဲတွင် ဖြစ်သည့်နည်းဖြင့် ချီတက်တိုက်ခိုက်မည်ဟု ကတိပေးထားသည်။

သို့ရာတွင် ချီတက်မည့်အချိန် ကပ်နေမှ တင့်ကား ဒုတပ်မှူး ကျွန်တော်တို့ထံ လာရောက်၍ အပြင်းအထန် ကန့်ကွက်၍နေပြန်သည်။

''နယ်မြေအနေအထားကိုက တင့်ကားတွေတိုက်ခိုက်ရမယ့်အနေအထား မဟုတ်ဘူး။ သိပ်အန္တရာယ်များတယ်''

တင့်ကားတပ်မှ တပ်မှူး၏စကားကို ငြိမ်သက်စွာ နားထောင်နေသော ဗိုလ်ချုပ်ပီတီရီးစ်သည် စကားတစ်ခွန်းသာ ကြားဝင်၍ထောက်လိုက်၏။

''တင့်ကားတပ်အတွက် သိပ်အန္တရာယ်များတယ်ဆိုရင် မန္တလေးတိုက်ပွဲမှာ ခင်ဗျားတို့ရဲ့ တင့်ကားတပ်ကို ချန်ထားခဲ့စေချင်သလား။ ထားခဲ့စေချင်ရင် ထားခဲ့မယ်လေ''ဟု ယဉ်ယဉ်ကျေးကျေး ပြောလိုက်သည်။

တင့်ကားမှ ဒုတပ်မှူးမှာ မျက်နှာတစ်ခုလုံး နီမြန်းသွားပြီး...

''တင့်ကားတပ်အတွက် သင့်လျော်တဲ့နယ်မြေအနေအထားမဟုတ်ဘူး

ဆိုတာကို ပြေပြတာပါ ဗိုလ်ချုပ်…''ဟု ထပ်၍အကြောင်းပြလိုက်၏။

ဤတွင် ဗိုလ်ချုပ်ပီတီရီးစ်က…

''အင်း…ဟုတ်တယ်၊ ကျုပ်တို့ခြေလျင်တပ်တွေအတွက်လည်း သင့်လျော်တဲ့နယ်မြေအနေအထားတွေ မဟုတ်ပါဘူး…။ ဒါပေမယ့် ဂျပန်တွေက ဒီနေရာမှာမှ လာတိုက်တော့ ကျုပ်တို့ကလည်း ဒီနေရာမှာပဲ တိုက်ရတော့တာပဲ''

ကျွန်တော်သည် ဗိုလ်ချုပ်ရီးစ်က တင့်ကား ဒုတပ်မှူးအား ရစရာမရှိအောင် အပြစ်တင်ပြောဆိုတော့မည်ကို သိနေသည့်အလျောက် စကားဝိုင်းမှ ထ၍ လာခဲ့ရတော့သည်။

မန္တလေးတိုက်ပွဲကို ကျွန်တော်တို့ဘက်မှ အမြောက် တထိန်းထိန်းပစ်၍ စတင်လိုက်သည်။ လက်ဝဲကြောင်းချီတပ်မဟာက ရှေ့သို့တိုး၍ တက်လိုက်သည်နှင့်တစ်ပြိုင်နက် အင်ကြီးအားကြီးဖြင့် စောင့်နေသော ရန်သူများနှင့် အပြင်းအထန်တိုက်ခိုက်ကြရတော့သည်။

လက်ယာကြောင်းချီ တပ်မဟာမှမူ အခုအခံများစွာ မတွေ့ရဘဲ ချီတက်လာနိုင်ခဲ့၏။ သို့သော် ရှေ့ဆုံးမှချီတက်နေသော တင့်ကားမှာ ရေလွှတ်မြောင်းတစ်ခုထဲသို့ ထိုးကျပြီး ဗွက်နစ်နေသဖြင့် နောက်မှ တင့်ကားများ မတက်နိုင်ဘဲ ကြန့်ကြာနေရတော့သည်။

ဗိုလ်ချုပ်နှင့် ကျွန်တော်တို့သည် ဗွက်နစ်နေသော တင့်ကားရှိရာသို့ ပြေးသွားကြရ၏။ ဗိုလ်ချုပ်က ၃ တန်ထရပ်ကား သုံးစီးကို ဗွက်နစ်နေသော တင့်ကားအား ဆွဲထုတ်စေခိုင်းသည်။ တင့်ကားမှာ ဆွဲ၍မရဘဲ ဗွက်ထဲတွင် နစ်သည်ထက် နစ်လာတော့၏။

ဗိုလ်ချုပ်သည် ထရပ်ကားများကို ဖယ်ခိုင်းလိုက်ပြီး ဗွက်နစ်နေသော တင့်ကားကို နင်း၍ အခြားတင့်ကားများအား ဆက်လက် ချီတက်ခိုင်းသည်။ ဗိုလ်မှူးအဆင့်အတန်းရှိသော တင့်ကားတပ်မှ အင်ဂျင်နီယာမှာ ဤကဲ့သို့ အခက်အခဲမျိုးနှင့်ကြုံလျှင် မည်သို့အခက်အခဲကို ကျော်လွှားမည်ဟု စောစောက စဉ်းစားမထားသည့်အတွက် ဗိုလ်ချုပ်၏ ရက်ရက်စက်စက် ပြောဆိုခြင်းကို ခံရတော့၏။ ဗိုလ်ချုပ်က အပြစ်တင်လိုက်တိုင်း အပြစ်တင်ခံရသူတွင် အသားတစ်ဖဲ့စီ ပဲ့၍ ပဲ့၍ပါသွားမည်ဆိုလျှင် ထိုအင်ဂျင်နီယာ၌ အသားပင် ကျန်နေတော့မည် မဟုတ်ပေ။

နံနက် ၉ နာရီလောက် ရောက်လာသောအခါ တိုက်ပွဲအခြေအနေမှာ စောစောက စီစဉ်ထားသည့်အတိုင်း ဖြစ်လာသည်ကို တွေ့ရသည်။

ရန်သူသည် လက်ဝဲဘက်မှ ချီတက်လာသော တပ်မဟာကိုသာ ပင်မ စစ်ကြောင်းကြီးဟု ယူဆပြီး သဲသဲမဲမဲ တိုက်ခိုက်နေသည်။

ကျွန်တော်တို့အား ရန်သူက အလုံးအရင်းဖြင့် တန်ပြန်တိုက်ခိုက်ရန် အချိန်ရတော့မည် မဟုတ်ဟု ဗိုလ်ချုပ်ရီးစ်က တွက်ထား၏။

လက်ယာဘက်မှ ချီတက်နေသော တပ်မဟာသည် ရန်သူ၏ ဂရုတစိုက် တွန်းလှန်တိုက်ခိုက်ခြင်းကို မခံရဘဲ မှန်မှန်လေးပင် ချီတက်နေနိုင်သည်။ ကျုံ့တပ်များက မန္တလေးသို့ တိုက်ရိုက်ရှေးရှုနေသောလမ်းအတိုင်း အပြင်း ချီနေကြ၏။

လှည်းလမ်းအတိုင်း ချီတက်လာခဲ့သော ကျွန်တော့်တပ်သည် ရန်သူ အုပ်စုကလေးများကိုသာ တွေ့နေရ၏။ တင့်ကားများက မီးလောင်နေသော ရွာများကို ဖြတ်၍ ချီတက်နေကြသည်။ လယ်တဲများတွင် ကျွန်တော်တို့ တက်အလာကို ဆီးကြိုပစ်ခတ်နေသော ရန်သူများအား ကျွန်တော်တို့ တင့်ကားများက မှန်ယိုနေသောဆင် လိုက်၍အတင်းနင်းချေသလို ရန်သူအုပ်စု ကလေးများကို နောက်မှ အတင်းလိုက်၍ ချေမှုန်းနေတော့၏။

ရန်သူ့အမြောက်စခန်းကလေးတစ်ခုကို ကျွန်တော်တို့ ခြေလျင်တပ်များက အစဖျောက်ပစ်လိုက်ကြ၏။

စစ်သည်တော်များမှ ဖုန်များ, ပြာများဖြင့် လူရုပ်ပင်မပေါ်ကြတော့။

ချီတက်ရာလမ်းကြောင်းပိတ်ဆို့နေသည့်အခါများတွင် တောင်ပေါ်ပစ် အမြောက်များကို သယ်ယူလာသည့်ယာဉ်များ၊ လားများသည် လယ်ကွင်းများ၊ ယာခင်းများကို ဖြတ်၍ ဖုန်တထောင်းထောင်းဖြင့် ချီတက်နေကြလေသည်။ ရန်သူသည် လှည်းလမ်းကြောင်းဘေးမှလည်းကောင်း၊ လယ်ကွင်းထဲမှလည်း ကောင်း ကျွန်တော်တို့ကို လာရောက်ပစ်ခတ်ကြ၏။ သို့သော် လူနည်းစုမျှသာ။

အချို့သော ဂျပန်စစ်သားများသည် မိမိတို့ကိုယ်တွင် လက်ပစ်ဗုံးများ ချည်နှောင်ကာ ချီတက်လာသော ကျွန်တော်တို့ တင့်ကားများအောက်သို့ ဝမ်းလျားမှောက်ထိုး၍ ဝင်ကြသည်ကို တွေ့ရသည်။ တင့်ကားဖျက် မနုဿ လက်နက်ဆန်းများပါတကား...။

မန္တလေးသို့ချီတက်ရာလမ်းကြောင်းတစ်ခုလုံးမှာ ဖုန်များ၊ မီးခိုးများဖြင့် ညစ်ထေးမည်းမှောင်လျက်ရှိသည်။ လမ်းဘေးတစ်လျှောက်ရှိ ရွာများတွင် မီးတောက်မီးလျှံများ တရှိန်ရှိန်တက်နေသည်မှာလည်း ကြောက်စရာပင် ကောင်းနေလေသည်။

ရန်သူသည် ရွာတိုင်းကို တပ်စွဲ၍ ကျွန်တော်တို့၏ ချီတက်မှုကို တားဆီးနေသည်ဖြစ်ရာ ရွာတိုင်းသည် မီးလောင်မြေဘဝသို့ ကျဆင်းကြရတော့၏။

နည်းပါးသော ခုခံမှုကို ထိုးဖောက်၍ ချီတက်လာခဲ့ရသော ကျွန်တော်တို့ စစ်ကြောင်းက ရှေ့သို့ ပို၍ရောက်လာသည်နှင့်အမျှ လက်ဝဲဘက်မှ စွယ်ယောင်ပြကာ ချီတက်လာသော ဂစ်ကြောင်းက ရန်သူတို့၏ သဲသဲမဲမဲတိုက်ခိုက်မှုကြောင့် နောက်တွင် တစ်မျှော်တစ်ခေါ်ကြီး ကျန်နေရစ်ခဲ့ရသည်။

ဤအချိန်တွင်မှ ရန်သူသည် မိမိအမှားကို မိမိသိခဲ့၏။ သို့သော် နောက်ကျခဲ့ပေပြီ။

ဤအချိန်တွင်မှ လက်ဝဲဘက်မှ ချီတက်နေသော စစ်ကြောင်းသည် ရန်သူ၏ ခုခံမှုအင်အား တဖြည်းဖြည်းလျော့ပါးလာသည်ကို သတိပြုမိလာ၏။

သို့သော် လက်ဝဲကြောင်းချီ တပ်မဟာမှာလည်း ရန်သူတို့၏ ခုခံတိုက်ခိုက်မှုကြောင့် ဝါးအစည်းပြေသလို ပြေနေခဲ့ရပြီဖြစ်သည်။ ဤတပ်မဟာသည် ၃ ရက်နှင့် ၃ ညတိုင်တိုင် အင်အားကြီးမားလှသော ရန်သူများကို ဆက်တိုက်တိုက်၍နေခဲ့ရ၏။ ထိုကြောင့်လည်း လက်ယာကြောင်းမှ ချီလာသော ကျွန်တော်တို့ စစ်ကြောင်းသည် ရန်သူခုခံမှုနည်းပါးစွာဖြင့် မတ္တရာဘက်သို့ပင် ချဉ်းကပ်လာနိုင်ခဲ့ကြပြီဖြစ်၏။

လက်ဝဲကြောင်းချီ တပ်မဟာမှ တပ်မှူးသည် ကျွန်တော်တို့ရှိရာ တပ်မဟာဌာနချုပ်သို့ ကြိုးမဲ့ကြေးနန်းဖြင့် လှမ်း၍သတင်းပို့နေသည်။

ဗိုလ်ချုပ်ပီတီရီးစ်က စကားပြောခွက်တစ်ခုကို ကိုင်၍ နားထောင်နေစဉ် ကျွန်တော်ကလည်း အခြားစကားပြောခွက်တစ်ခုကို ကောက်၍ကိုင်လိုက်၏။

လက်ဝဲကြောင်းချီတပ်မှ တပ်မဟာမှူးသည် ဗိုလ်ချုပ်ထံသို့ သူရောက်ရှိနေသော နေရာကို အစီရင်ခံလိုက်ပြီးနောက် သူ၏တပ်များသည် ယခုအချိန်၌ ရန်သူ့တပ်များနှင့် တွေ့ဆုံခြင်းမရှိတော့သည့်အတွက် ယနေ့ညတွင် သူ့တပ်သည် အိပ်စက်နားနေတော့မည်ဖြစ်ကြောင်း။ နောက်တစ်နေ့နံနက် အရုဏ်တက်လာသည်နှင့်တစ်ပြိုင်နက် ထပ်၍ထပ်၍ ချီတက်မည်ဖြစ်ကြောင်း သတင်းပို့သည်။

''မောင်ရင့်စစ်ကြောင်းက အင်မတန်အံ့ဩစရာကောင်းတဲ့အလုပ်တွေကို လုပ်ပြသွားတာ ချီးမွမ်းစရာပါပဲ။ ကျုပ် တကယ်ပဲချီးမွမ်းတယ်၊ ချက်ချင်းဆက်ပြီး ချီတက်''

ဗိုလ်ချုပ်၏စကား ဆုံးသွားသောအခါ တစ်ဖက်မှ တပ်မဟာမှူး၏

အသံက ပေါ်ထွက်လာပြန်သည်။

''ရဲဘော်တွေအားလုံး ခြေကုန်လက်ပန်း ဖြစ်နေကြပြီ၊ ရှိသမျှ မော်တော်ကားတွေကလည်း တစ်ဝက်ကျော်ပြင်ဖို့လိုနေပြီ။ မနက် အရုဏ်တက်လျှင် တက်ချင်း ကျွန်တော်တို့ ဆက်ပြီးတိုက်ပါ့မယ် ဗိုလ်ချုပ်''

ဗိုလ်ချုပ်ပီတီရီးစ်အသံမှာ ဖြည်းဖြည်းနှင့် မှန်မှန် ပေါ်ထွက်လာပြန်သည်။

''သုံးရက်နဲ့ သုံးညလုံးလုံး တစ်ဆက်တည်း ချီတက်တိုက်ခိုက်ခဲ့တာကို ကျုပ် ချီးကျူးပါတယ်။ ဒါပေမယ့် ခုချိန်ကစပြီး ဆက်လက်ချီတက်ပါ''

ကြိုးမဲ့ကြေးနန်းတစ်ဖက်ရှိ တပ်မဟာမှူး၏အသံမှာ စိုးရိမ်သောကသံဝင်နေ၏။ သူက အစီရင်ခံခဲ့လေသမျှကို ဗိုလ်ချုပ်သည် နားမလည်လေဟန်ဖြင့် ချက်ချင်းဆက်၍ ချီတက်တိုက်ခိုက်ရန်သာ ထပ်ကာထပ်ကာ တိုက်တွန်းနေလေသည်တကား။

တစ်ဖက်မှ တပ်မဟာမှူး၏ စကားသံ ထွက်မလာမီပင် ဗိုလ်ချုပ်ရီးစ်က အသံခပ်မာမာဖြင့် အမိန့်ပေးလိုက်၏။

'ကျုပ် အမိန့်ပေးလိုတယ်၊ ခုချက်ချင်း ဆက်ပြီး ချီတက်တိုက်ခိုက်ပါ။ ဒီည ဘယ်မှာမှ စခန်းမချနဲ့၊ မအိပ်နဲ့၊ မနားနဲ့။ ဒီညတစ်ညနားရင် မန္တလေးတိုက်ပွဲဟာ နောက်ထပ် ခုနစ်ညလောက် ပိုပြီးကြာသွားလိမ့်မယ်။ ဆက်တက်ပါပဲ''

ကြိုးမဲ့ကြေးနန်းစက်က တဒီဒီမြည်နေရာမှ ရပ်သွားသည်။ ကျွန်တော်သည် နားမှ စကားပြောခွက်ကို ဖြုတ်ပြီး ဗိုလ်ချုပ်၏မျက်နှာကို ငုံ့စောင်း၍ ကြည့်လိုက်မိ၏။

ဗိုလ်ချုပ်သည် ပင်ပန်းနွမ်းနယ်လာသည့်အသွင်ကို ဆောင်လေသည်။

လက်ယာကြောင်းမှ ချီတက်လာသော ကျွန်တော်တို့တပ်သည် မတ္တရာကို ကျော်လာနိုင်ခဲ့ပြီဖြစ်၏။ မန္တလေးသို့ရောက်ရန် ခရီးတစ်ဝက်မျှသာ လိုတော့သည်။

ထိုနေ့ညတွင် အချက်ပြဆက်သွယ်ရေးတပ်မှ ဆက်သားတစ်ယောက် ရောက်လာပြီး တပ်မကြီးဌာနချုပ်မှ ပေးလိုက်သော သတင်းတစ်ခုကို ကျွန်တော့်ထံသို့ လာရောက်ပေးပို့သည်။

ကျွန်တော်သည် ရောက်ရှိလာသော သတင်းကို ငုံ့စောင်း၍ဖတ်လိုက်ပြီး စစ်မြေပုံကို လှမ်း၍ကြည့်လိုက်မိသည်။ ပြီးနောက် ပါးစပ်မှ ရေရွတ်ကျိန်ဆဲလိုက်မိ၏။

ကျွန်တော်သည် ဗိုလ်ချုပ်ရှိရာ တဲအတွင်းသို့ ဝင်သွားပြီးနောက် ရောက်ရှိလာသော ကြိုးမဲ့ကြေးနန်းစာကို လှမ်းပေးလိုက်သည်။

တပ်မကြီးဌာနချုပ်မှ ရောက်ရှိလာသော အမိန့်မှာ ရန်သူက ရွှေဘိုကို တန်ပြန်တိုက်ခိုက်မည့် အန္တရာယ်ရှိနေသောကြောင့် မန္တလေးသို့ ချီတက်တိုက်ခိုက်နေသော တပ်မ ၃ ခုသည် တပ်မရွှေဘိုနှင့် မိုင်နှစ်ဆယ်ထက် ပို၍ ချီတက်ခြင်းမပြုရန် ဟူသော အမိန့်ပင်တည်း။

''မဖြစ်နိုင်တဲ့အမိန့်ပဲဗျာ...''ဟု ဗိုလ်ချုပ်ရီးစ်က ညည်းညည်းညူညူ ပြောလိုက်၏။

ကျွန်တော်သည် ဗိုလ်ချုပ်နှင့် ထပ်တူထပ်မျှပင် သဘောကိုက်ညီလျက် ရှိသည်။

ရွှေဘိုသည် ဧရာဝတီမြစ်ကမ်း အနောက်ဘက်တွင် ရှိနေရုံမျှမက မြစ်ကမ်းပါးနှင့်လည်း မိုင် ၂၀ ခန့် ကွာနေသည်။ တပ်မကြီးမှ ရောက်လာသော အမိန့်ကို နာခံမည်ဆိုလျှင် ကျွန်တော်တို့သည် မန္တလေးသို့ ရောက်လုနီးနေပြီဖြစ်သော တပ်မမှာ တပ်မတစ်ခုလျှင် တပ်မဟာတစ်ခုကျစီကို ထုတ်နုတ်၍ ဧရာဝတီတစ်ဖက်ကမ်းသို့ ပို့ရတော့မည် ဖြစ်နေသည်။

မန္တလေးတိုက်ပွဲကြီးမှာ အလွန်အရေးကြီးသော တိုက်ပွဲကြီးတစ်ခုဖြစ်ရာ အဘယ်မှာလျှင် မိမိတွင်ရှိသော အင်အားအနက် တပ်မဟာတစ်ခုကို ဖဲ့၍ ရွှေဘိုသို့ ပြန်လည်ပေးပို့နိုင်ပါမည်နည်း။

ရွှေဘိုသည် တပ်မကြီး၏ ဌာနချုပ်မှ ပုဂ္ဂိုလ်များ စိုးရိမ်သလို ရန်သူက တန်ပြန်တိုက်ခိုက်နိုင်သည့် အန္တရာယ်ရှိနေသည်မှာ မှန်သည်။ မန္တလေးသို့ ချီတက်နေသော တပ်မသုံးခုအား ရိက္ခာနှင့် ခဲယမ်းများ ကောင်းစွာဆင်းသက်နိုင်သည့် လေယာဉ်ပြေးလမ်းကြောင်းတစ်ခု ရှိနေလေသည်။

''ရွှေဘိုကို အကောင်းဆုံးကာကွယ်ဖို့နည်းကတော့ ကျုပ်တို့ တပ်မသုံးခုက မန္တလေးကို မြန်နိုင်သမျှမြန်အောင် တိုက်ခိုက်သိမ်းပိုက်ဖို့ပဲ...။ ကျုပ်တို့က မန္တလေးနဲ့ နီးလာလေ ရန်သူက ရွှေဘိုကို ကာကွယ်ရမှန်း သတိမေ့လေလေ ဖြစ်မှာပဲ''ဟု ဗိုလ်ချုပ်ရီးစ်က မှတ်ချက်ချလိုက်၏။ သူ့မှတ်ချက်ကို ကျွန်တော်က လုံးဝထောက်ခံလိုက်သည်။

''ဘာပဲဖြစ်ဖြစ် အရှိန်ရနေတဲ့ မန္တလေးတိုက်ပွဲကိုတော့ အပျက်မခံနိုင်ဘူး။ နက်ဖြန်ကျရင် ကျုပ်ကိုယ်တိုင် တပ်မကြီးဌာနချုပ်ကို သွားပြီး ဒီအမိန့်ကို ပယ်ဖျက်ဖို့ပြောမယ်''

တပ်မကြီးဌာနချုပ်မှာ ရွှေဘိုတွင် ရှိနေလေသည်။

ရွှေဘိုသို့သွားမည်ဆိုလျှင် ဗိုလ်ချုပ်သည် ယခု ကျွန်တော်တို့ ရောက်ရှိနေသော နေရာမှ အနီးဆုံးလေယာဉ်ကွင်းသို့ ရောက်လာအောင် မိုင် ၂၀ ခန့် ဂျစ်ကားစီး၍သွားရမည်ဖြစ်၏။ ထို့နောက် အပေါ့စားလေယာဉ်ကလေးဖြင့် ရွှေဘိုသို့ ခရီးဆက်ရမည်ဖြစ်သည်။ အသွားအပြန်ဆိုလျှင် ဗိုလ်ချုပ်ရီးစ်သည် သူကိုယ်တိုင် ကွပ်ကဲအုပ်ချုပ်နေရသော အမှတ်(၁၉) တပ်မမှာ ခြောက်နာရီတိုင်တိုင် ကင်းကွာနေရမည်ဖြစ်၏။ တပ်မတစ်ခုကို ကွပ်ကဲအုပ်ချုပ်နေသော တပ်မှူးကြီးတစ်ယောက်သည် မန္တလေးကဲ့သို့သော ကြီးကျယ်သည့်တိုက်ပွဲမျိုးကို ရင်ဆိုင်နေရသည့်အချိန်၌ အဘယ်မှာလျှင် မိမိတပ်မနှင့် ခြောက်နာရီကြာအောင် ကင်းကွာ၍နေနိုင်ပါမည်နည်း။

ဗိုလ်ချုပ် ရွှေဘိုကိုသွားနေတဲ့အချိန်မှာ တပ်မဟာတစ်ခုခုက တပ်မှူးတစ်ယောက် ''ဗိုလ်ချုပ်ကိုယ်စား တာဝန်ယူနေမှ ဖြစ်မှာပဲ''ဟု ကျွန်တော်က အဆိုပြုလိုက်သည်။ ဗိုလ်ချုပ်သည် ချိုသာသောအပြုံးကို တစ်ချက်မျှ ပြုံးလိုက်ပြီး...

''ဘယ်တပ်မဟာမှူးမှ မလိုပါဘူးကိုရင်၊ တပ်မဟာမှူးတွေအားလုံး ကိုယ့်တာဝန်နဲ့ကိုယ် တစ်ချက်မှ မအားနိုင်အောင် ဖြစ်နေကြတယ်။ ကိုရင်ပဲ ကျုပ်မရှိတဲ့အချိန်မှာ တာဝန်ယူရမှာပဲ။ တကယ်လို့ အခက်အခဲတွေ့ရင်လည်း ရေဒီယိုကနေပြီး ကျုပ်ဆီကို အကြံတောင်းနိုင်သားပဲမဟုတ်လား...''ဟု ဗိုလ်ချုပ်က ပြောလိုက်၏။

ကျွန်တော်က တိတ်ဆိတ်စွာပင် ငြိမ်၍နေလိုက်၏။ သဘောတူခြင်း၏ အမှတ်အသားပင်တည်း။

နောက်တစ်နေ့နံနက်တွင် ဂျစ်ကားဖြင့် ဗိုလ်ချုပ်ထွက်ခွာသွားပြီးနောက် ကျွန်တော်သည် သက်ပြင်းတစ်ချက်ကို လေးလေးကြီးပင် ချလိုက်မိ၏။ ကျွန်တော်သည် ဗိုလ်ချုပ်မရှိသည့် ၆· နာရီအတွင်း အမှတ်(၁၉) တပ်မ၏ တပ်မှူးကြီးအဖြစ် ဆောင်ရွက်ရပေတော့မည်။

ကျွန်တော်သည် စစ်ဆင်ရေးဌာနချုပ်ကို တပ်ဦးသို့ ခေါ်ယူလိုက်၏။

သက်ဆိုင်ရာတပ်မှူးများသည် တပ်မှူးကြီး၏ အမိန့်မဟုတ်ဘဲ ဦးစီး ၁ ၏ အမိန့်ကို နာခံရသောအခါ နာခံလိုစိတ် မရှိကြသည်ကို ကျွန်တော်ကိုယ်တိုင် တပ်မှူးတစ်ယောက် ဖြစ်ခဲ့ဖူး၍ အတွင်းသိဖြစ်နေ၏။ အကယ်၍ တပ်မဟာတစ်ခုကို ကြီးမှူးနေရသော တပ်မှူးတစ်ယောက်က ကျွန်တော်ပေး

သောအမိန့်ကို မလိုက်နာခဲ့သော်...

ကျွန်တော်သည် ကျွန်တော် လက်ခံထားရသော တာဝန်ကို ကြောက်၍ လာမိတော့၏။ သို့သော် ဗိုလ်ချုပ်ရှေ့တွင်ပင် လက်ခံလိုက်မိပြီဖြစ်သောကြောင့် မည်သို့သောအခြေအနေသို့ရောက်ရောက် ကျွန်တော့်တာဝန်ကို ဆက်လက် ထမ်းဆောင်ရမည်သာ ဖြစ်လေသည်။

ဗိုလ်ချုပ်မရှိသည့် ၆ နာရီမှာ ကျွန်တော်၏ စစ်မှုထမ်းတစ်လျှောက်လုံး တွင် အခက်အခဲဆုံး၊ ဝမ်းအသာဆုံး၊ သောကအများဆုံး၊ ပီတိအဖြစ်ဆုံး ၆ နာရီပင် ဖြစ်တော့၏။

ဤကဲ့သို့ တစ်သက်တာတွင် မေ့မရနိုင်သော ၆ နာရီအတွင်း၌ တပ်ဦးချို တပ်မဟာမှ တပ်မှူးက မည်သည့်နေရာတွင် ဆက်လက်ချီတက်နိုင်ရန် အခက်အခဲတွေ့ရသည်ဟု လာရောက်သတင်းပို့နေသည်။ အမြောက်တပ်မှ တပ်မှူးကလည်း ကျွန်တော့်ထံ ၂ ကြိမ်တိုင်တိုင် လာရောက်၍ မည်သို့အခက် အခဲတွေ့ရသည်ကို တင်ပြလာသည်။ ကျွန်တော်သည် ရှေ့တိုသို့ ရောက်ရှိနေ သော ဗိုလ်ချုပ်ထံ ကြိုးမဲ့ကြေးနန်းဖြင့် အကြံတောင်းမည်ဟု အကြိမ်ကြိမ် အခါခါပင် စိတ်ကူးမိသည်။

သို့သော် ၆ နာရီလောက်မျှသောအချိန်ကာလကို ကျွန်တော်လို စစ်ဦးစီး သင်တန်းတက်ဖူးသူတစ်ယောက်နှင့် ခြင်းခစ်စစ်ကြောင်းတွင် ကိုယ်ထိ လက်ရောက် တပ်မဟာမှူးတစ်ယောက်အဖြစ် ပါဝင်ခဲ့သူတစ်ဦးက ကွပ်ကဲ ထိန်းသိမ်းခြင်းမရှိဟုဆိုလျှင် ကျွန်တော့်သည် ညံ့ရာကျပေတော့မည်။

ကျွန်တော်သည် ဗိုလ်ချုပ်ရီးစ်နှင့် နီးနီးကပ်ကပ်နေဖူးရုံမက စစ်သေနင် ဗျူဟာနှင့် ပတ်သက်၍ သူ့အယူအဆကိုလည်း နားလည်နေခဲ့သူဖြစ်ရာ မျက်မှောက်ပြုလာရသော အခက်အခဲမှန်သမျှကို ကျွန်တော့်ကိုယ်ပိုင် အတွေး အခေါ် ကျွန်တော့်ကိုယ်ပိုင်ဆုံးဖြတ်ချက်ဖြင့် ဖြေခဲ့သည်။

ညနေဘက်တွင် ဗိုလ်ချုပ်ပီတီရီးစ်သည် ရှေ့ဘိုမှ ကျွန်တော်တို့ထံသို့ ပြန်ရောက်လာသည်။ သူ့မျက်နှာကို အကဲခတ်ရခြင်းအားဖြင့် တပ်မကြီး ဌာနချုပ်တွင် သူသည် အောင်ပွဲရခဲ့ပြီဖြစ်ကြောင်း ထင်ရှားနေတော့၏။

စစ်ဆိုတာဟာ စိတ်ရှုပ်စရာကောင်းလောက်အောင် ကြမ်းတမ်းလို့ပဲ၊ ဒီလိုမှမဟုတ်ရင်လည်း လူတိုင်းက စစ်ကို မိန်းကလေးတစ်ယောက်လို ချစ်နေရမှာပဲ''ဟု ဗိုလ်ချုပ်က ခရီးရောက်မဆိုက် မှတ်ချက်ချလိုက်၏။

အမှတ်(၁၉) တပ်မတွင် အရာရှိပေါင်း ၁၀၀၀၀ ခန့်နှင့် စစ်သားပေါင်း

၁၄၀၀၀ ရှိပြီး အမြောက်အလက်ပေါင်း ၁၈၀ ရှိသည်။ ထို့ပြင် တင့်ကားများ၊ ထရပ်ကားများ၊ စိန်ပြောင်းများ၊ ရိုင်ဖယ်သေနတ်များနှင့် စက်သေနတ်ကိရိယာ အများအပြားရှိနေသည်။

ဤမျှ များပြားသော လူနှင့် လက်နက်များကို လက်ထဲတွင် ကိုင်ထားသော ဓားတစ်ချောင်းကဲ့သို့ ကိုယ်လိုသည့်အချိန်တွင် ခုတ်နိုင် ထစ်နိုင် ပိုင်းနိုင်အောင် စွမ်းဆောင်နိုင်မည့်အရေးမှု လွယ်ကူလှသည်မဟုတ်။

ဗိုလ်ချုပ်သည် ထိုသို့မလွယ်ကူသော လက်နက်နှင့် လူသူများကို ဓားရှည်တစ်ချောင်းကဲ့သို့ လွယ်ကူစွာ ကိုင်တွယ်နိုင်ခဲ့၏။ ပိုင်းဖြတ်ခဲ့၏။ ဗိုလ်ချုပ်မရှိသည့် ၆ နာရီအတောအတွင်းတွင် ဗိုလ်ချုပ်ကိုင်ခဲ့သောဓားကို ကျွန်တော်သည် ပိရိပိုင်နိုင်စွာ ကိုင်ဆောင်၍ အသုံးချနိုင်ခဲ့ပြီဖြစ်၏။ ယခု ထိုဓားကို ဗိုလ်ချုပ်လက်သို့ ပြန်၍ ကျွန်တော်အပ်သည်။ ဗိုလ်ချုပ်လည်း ဂုဏ်ယူသော အသွင်အပြင်ဖြင့် ကျွန်တော့်လက်မှ ဓားကို လက်ခံသည်။

ကျွန်တော်နှင့် ဗိုလ်ချုပ်ပီတီရီးစ်တို့၏ ဆက်ဆံရေးမှာ စိတ်ဓာတ်ရောစစ်ဆင်မှုပါ တစ်သွေးတည်း တစ်သားတည်း ဖြစ်နေပေသည်။

ကျွန်တော်တို့စစ်ကြောင်းသည် ပြင်ဦးလွင်မြို့နှင့် မိုင် ၄၀ အကွာသို့ ချီတက်လာနိုင်ခဲ့ကြ၏။ မန္တလေးသည် ကျွန်တော်တို့နှင့် လက်တစ်ကမ်းသာ ကွာနေလေတော့သည်။

သို့သော် မန္တလေးတောင်ကို ခံတပ်အဖြစ် နေရာယူထားသော ဂျပန်တို့သည် ကျွန်တော်တို့တပ်များ ချီတက်လာရာလမ်းတစ်လျှောက်ကို အမြောက်စိန်ပြောင်းများဖြင့် မိုးသီးမိုးပေါက်ပမာ ပစ်ခတ်တိုက်ခိုက်နေကြဆဲပင်ဖြစ်၏။

မန္တလေးတောင်သည် မန္တလေးလွင်ပြင်မှနေ၍ ကြည့်လျှင် ပေ ၁၀၀၀ ခန့် မြင့်နေလေသည်။ တောင်တစ်ခုလုံးတွင်လည်း ဘုရားစေတီ တန်ဆောင်းများဖြင့် ပြည့်နှက်လျက်ရှိသည်။ တန်ဆောင်းများအောက်တွင် ဘုရားလိုဏ်ဂူများ အသီးသီးရှိနေ၏။ ထိုလိုဏ်ဂူများကို အမှီပြုကာ ဂျပန်များသည် ကျွန်တော်တို့အား အကြီးအကျယ် ဒုက္ခပေးလျက် ရှိနေလေသည်။

မန္တလေးကို သိမ်းပိုက်ရန် ချီတက်လာသော ကျွန်တော်တို့၏ တပ်ဦးသည် မန္တလေးတောင်ပေါ်မှ ပစ်ခတ်နေသော ရန်သူ့အမြောက်ဆန်များကြောင့် မန္တလေးမြို့တွင်းသို့ မဝင်နိုင်ဘဲ ဖြစ်နေလေသည်။

ဗိုလ်ချုပ်ရီးစ်နှင့် ကျွန်တော်တို့သည် မန္တလေးတောင် အနောက်ဘက်ခြမ်းရှိ တောင်စွယ်များအောက်တွင် နစ်ရက်တိုင်တိုင် ပုန်းခို၍နေခဲ့ကြရင်း

ကျွန်တော်တို့တပ်များ၏ ချီတက်ရေးအစီအစဉ်ကို စီမံစိုင်းပြင်းခဲ့ကြရသည်။

မန္တလေးတောင်ခြေအောက်သို့ ရောက်နေပြီးမှ မန္တလေးမြို့ကို မသိမ်းနိုင်ဟု ဆိုခြင်းမှာ ကမ္ဘာ့အလယ်တွင် ရယ်ဖွယ်လိလိ ဖြစ်နေတော့၏။ ရွှေတောင်ကြီးသို့မရောက်တောင်းရောက်ပါလျက် ရွှေစင်များကို ကောက်ယူခြင်းမရှိဘဲ ခဲတံပြာကိုသာ ကောက်ယူခဲ့သော သူရူး, သူမိုက်နှင့် တူနေပေရော့မည်။

ဂျပန်များသည် မန္တလေးတောင်ပေါ်တွင် အမြောက်တပ်ကို စွဲထားပြီး မန္တလေးမြို့တွင်းသို့ဝင်ရောက်ရန် ကြိုးစားနေသည့် ကျွန်တော့်တို့မော်တော်ကားတပ်များကို ၁၀၅ နှင့် ၁၅၅ မီလီမီတာ အမြောက်ကြီးများဖြင့် လှမ်း၍ထုနေလေတော့သည်။

ကျွန်တော်နှင့် ဗိုလ်ချုပ်ပီတီရီးစ်တို့သည် ဂျစ်ကားတစ်စင်းဖြင့် မန္တလေးမြို့တွင်းသို့ ပထမဆုံး ဝင်ရောက်ရန် ကြိုးစားခဲ့ကြ၏။

ရန်သူ့ဘက်မှ ပစ်ခတ်လိုက်သော အမြောက်ကျည်ဆန်တစ်ခုသည် ကျွန်တော်တို့စီးလာသော ဂျစ်ကားနှင့် ပေ ၂၀ ခန့်အကွာ၌ ကျရောက်ပေါက်ကွဲသွားလေသည်။

ကျွန်တော်တို့သည် ကားပေါ်မှ ဆင်းကာ ပြားပြားဝပ်နေကြပြီးနောက် အမြောက်သံ စဲသွားသည်နှင့်တစ်ပြိုင်နက် တောင်မြောက်လေးပါးကို လှည့်၍ ကြည့်လိုက်မိကြ၏။

ကျွန်တော်တို့ရှေ့မှ စစ်သားအပြည့်တင်ဆောင်လာသော ထရပ်ကား ၃ စင်းသည် မီးတဟုန်းဟုန်း တောက်နေလေသည်။

တစ်ဒါဇင်ခန့်မျှရှိသော ရန်သူအမြောက်ဆန်များသည် မန္တလေးတောင်ခြေမှ မန္တလေးမြို့တွင်းသို့ ဝင်လာသော ကျွန်တော်တို့ ဂျစ်ကားပတ်ဝန်းကျင်တွင် ဆက်ကာဆက်ကာ ကျရောက်ပေါက်ကွဲခဲ့၏။

သို့သော် ကျွန်တော်တို့ကား တစ်စုံတစ်ရာ ထိခိုက်ဒဏ်ရာရခြင်း မရှိခဲ့။

ယခုအချိန်၌ မန္တလေးသိမ်းပွဲသည် မန္တလေးတောင်သိမ်းပွဲ ဖြစ်လာတော့၏။

ဗိုလ်ချုပ်ဖြစ်သူ ပီတီရီးစ်သည် မန္တလေးတောင်ကို တိုက်ခိုက်သိမ်းပိုက်ရန်အတွက် အမှတ်(၉၈)တပ်မဟာကို တာဝန်ပေးလိုက်သည်။

သို့သော် အမှတ်(၄) ဂေါ်ရခါးတပ်ရင်းမှ တပ်မှူးဖြစ်သူ ဟာမစ်မက္ကေကယူသည် ၁၉၃၇ ခုနှစ်မှ ၁၉၄၂ ခုနှစ်အထိ ဘားမားရိုက်ဖယ်တပ်တွင် အမှုထမ်းခဲ့ပြီး မန္တလေးမြို့နှင့် မန္တလေးတောင်အကြောင်းကို အပ်ကျသည်

မှစ၍ သိရှိသူဖြစ်သောကြောင့် သူ့အား သူ၏တပ်ရင်းနှင့် မန္တလေးတောင်ကို တိုက်ခိုက်သိမ်းယူခွင့် ပေးပါဟု တောင်းဆိုလာသည်။

မတ်လ ၁၀ ရက်နေ့ညတွင် ဟာမစ်စကွေခေါင်းဆောင်သော အမှတ် ၄ တပ်ရင်းသည် မန္တလေးတောင်ကို သိမ်းယူရန် ချီတက်နေလေသည်။

မန္တလေးတောင်သည် အမြင့်အားဖြင့် မတ်စောက်သလို ခရီးအားဖြင့် ရှည်လျားလှသည်။ စောင်းတန်းတစ်ဖက်တစ်ချက်မှနေ၍ ချီတက်သွားသော ဂေါ်ရခါးတပ်များကို ဦးဆောင်သူမှာ ဆူဘေဒါမေဆင်းနှင့် ဂျမေဒါဘေမင်တို့ ဖြစ်ကြ၏။

ရန်သူသည် မတ်စောက်သော တောင်တက်လမ်းများမှနေ၍ တက်လာသော ဂေါ်ရခါးတပ်များကို မီးကုန် ယမ်းကုန် ခုခံနေကြ၏။

သို့သော် မတ်လ ၁၁ ရက်နေ့ အရုဏ်တက်လာသည့် အချိန်တွင် အမှတ်(၄) ဂေါ်ရခါးတပ်ရင်းက မန္တလေးတောင်ကို တိုက်ခိုက်သိမ်းယူနိုင်တော့၏။

တစ်နာရီခန့်အကြာတွင် ဗိုလ်ချုပ်ပီတီဒီးစ်နှင့် ကျွန်တော်တို့သည် မန္တလေးတောင်ထိပ်၌ မတ်တတ်ရပ်ကာ မန္တလေးမြို့ကြီး တစ်မြို့လုံးကို မှန်ပြောင်းများဖြင့် ကြည့်နေနိုင်သည့်အဖြစ်သို့ ရောက်လာရတော့သည်။

ရှေးမြန်မာမင်းတို့၏ နေပြည်တော်ကြီးဖြစ်ခဲ့သော ရတနာပုံဟူ၍လည်း ခေါ်သော မန္တလေးကို ကျွန်တော်တို့ အမှတ်(၁၉) တပ်မသည် အောင်မြင်စွာ တိုက်ခိုက်သိမ်းယူနိုင်ခဲ့လေပြီတကား။ ။

တက္ကသိုလ်နန္ဒမိတ်
၂၃-၉-၆၅